## စာစုမိတ်ဆက် ကောက်နုတ်ချက်များ

### အထက်တန်းစားဗုဒ္ဓဘာသာဝင်

လူသားသည် မိမိစိုက်ပျိုးသော အပင်ကို မိမိပင် ရိတ်သိမ်းရပေသည်။ အဆိပ်ပင် စိုက်ပျိုးထားပါလျက် ဂါထာ၊ မန္တန်၊ လက်ဖွဲ့၊ ယတြာအားကိုးဖြင့် သြဇာပင် ရိတ်သိမ်းချင်၍ မရပေ။ ကမ္မနိယာမမြစ်ကြောင်းအတိုင်းသာ ဘဝစီးကြောင်း ရေအလျဉ်သည် စီးဆင်းနေပေသည်။ ကံ ကံ၏အကျိုးကို မျက်ကွယ်ပြုသော လူသား၏ ဘဝကွင်းပြင်တွင် မဟာအနိဋ္ဌာရုံများသာ လွှမ်းဖုံးနေပေလိမ့်မည်။

### ဘုရားရှိခိုးဆုတောင်းများ

ဒီ ဘုရားရှိခိုးဆုတောင်းတွေဟာ ဘဝနေနည်း လမ်းညွှန်လည်းဖြစ်၊ လောကုတ္တရာ လုပ်ငန်းလမ်းညွှန်တွေလည်းဖြစ်ပါတယ်။ အယူပျက်စီးခြင်း၊ သီလပျက်စီးခြင်း ဘေးများမှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းရပါ၏ ဆိုတဲ့ ဆုတောင်းတွေဟာ အင်မတန်ကို အမြော်အမြင်ကြီးတဲ့ ဆုတောင်းတွေပါ။ ဗုဒ္ဓဘာသာဝင် တစ်ယောက်အနေနဲ့ အယူပျက်စီးရင်၊ သီလပျက်စီးရင် ဘာလောကီ အစီအမံတွေနဲ့မှ မတားနဲ့။ ဘယ်လက်ဖွဲ့၊ အင်း၊ အဆောင်၊ ယတြာတွေနဲ့မှ မဟန့်နဲ့။ အဲဒီလူဟာ မျက်မှောက်ဘဝမှာလည်း ဒုက္ခရောက်မှာပဲ။ လားရာဂတိလည်း ဘယ်နည်းနဲ့မှ မကောင်းနိုင်ဘူး။

### စိပ်ပုတီးနှင့် ဗုဒ္ဓဘာသာ

အစ်ကိုတို့ရဲ့ ကိုးကွယ်ရာဖြစ်တဲ့ ဗုဒ္ဓဘုရားရှင်က ပုတီးကိုင်တော်မမူခဲ့ဘူး။ ဒါပေမယ့် အစ်ကိုတို့ရဲ့ အယူဝါဒ ခြားရာဖြစ်တဲ့ ဗြဟ္မဏလူမျိုးတွေ ကိုးကွယ်ရာဖြစ်တဲ့ ဗြဟ္မာကြီး ကတော့ ပုတီးကိုင်ခဲ့တယ်။ ဗြဟ္မာကြီးရဲ့ရုပ်ပုံကိုထုလုပ်ခြင်း၊ဆေးရေးခြယ်ခြင်း ပြုလုပ်ထားကြရာမှာ လက်လေးဖက်ပါရှိပြီး လက်တစ်ဖက်က ဗေဒင်ကျမ်း၊ လက်တစ်ဖက်က စိပ်ပုတီး၊ လက်တစ်ဖက်က ဆီမီးခွက်၊ လက်တစ်ဖက်က ဆီခပ်ရန် ဇွန်း အသီးသီးကိုင်ဆောင်ထားဟန် ထုလုပ်ရေးဆွဲထားတယ်။ ဒီမျှဆိုရင် စိပ်ပုတီးအပေါ် မင်း သဘောထားတတ်ရောပေါ့။

### ကိုးကွယ်မှု

အယုတ်တရားအားလုံးကို လွန်မြောက်ပြီးဖြစ်သော တစ်လောကလုံး၏ တုနှိုင်းမဲ့ ကိုးကွယ်ရာ အရှင်ဗုဒ္ဓမြတ်စွာကိုယ်တော်တိုင် မိမိအိမ်တွင် ရောက်ရှိသီတင်းသုံးနေပြီဆိုပါလျှင် အဘယ်သို့သော ကိုးကွယ်ရာတို့ကို အိမ်ဦးခန်းတွင် တင်ထားဖို့ လိုပါတော့မည်နည်း။ မျက်ကန်းယုံကြည်မှု Blind Faith ကို အခြေခံသော အပေါ်ယံ အကာအလွှာကိုးကွယ်ရာ အမျိုးမျိုးကို မောဟထုထဲစွာ ဖက်တွယ်စရာ မလိုပါ။

## အရုံအတား

ဤသို့ဖြင့် စိတ်ခံစားမှုတစ်ခု ဖြစ်တိုင်း၊ စိတ်လှုပ်ရှားမှုတစ်ခု ဖြစ်တိုင်း စိတ်၏စင်ကြယ်မှုလော၊ စိတ်၏အညစ်အကြေးလော ဟူသည်ကို မပြတ်သောသတိဖြင့် တစ်ရံမလပ် စောင့်ကြည့်စစ်ဆေးသော အလေ့အထကို တစ်စတစ်စ ပွားများတည်ဆောက်ရပေလိမ့်မည်။

ဤသည်ပင် မိမိ၏ ဘဝအား မကောင်းကျိုးဟူသမျှမှ ရှောင်ရှားစေနိုင်မည့် စစ်မှန်သော အရုံအတားမည်ပါ၏။ လူသားဘဝ၏ အကောင်းဆုံးနှင့် အစစ်မှန်ဆုံးသော ကာကွယ်ရေး ဥပဒေသကြီးလည်း ဖြစ်ပါ၏။

## ထေရဝါဒအမွေအနှစ်

ထေရဝါဒ ပိဋကတ်တော်များတွင် သူရဿတီမယ်တော်၏ အခန်းကဏ္ဍ လုံးဝမရှိ။ ရှင်ဥပဂုတ္တ၏ အခန်းကဏ္ဍလုံးဝမရှိ။ ဘိုးတော်၊ အမ်းကုန်း၊ ကွမ်ယင်ဒေဝီ၊ မဟိန္ဒရာ သူတော်စင်၊ အောင်မင်းခေါင်၊ ဘိုးမင်းခေါင်တို့၏ အခန်းကဏ္ဍလုံးဝမရှိ။ ဉုံမဏိပဒ္မေဟုံ၏ အခန်းကဏ္ဍလုံးဝမရှိ။

ဗုဒ္ဓဘာသာဝင်ဖြစ်ပါလျက် ထေရဝါဒ သာသနာပြင်ပ လွဲမှားသော ကိုးကွယ်ရာ အမျိုးမျိုးနောက် ကောက်ကောက်ပါ လိုက်နေသူများမှာ ရှေးဘိုးဘွားဘီဘင်တို့ ထားချန်ရစ်ခဲ့သော အမွေအနှစ် ကို ဖျက်လိုဖျက်ဆီး ပြုမူနေသူများ ဖြစ်ပါသည်။

## ကြယ်တာရာနှင့် သစ်ရွက်ကြွေ

ကြယ်တာရာလို ပုဂ္ဂိုလ်များကား လောကီကောတုဟမင်္ဂလာများကို အရေးမထား။ ကိုယ်ကျင့်သီလကိုသာ အလေးထား၏။ ကိလေသာအငွေ့အတန်းများ လွှမ်းခြုံဆဲ၊ ဘာသာခြား (မိစ္ဆာဒိဋ္ဌိ) ပုဏ္ဏားများ စိတ်ကူးထင်ရာ ရေးသားခဲ့သော လောကီကျမ်းစာများကို တန်ဖိုးမထား၊ ဂရုမပြု၊ ဗုဒ္ဓ၏ ပိဋကတ်တော်များနှင့် ယှဉ်လျှင် နံ့သာဆီနှင့် ရေပမာ အကွာကြီး ကွာလှသော ဗြဟ္မဏပုဏ္ဏားတို့၏ ကျမ်းစာများကို ဖတ်ရှုခြင်း၊ ယင်းကျမ်းစာများ၏ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်ခြင်းအားဖြင့် ရခဲလှစွာသော လူ့ဘဝ၏ အချိန်ကာလများကို အဆုံးအရှုံးမခံ။

## ဘုရားကိုဆူ ပူဇော်ပွဲမှသည်

အစဉ်အလာတွေထဲမှာ ဆက်လက်ထိန်းသိမ်းရမယ့် အစဉ်အလာကောင်းတွေ ရှိသလို ဆက်လက် မထိန်းသိမ်းအပ်တော့တဲ့ အစဉ်အလာဆိုးတွေလည်း ရှိတယ်။ အစဉ်အလာ ဆောင်ရွက်ချက်တစ်ခုမှာ

အကောင်းနဲ့အဆိုး ဒွန်တွဲနေတာလည်း ရှိတယ်။ ဘုရားကိုးဆူ ပူဇော်ပွဲဟာ အကောင်းနဲ့အဆိုး ဒွန်တွဲနေတဲ့ အစဉ်အလာဖြစ်တယ်။

### ဂုဏ်တော်နှင့် ပုံတော်

တိုတိုရှင်းရှင်းနဲ့ ပြတ်ပြတ် ပြောရရင် အဲဒါက မဟာယာန ကိုယ်စားလှယ်တွေရဲ့ သာသနာဖျက် လုပ်ငန်းတစ်ခုပဲ။ အင်း၊ မန္တန်စတဲ့ လောကီပညာတွေကို ဗုဒ္ဓက ဆန့်ကျင် ရှုတ်ချတော်မူခဲ့ပြီး ဖြစ်တယ်ဆိုတာ ထေရဝါဒ ပိဋကတ်ကျမ်းစာတွေမှာ ထင်ထင်ရှားရှား ရှိပြီးသားပဲ။ ဘုရားရှင်ရဲ့ ပုံတော်နောက်ကျောမှာ ဘုရားရှင် နှစ်မြို့တော်မမူတဲ့ အင်းကွက်ထည့်သွင်းတာဟာ ဘုရားရှင်ကို ကြည်ညိုတဲ့ အပြုအမူလား။ မရိုသေတဲ့ အပြုအမူလား ဆိုတာ အင်မတန် ထင်ရှားနေပါတယ်။

### ပုဗ္ဗဏှသုတ်ထဲမှာ

အဲဒါကတော့ သူငယ်ချင်းညံ့လို့ ခံရတာပဲ။ မနက်တိုင်း ပုဗ္ဗဏှသုတ် ရွတ်နေတဲ့သူက ယတြာချေတာ ငါးရာကျော်ဖိုး ကုန်ကျခဲ့ရတယ်လို့။

### မျှော်ရသည်မှာ

ဘုရားရှင်ရဲ့အဆုံးအမတွေကို သိအောင်လုပ်၊ ဓမ္မစာပေတွေဖတ်၊ ဘုရားရှင်ရဲ့ အဆုံးအမနဲ့ မိမိရဲ့ အဇ္ဈတ္တကို တတ်နိုင်သမျှ တစ်သားတည်းကျနေအောင် ပျိုးထောင်။ စိတ်ကို အတတ်နိုင်ဆုံး ရှင်းရှင်းထား။ ကိုယ်ကျင့်တရား မပျက်စေနဲ့။ အကျင့်စရဏကို ဂရုမထားဘဲ အမျှော်အကြောက် အရင်းခံနဲ့ ဂါထာရွတ်တာတွေ မလုပ်နဲ့။ အထူးသဖြင့် ဗြဟ္မဏဝါဒ၊ မဟာယနဝါဒတွေက ဆင်းသက်လာတဲ့ အဓိပ္ပာယ်မဲ့ ဂါထာတွေကို ဝေးဝေးကရှောင်။ ဘယ်သူဘယ်လောက်ပဲ စွမ်းတယ်ဆိုဆို မယုံလေနဲ့။

### သရဏဂုံနှင့် ကိုးကွယ်မှုပြဿနာ

အဲဒီ ပုဂ္ဂိုလ်တွေက လောကီ အကျိုးစီးပွားအတွက် ဖန်ဆင်းပေးနိုင်တယ်။ မစနိုင်တယ်။ ဒါကြောင့် ကိုးကွယ်တာပေါ့ဟု ပြောလေမည်လား။ ယင်းသို့ဆိုလျှင်မူ အယူပျက်စီးပြီး သမ္မာဒိဋ္ဌိ မဟုတ်လား။ မိစ္ဆာဒိဋ္ဌိ။ ကံကိုမယုံတာ ကမ္မဿကတာ သမ္မာဒိဋ္ဌိဉာဏ် ကင်းကွာတာ၊ ကံ၏အကျိုးကို မယုံတာ။ ကံ– ကံ၏အကျိုးကို မယုံကြည်လျှင် ဗုဒ္ဓဘာသာဝင် မဟုတ်တော့ဘူး။ ရတနာသုံးပါးကို ကိုးကွယ်ရုံမျှနှင့် မလုံလောက်ဘူး ထင်ပြီး (ဘုမသိ ဘမသိ၊ ဆရာမတော် ဆွေမျိုးမစပ်) ဘိုးတော်၊ မယ်တော်၊ မဟိန္ဒရာတွေကို ကိုးကွယ်ခြင်းသည် ဘယ်လိုနည်းနှင့်မျှ သရဏဂုံ ခိုင်မြဲသည့် လက္ခဏာ မဟုတ်ပါချေ။

## အဏုမြူ ကွန်ပျူတာခေတ်က ကျောက်ခေတ်လူသားများ

ဗုဒ္ဓသည် သူ့ခေတ်သူ့အခါတွင် အကြီးမြတ်ဆုံးသော အတွေးအခေါ် တော်လှန်ရေးကြီးကို ဆင်နွှဲခဲ့၏။ စစ်မှန်သော ကိုးကွယ်မှုဆိုင်ရာ အခြေခံ သဘောတရားများကို ချမှတ်တော်မူခဲ့၏။ ကိုးကွယ်သင့် ကိုးကွယ်ထိုက်၊ ရှိခိုးသင့် ရှိခိုးထိုက်၊ ပူဇော်သင့် ပူဇော်ထိုက်သော ပုဂ္ဂိုလ်များသည် အဘယ်သို့သော ပုဂ္ဂိုလ်များဖြစ်သည်ဟူ၍ လည်းကောင်း၊ ကိုးကွယ်ခံ ဂုဏ်ရည် ဟူသည် အဘယ်အရာနည်း ဟူ၍လည်းကောင်း ရှင်းလင်းပြတ်သားစွာ ညွှန်ပြတော်မူခဲ့ပါ၏။

## ကမ္မဝါဒသာလျှင်

ကိုယ့်ကြမ္မာကိုယ် ဖန်တီးနိုင်ခွင့် ပေးထားသော ကမ္မနိယမ သဘောတရားသည် လူသားအားရှင်သန်သော အားမာန်များကို ပေးစွမ်း၏။ လုပသော မျှော်လင့်ချက်များကို အပ်နှင်း၏။ မိမိဘဝကို မိမိစိတ်ကြိုက် ဖန်တီးရာတွင် အဘယ်ပုဂ္ဂိုလ်၏ ဟန့်တားနှောင့်ယှက်မှု၊ စိုးမိုးခြယ်လှယ်မှုကို စိုးရွံ့စရာမရှိ။ ဖန်တီးရှင်ဟူ၍ မရှိ။ ကယ်တင်ရှင်လည်း မရှိ။

## စေတနာဗေဒင်

စေတနာဆိုးဟူသည် ကံ မည်သော်လည်း ကိုယ်ပိုင်ဥစ္စာ အဖြစ် မသိမ်းဆည်းအပ်သော အရာဖြစ်၏။ ထို ကိုယ်ပိုင်ဥစ္စာအဖြစ် မသိမ်းဆည်းအပ်သော စေတနာဆိုးကို နှလုံးသားထဲ၌ မွေးမြူလက်ခံနေလျှင် ထိုသူ၏ အနာဂတ်ကာလသည် မည့်သည့်နည်းနှင့်မျှ ငြိမ်းအေးပြေလွင် ဖြူစင်ချောမောတော့မည် မဟုတ်ပေ။ ဗေဒင်လက္ခဏာ မေးသည်ထက်ပို၍ သေချာသော စေတနာဗေဒင် ပါတည်း။

ဖြဟ္မဏတို့၏ ဝေဒကျမ်းလာ ပြဿဒါး၊ ရက်ရာဇာ။ ဝါရမိတ္တု၊ နဂါးလှည့်စသော အယူများသည် ကမ္မဿကတာ သမ္မာဒိဋ္ဌိနှင့် ဆန့်ကျင်သော အယူမှားများဖြစ်၍ ယင်းအယူစွဲများ၌ ယုံကြည်သူသည် မည်သည့်နည်းနှင့်မျှ သမ္မာဒိဋ္ဌိ မဖြစ်နိုင်ပါပေ။

## နှလုံးသားဉယျာဉ်

မိမိ၏ နှလုံးသားဉယျာဉ်မှ အကောင်းဖြစ်စေ၊ အဆိုးဖြစ်စေ ယင်းနှင့်ပတ်သက်၍ တာဝန်ခံမည့်သူ၊ သက်ဆိုင်သည့်သူမှာ ဉယျာဉ်မှူး ဖြစ်သော မိမိသာ။ မည်သည့် ထာဝရဘုရားရှင်၊ တန်ခိုးဣဒ္ဓိပါဒ်ရှင်၊ ဝိဇ္ဇာ၊ ဘိုးတော်၊ နတ်ကတော်တို့နှင့်မျှ မပတ်သက်၊ မသက်ဆိုင်၊ ပဒိုင်းပင်မှ ဩဇာသီး သီးလာရန် မည်သည့်တန်ခိုးရှင်မျှ မတတ်နိုင်။ ပဒိုင်းသီးကို အလိုမရှိသော် မိမိ၏ နှလုံးသားဉယျာဉ်တွင် ပဒိုင်းပင်ကို မစိုက်ပျိုးမိရန်သာ လိုပါသည်။

**နတ်ပယ်ခြင်းနှင့် ဖြည့်စွက်ခြင်း**

တန္တရ၊ မန္တရ၊ ယန္တရဝါဒကို ကိုင်စွဲလျက်ရှိသော အလိုဆိုးရှိသူ ပုဂ္ဂိုလ်တို့သည် ဘုရားရှင်ဟောကြားတော်မူသော ဗုဒ္ဓဝစနများ ကို စကားလုံးများ ပြောင်းလဲလျက် ဖြည့်စွက်ခြင်း၊ နတ်ပယ်ခြင်း များပြုလုပ်လျက် လောကီစီးပွား တိုးတက်ရေး အဆောင်ဂါထာအဖြစ် တီထွင်လျက်ရှိကြောင်း အထက်ပါ ဥုံ ဥစ္စာစရဏာ သမ္ဗန္ဓေ အရ သတိပြုမိပါသည်။

**အဇ္ဈတ္တရန်သူ**

လူသားတစ်ဦးချင်းစီ၏ ဘဝရုပ်တုကို ထုဆစ်သော ပန်းပုဆရာမှာ လူသား၏ ကံသုံးပါး အပြုအမူသာ ဖြစ်ပါ၏။ ကံသုံးပါးတွင်လည်း မနောကံသည် ကာယကံ၊ ဝစီကံတို့၏ ပဲ့ကိုင်ဖြစ်လေရာ မနောကံ ရိုးသားဖို့၊ ကြီးမြတ်ဖို့၊ သန့်စင်ဖို့၊ လှပဖို့ လိုပါသည်။ မနောကံ ဖြူစင်လှပကြီးမြတ်နေစေရန်မှာ စိတ် အတွင်းသို့ အညစ်အကြေး၊ အရှုပ်အထွေးများကို သယ်ဆောင်လာမည့် အဇ္ဈတ္တရန်သူများ ဝင်ရောက်ခွင့် မပေးဖို့ လိုပါမည်။

စိတ်ဓာတ်ကို သိမ်နုပ်စေ၊ ညှို့ဖျင်းစေ၊ ညစ်ကြေးစေနိုင်သော အရာများထက် လူသားကို ဒုက္ခပေးနိုင်စွမ်းရှိသော ရန်သူဟူ၍ မရှိချေ။

**အကျိုးမရှိသော အစွဲအလမ်းများ**

မြတ်ဗုဒ္ဓ၏ အဆုံးအမကို ခံယူသည်ဆိုသော ဗုဒ္ဓဘာသာဝင်များ အနေဖြင့် ယင်း အကျိုးမရှိသော အစွဲအလမ်းများ၌ ပျော်မွေ့နေလျှင်၊ ယုတ်နိမ့်သော အတတ်ပညာဖြင့် အသက်မွေးနေလျှင် အထက်တန်းကျသော ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် မဟုတ်တော့ကြောင်းကိုမူ သာသနာစိတ် ထက်သန်သူများက ဝေဖန်ထောက်ပြရပေလိမ့်မည်။ အစဉ်အလာစွဲများ၊ အယူမှားများကို ထေရဝါဒမှတ်ကျောက် ဖြင့် စိစစ်ပယ်ဖျက်ရပေလိမ့်မည်။

**ပညာစေတနာ ပဓာနပါ**

ကျွန်တော်တစ်ဦးတည်း အယူအဆကို ပြောရင် သက်သတ်လွတ်စားတဲ့ အလေ့အကျင့်ဟာ သူ့ချည်းသက်သက်ဆိုရင် အဖြူထည်တစ်ခု ပါ။ ဒါပေမယ့် လူပြိန်းကြိုက် စည်းရုံးလိုတဲ့ အလိုဆိုးရှိတဲ့ ပုဂ္ဂိုလ်တွေကြောင့် ညစ်နွမ်းသွားတာပါ။

**အဂါရဝမှုသတိပြု**

‘လာဘ်ရွှင် ငွေရွှင်ချင်ရင်၊ ဈေးရောင်းကောင်းချင်ရင်၊ အန္တရာယ်ကင်းဘေးကင်းချင်ရင် ဒီပုံတော်တွေကို

ဈေးသည်၏ နှုတ်က ထိုဈေးခေါ်စကားကို ကျယ်ကျယ်လောင်လောင် အော်ဟစ်လျက် ရှိ၏။ အသေအချာကြည့်လိုက်သောအခါ ဈေးသည်၏ အဂါရဝမှုကို စိတ်မချမ်းမြေ့ဖွယ်ရာ တွေ့လိုက်ရသည်။

**ဝေဖန်စိစစ်တတ်ပါစေ**

ဗုဒ္ဓဘာသာဝင် အသီးသီး၏ ဦးနှောက်တွင် ထေရဝါဒ စံပေတံကို အသုံးပြုလျက် ဝေဖန်ဆန်းစစ်သော ဝိဘဇ္ဇဉာဏ် အားကောင်းရှင်သန်လာသည့် အချိန်တွင် မြန်မာ့ ရေမြေတောတောင်၌ သာသနာတော်ကို ခုတုံးလုပ်လျက် လိမ်ညာနေသော အဓမ္မဝါဒီ အင်အားစုများ၊ သာသနာနှင့် ဗီလာဖြစ်သော အယူအမြင် အစွဲဥပါဒါန်နှင့် တိရစ္ဆာန်အတတ်များ ခေါင်းထောင် လူးလွန့်ခြင်းရှိနိုင်တော့မည် မဟုတ်ပါ။

**ဖြည့်စာ**

သာသနာတော်ကို ကြည်ညိုသည်ဆိုရာ၌ ထေရဝါဒ အသိအမြင်ခံနှင့် ယှဉ်တွဲဖို့ ပဓာန ကျလှပါသည်။ ထေရဝါဒအသိဉာဏ်နှင့် ယှဉ်သော ကြည်ညိုမှုဖြစ်မှသာ စစ်မှန်သော ကြည်ညိုမှုစ ဖြစ်ကာ သာသနာအား အားပေးချီးမြှောက်နိုင်ပေသည်။ ထေရဝါဒ အသိဉာဏ်နှင့် မယှဉ်သော 'တုံးတိသဒ္ဓါ' ကမူ သာသနာအား အားပေးချီးမြှောက်ရာ မရောက်သည့်အပြင် စေတနာ မပါသော်ငြား ဖျက်ဆီးရာ ရောက်ပေသည်။

**မဟာယနဒည့်စိမ်း**

အမျိုးဘာသာ သာသနာကို အသက်နှင့်အမျှ ချစ်ခင်မြတ်နိုးသူတိုင်းသည် ထေရဝါဒဗုဒ္ဓသာသနာ အထွန်းတောက်ဆုံးဖြစ်သော "အမိမြန်မာပြည်" သို့ ရေခြားမြေခြားမှ ဝင်ရောက်လာသော 'မဟာယနဒည့်စိမ်း' ဖြစ်သည့် 'ဥုံ မဏိပဒ္မေဟုံ' ကို ခြေချရပ်တည်ခွင့် မပေးဘဲ နေကြပါစို့။ ထေရဝါဒ အိမ်ရှင်တိုင်းက လက်မခံလျှင် 'မဟာယနဒည့်စိမ်း' သည်–

**အကျင့်တစ်လမ်း စာတစ်လမ်းလော**

ဆရာတော်ကြီးများ၏ ဩဝါဒတော်ထဲတွင် ပါဝင်သော (၁) စာအတိုင်း လိုက်နာရုံပဲ။ (၂) စာကို အဟုတ်ယုံကြည်ဖို့ပဲ လိုတယ်။ (၃) စာမတတ်သူများက မိမိအသိကို တင်စားလွန်း၍ ပျက်စီးတတ်တယ်။ (၄) သိဖို့က ပထမ။ (၅) စာထက်ပို၍ ဘယ်သူက မှန်ဦးမှာလဲ ဟူသော အချက်များနှင့် 'စာခံနေသဖြင့် တရားရရန်ခက်သည်' တရားမသိဘဲ တရားအားထုတ်လျှင် အဖြူထည်ဖြစ်သဖြင့် တရားရလွယ်သည် ဟူသော အချက်သည် မည်မျှဆန့်ကျင် ခြားနားလျက်ရှိပါကြောင်း...

## ဘေးတီးကောင်းလျှင်နှင့်ရှက်

ထေရဝါဒ အသိဉာဏ် ထိထိမိမိ ကြည်ကြည်လင်လင် မရှိသောအခါ ဒအယူအဆများဒ နှင့် 'ကိုးကွယ်ရာအမှား' တို့ကို တွယ်မှီအားကိုးတတ်၏။ ကိုယ်ပိုင်ကျောရိုးမတောင့်တင်းသောအခါ၊ ကိုယ်ပိုင်ယုံကြည်ချက် ခိုင်ခိုင်မာမာ မချမှတ်နိုင်သောအခါ 'ဘေးတီးကောင်းမှု'နှင့် 'အဆွယ်မြှောင်ကောင်းမှု' နောက်သို့ လွယ်လွင့်တကူ အဆင်ခြင်မဲ့ လိုက်ပါတတ်ကြ၏

မိမိ၏ အတွင်းသန္တာန်၌ရှိသော စိတ်ကောင်း၊ စေတနာကောင်း၊ စေတသိက်ကောင်းများအပေါ် အားကိုးရမည် မှန်းမသိဘဲ ပုဂ္ဂိုလ်ထူး ဆိုသူတို့က စွန့်ကြဲသော 'အဆောင်ပစ္စည်း'၊ 'သိဒ္ဓိတင်ပစ္စည်း' တို့ကိုသာ အမှီသဟဲ ပြုချင်လာကြ၏။ သံသရာတစ်လျှောက်လုံး နစ်နာစေနိုင်သော အပြုအမူ မှားများ ဖြစ်ပါ၏။

## ဖတ်ကြည့်စေလိုပါသည်

မည်သည့်တန်ခိုးရှင်၊ သိဒ္ဓိရှင်၊ဇော်ဂျီ၊ အကြားအမြင် ပညာရှင်တို့ကမျှ အခြားသူတို့အား ကံပွင့်အောင်၊ ကံတက်အောင်၊ ကံပေါ်အောင် မစွမ်းဆောင်နိုင်ကြကုန်။ ဘုန်းတော်အနန္တ၊ ကံတော်အနန္တ၊ ဉာဏ်တော်အနန္တတို့နှင့် ပြည့်စုံတော်မူသော သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာဘုရားသည်ပင် သတ္တဝါတို့အား 'ကံပေါ်အောင်' 'ကံပွင့်အောင်'၊ 'ကံတက်အောင်' မစနိုင်သည်၊ ဖန်တီးနိုင်သည်ဟူ၍ အာမခံတော်မမူခဲ့ပါ။ မိမိကံကောင်းလာအောင်၊ ကံတက်လာအောင်၊ ကံပွင့်လာအောင် မိမိမှတစ်ပါး အခြားသော အားကိုးရာဟူ၍ လုံးဝမရှိပါ။

## အယူအမြင် စင်ကြယ်စေသော စာအုပ်

နတ်ပူဇော်ခြင်း၊ ဂြိုဟ်စာကျွေးခြင်းစသော ကိစ္စများ၌ ယုံကြည်သက်ဝင်သူများသည် မိစ္ဆာဒိဋ္ဌိ ဖြစ်မှန်းမသိ ဖြစ်သွားတတ်ကြောင်း...။

ထေရဝါဒ ဗုဒ္ဓသာသနာတော်မြတ်နှင့် ဆန့်ကျင်သော နိမိတ်ဖတ်၊ ဇော်ဂျီဟော၊ လက္ခဏာဟော စသော တန္တရ၊ ဝိဇ္ဇာယနအတတ်များသည် သာသနာတော်ကို ပျောက်ကွယ်သွားစေနိုင်ကြောင်း...။

မန္တန်အတတ်၊ အင်္ဂရတ်အတတ်၊ နက္ခတ်အတတ်များသည် သာသနာပ အတတ်များဖြစ်ကြောင်း ...။

## ဖတ်ကြည့်စေလိုသော ကဗျာတစ်ပုဒ်

ထေရဝါဒ ဗုဒ္ဓသာသနာတော်မြတ် ထွန်းလင်းတောက်ပရာ မြန်မာ့ရေမြေ တောတောင်တွင် ဗုဒ္ဓအလိုတော်နှင့်လည်း ဆန့်ကျင်၊ သဘာဝလည်းမကျ၊ ယုတ္တိလည်းမတန်သော အတိတ်စွဲ၊ နိမိတ်စွဲ၊ အယူလွဲ၊ အယူမှားများ ရှင်သန်ပျံ့နှံ့နေဆဲရှိသည်မှာ ဝမ်းနည်းဖွယ်ရာလည်းဖြစ်၊ အံ့သြဖွယ်ရာလည်းဖြစ်ပါသည်။

## တောင့်တသင့်သည်မှာ

လူတစ်ဦး၏ ဘဝတာဟူသည် ကမ္ဘာ့သက်တမ်းနှင့် နှိုင်းယှဉ်လျှင် အင်မတန်သေးငယ်လှသော အစက်အပြောက်ကလေး တစ်ခုမျှသာ ဖြစ်ဘိ၏။ တိုတောင်းလှသော ခဏငယ်ကာလအတွင်းမှာ စိတ်နှလုံး ချမ်းမြေ့ကြည်လင်စွာ နေရခြင်းထက်ပိုမို၍ မွန်မြတ်သော အဖြစ်ဟူသည် ရှိပါဦးတော့မည်လော။

## စာဖတ်ဖို့က ပထမ

ဗုဒ္ဓစာပေများနှင့်လည်း ရင်းနှီးကျွမ်းဝင်မှုမရှိ၊ ဆရာကောင်းသမားကောင်းတို့၏ အစောင့်အရှောက်ကိုလည်း မရရှိသူ ဝိပဿနာသမားများ အနေဖြင့် ဘုရားရှင် ၄၅ ဝါပတ်လုံး ကရုဏာတော်ဖြင့် ဟောကြားတော်မူခဲ့ပါသော တရားတော်များအပေါ် တန်ဖိုးဖြတ် မှားယွင်းခြင်းမှာ သူတို့အတွက် အင်မတန် နစ်နာစေနိုင်ပါသည်။ တရားထူး သိမြင်ရေးတွင် ကြီးမားသော အနှောင့်အယှက်လည်း ဖြစ်နိုင်ပါသည်။

## ဖြတ်လမ်း

လောကီ လောကုတ္တရာ နှစ်ဌာနစလုံးမှာ ဖြတ်လမ်းဟာ အန္တရာယ်ရှိတယ်။ ဖြတ်လမ်းတွေနောက်လိုက်ရင် ကြာတော့ ကိုယ်ကျင့်သိက္ခာပါ ယိုင်နဲ့လာတတ်ပါတယ်။ စိတ်ဓာတ်တွေ ပိုပြီး ပျော့ညံ့လာတတ်တယ်။ ဂါထာမန္တန်တွေ လောကီ အစီအမံတွေ တည်ရာ တန္တရဝါဒ နဲ့ ဗုဒ္ဓဝါဒရဲ့ အဓိကဆန့်ကျင်ချက်ဟာလည်း ဒါပဲ။ ဗုဒ္ဓဝါဒက မိမိရဲ့ ကံ၊ ဉာဏ်၊ ဝီရိယတွေ၊ စေတနာတွေနဲ့ မိမိရဲ့ဘဝကို ဖန်တီးနိုင်တယ်။ လူရဲ့ လုံ့လဉဿာဟတွေ၊ စေတနာတွေမှာ စွမ်းအင်ရှိတယ်လို့ ယုံကြည်တယ်။ တန္တရဝါဒကတော့ လူရဲ့ ကံ၊ ဉာဏ်၊ ဝီရိယနဲ့ စေတနာမှာ စွမ်းအင်ကို မရှာဘဲ ဂါထာမန္တန်၊ အဆောင်ယတြာ၊ အင်းတွေမှာ စွမ်းအင်ကို ရှာတယ်။

## ရေလက်ကောက်နှင့် ကြေးလက်ကောက်

အတွင်းအနှစ်အစစ်အမှန် ဓမ္မကို ဖြန့်ဖြူးရာ၌ အရေတွက်များလာရေးကိုသာ ရှေးရှုပြီး အပေါ်ယံအကာအလွှာနှင့် အရောရော အနှောနှောတွေကိုသာ ပေးကမ်းနေလျှင် ယင်းသည် ဓမ္မအပေါ် သစ္စာဖောက်ခြင်းသာ ဖြစ်ပါ၏။

ဓမ္မစစ်ကို ဖြန့်ဖြူးရာ၌ အရေတွက်သည် ပဓာန မဟုတ်၊ အရည်အချင်းသာ အဓိကဖြစ်ပါ၏။

## ဆရာစန္ဒာ၏ ဓမ္မဒါန

ကိလေသာဟူသမျှကို ဝါသနာနှင့်တကွ အပြီးတိုင် ပယ်စွန့်တော်မူပြီးတဲ့ သဗ္ဗညုတဉာဏ်ရှင် ဘုရားရှင်ရဲ့ စကားနဲ့ ကိလေသာတန်းလန်း အာသဝေါမကုန်ခန်းသေးတဲ့ ဖြဟ္မဏပုဏ္ဏားတွေရဲ့ စကား၊ အဲဒီ စကားနှစ်ခွန်းမှာ ဘယ်သူ့ရဲ့ စကားကို သူငယ်ချင်း ယုံကြည်လက်ခံမှာလဲ။

နှစ်မျိုးစလုံးလက်ခံမယ်လို့ ပြောလို့တော့ မရဘူးနော်။ ပိဋကတ်နဲ့ ဗေဒင်က ရေမှုတ်တစ်ဖက် မီးစတစ်ဖက်ပဲ။

## ရှင်ရာဟုလာ၏ ဓမ္မဒါန

စင်စစ်သော် ဆရာတော်၊ သံဃာတော် အရှင်သူမြတ်များသာလျှင် ဂိုဏ်းလုပ်ငန်းအပေါ် မယုံကြည်သည် မဟုတ်ချေ။ ထေရဝါဒ ဗုဒ္ဓကျမ်းစာများကို ဖတ်ရှုလေ့လာဖူးသော လူပညာရှိများ၊ ဘာသာရေး စာရေးဆရာများ၊ ဘာသာရေး ဆောင်းပါးရှင်များ၊ ဗုဒ္ဓစာပေ၌ အစဉ်တစိုက် မွေ့လျော်နေသူများသည်လည်း ...။

## သာသနာပြုနိုင်ပါစေ

ဥစ္စာဓနေ မချမ်းသာသောကြောင့် သောင်းသိန်းချီ၍ လှူဒါန်းမှု မပြုနိုင်သည့်အတွက် အားငယ်စရာမလိုပါ။ ဝမ်းနည်းစရာ မလိုပါ။ အရေး၊ အဟော၊ အပြေ စွမ်းရည် မရှိသောကြောင့်လည်း စိတ်မကောင်းဖြစ်စရာမလိုပါ။ ထိုအရာများကို ဖြည့်ဆည်းနိုင်လျှင် ကောင်းပါ၏။ မွန်မြတ်ပါ၏။ သို့တစေ မဖြည့်ဆည်းနိုင်သောကြောင့် သာသနာအတွက် ဘာမျှ လုပ်နိုင်စွမ်းမရှိဟု မထင်မှတ်ပါနှင့်။

## အထက်တန်းစားဗုဒ္ဓဘာသာဝင်

**ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို ကိုးကွယ်သူတို့သည် အမြတ်ဆုံးကို ကိုးကွယ်သူတို့ မည်ပေ၏။ အမြတ်ဆုံးကို ကိုးကွယ်သူတို့သည် အမြတ်ဆုံးသော အကျိုးကို ရကြပေ၏။**

***(ဣတိဝုတ်၊ အဂ္ဂပသာဒသုတ်)***

ဗုဒ္ဓဘာသာဝင်တို့သည် ဗုဒ္ဓ၊ ဓမ္မ၊ သံဃတည်းဟူသော အမြတ်ဆုံးသော ရတနာသုံးပါးကို ကိုးကွယ်ကြသူများ ဖြစ်ပေသည်။ အမြတ်ဆုံးရတနာသုံးပါးသည် ကိုးကွယ်သူတို့အား 'အမြတ်ဆုံးသော အကျိုး' များကို ပေးနိုင်စွမ်း ရှိပါ၏။ သို့သော် ရတနာသုံးပါးကို ကိုးကွယ်ကြသူချင်းတူစေကာမူ အကျိုးပေးမှု အနည်းအများ ကွာဟသည့် အလျောက် ကိုးကွယ်သူတို့၏ ဘဝအနိမ့်အမြင့် ခြားနားနေလျက် ရှိပေသည်။

ရတနာသုံးပါးကို ကိုးကွယ်ကြမှုအရာ၌ တူညီနေသည့်တိုင် ဘဝအကျိုးပေး အနည်းအများ ကွာဟနေသည်မှာ 'ကိုးကွယ်ပုံချင်း' မတူညီကြ၍သာ ဖြစ်၏။ ရတနာသုံးပါးကို 'ကြည်ညိုပုံချင်း' ခြားနားနေ၍သာ ဖြစ်၏။ တစ်နည်းအားဖြင့် ဗုဒ္ဓဘာသာဝင်အဖြစ် ခံယူပုံနည်းလမ်း ချင်းကွဲပြားနေ၍သာ ဖြစ်ပါ၏။

စင်စစ်သော် ဗုဒ္ဓဘာသာဝင်ဟူသည်မှာ ဗုဒ္ဓ၏ အဆုံးအမများကို 'ဘဝလမ်းညွှန်' အဖြစ် လိုက်နာခံယူ ကျင့်သုံးနေသူများပင် ဖြစ်၏။ ယင်းသို့ ဗုဒ္ဓ၏ အဆုံးအမများကို သိရှိကျင့်သုံးလိုက်နာရာ၌ ဗုဒ္ဓဘာသာဝင် တစ်ဦးနှင့် တစ်ဦး 'ဗုဒ္ဓဓမ္မအပေါ်' သိရှိပုံ ပမာဏချင်းရော လိုက်နာကျင့်သုံးပုံပမာဏချင်းပါ မတူညီကြပေ။

ဗုဒ္ဓ၏ အဆုံးအမများကို အနှစ်သာရပိုင်းအထိ ထိုးထိုးထွင်းထွင်း သိရှိသူတို့ ရှိသကဲ့သို့ သာမန်ကာလျှံကာ သိသူတို့လည်း ရှိပေသည်။ ထို့အတူ လိုက်နာကျင့်သုံးရာ၌ ပါရမီ အနုအရင့်၊ ဝီရိယအပြင်းအပျော့အရ ခြားနားမှုတို့လည်း ရှိပေ၏။

'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ' ဟု သရဏဂုံ ဆောက်တည်ထားသော်လည်း အခြားအခြားသော တစ်စုံတစ်ရာကို သရဏံ ဂစ္ဆာမိချင်သူများဆိုလျှင် 'ရတနာသုံးပါး ကိုးကွယ်သူ' ဟု ဆိုရန်ပင် ခက်လှပေသည်။ ဘုရားစင်အနီးအပါးတွင် အာသဝေါ မကုန်ခန်းသေးသည့် ပြည်တွင်းမှ ဘိုးတော် မယ်တော်များ၊ ပြည်ပမှ ဘိုးတော် မယ်တော်များ၏ ပုံများကို ချိတ်ဆွဲရှိခိုးနေသူများသည် 'ရတနာသုံးပါးမှ တစ်ပါး အားထားစရာမရှိ' ဟူ၍ ခံယူထားသူများ မဟုတ်တန်ရာ။ အကြောက်နှင့် အမျှော်အပေါ် အခြေခံ၍ ဓာတ်ဆင်၊ ဓာတ်ရိုက်၊ ယတြာချေ၊ ဂါထာမန္တန် ရွတ်သူများသည် (ဗုဒ္ဓဘာသာဝင်တို့အဖို့ အရေးကြီးဆုံးဖြစ်သည့်) ကံ ကံ၏အကျိုးကို မမိတ်မသုန် ယုံကြည်သူများ မဖြစ်တန်ရာ။

အတ္တနှင့် အတ္တနိယပေါ် အခြေစိုက်သော ယင်းအပြုအမူများသည် မြတ်ဗုဒ္ဓ၏ ဓမ္မလမ်းကြောင်းနှင့် ဖီလာဆန့်ကျင်လျက်ရှိသည်။ 'ဥုံ မဏိပဒ္မေဟုံ' မဟာယာန ဗိုင်းရပ်ပိုးမွှားလို ယုံကြည်ကိုးကွယ်မှု သွေးကြောထဲ စိမ့်ပျံ့ဝင်ရောက်ခွင့်ပေးသော ဗုဒ္ဓဘာသာဝင်မှာ ထေရဝါဒ ဗုဒ္ဓဘာသာကိုယ်ခံအား နည်းပါးရှာသူ ဖြစ်လေသည်။

မြတ်ဗုဒ္ဓ၏ ဓမ္မ၌ လောဘ၊ ဒေါသ၊ မောဟတို့ကို ငြိမ်းခဲစေသော၊ ပါးလျားစေသော နည်းလမ်းများကို ညွှန်ပြထားသကဲ့သို့ သောကပရိဒေဝ ဒုက္ခဒေါမနဿတို့မှ လွန်မြောက်စေသော ကျင့်စဉ်များလည်း ပြီးပြွမ်းလျက်ရှိပေသည်။ ဗုဒ္ဓဘာသာဝင်အဖြစ် ခံယူပါလျက် လောဘ၊ ဒေါသ၊ မောဟတို့ ထူပြောနေပါလျှင် သောကပရိဒေဝ ဒုက္ခဒေါမနဿတို့ဖြင့် ပူလောင် ဆူပွက်နေပါလျှင် (အဖြေကား ရှင်းပါ၏) ဗုဒ္ဓ၏ ဓမ္မကို လိုက်နာကျင့်သုံးမှု၌ အားနည်းနေ၍သာ ဖြစ်တော့၏။

ဘုရားရှင်သည် ရတနာသုံးပါးအပေါ် ကြည်ညိုသဒ္ဓါတရားအနည်းအများအပေါ် အမှီပြု၍ အထက်တန်းစားဗုဒ္ဓဘာသာဝင်နှင့် အညံ့စားဗုဒ္ဓဘာသာဝင် ဟူ၍ နှစ်မျိုးကွဲပြားကြောင်း ဟောကြားတော်မူခဲ့သည်။ ထို့ပြင် အထက်တန်းစားဗုဒ္ဓဘာသာဝင်တို့၏ လက္ခဏာများနှင့် အညံ့စားဗုဒ္ဓဘာသာဝင်တို့၏ လက္ခဏာများကိုပါ ညွှန်ပြတော်မူခဲ့သည်။

*(အင်္ဂုတ္တရပါဠိတော်၊ တတိယ၊ စာမျက်နှာ– ၁၈၁)*

## အထက်တန်းစားဗုဒ္ဓဘာသာဝင်တို့၏ လက္ခဏာများ

၁။ ရတနာသုံးပါးအပေါ်၌ နှစ်နှစ်ကာကာ ယုံကြည်ခြင်း၊

၂။ ကိုယ်ကျင့်သီလနှင့် ပြည့်စုံခြင်း၊

၃။ ကောတုဟလ မင်္ဂလာကို မယုံကြည်ခြင်း၊

၄။ လောကီမင်္ဂလာတို့ကို မယုံကြည်ဘဲ ကံကိုသာ အနှစ်သာရအားဖြင့် ယုံကြည်ခြင်း၊

၅။ ဗုဒ္ဓသာသနာတော် အတွင်း၌သာ မြတ်သော အလှူခံ ပုဂ္ဂိုလ်ရွေးချယ်စိစစ်၍ ဦးစွာပေးလှူ ကြည်ဖြူမြတ်နိုးခြင်းတို့ ဖြစ်၏။

ဤလက္ခဏာများနှင့် ပြည့်စုံသူကို ဘုရားရှင်က 'ဗုဒ္ဓဘာသာဝင် ရတနာ'၊ 'ဗုဒ္ဓဘာသာဝင်ပဒုမ္မာ'၊ 'ဗုဒ္ဓဘာသာဝင် ပုဏ္ဍရိတ်' ဟု ဂုဏ်ပြုတော်မူ၏။

## အညံ့စားဗုဒ္ဓဘာသာဝင်တို့၏ လက္ခဏာများ

၁။ ရတနာသုံးပါးအပေါ်၌ နှစ်နှစ်ကာကာ ယုံကြည်မှု မရှိခြင်း၊

၂။ ကိုယ်ကျင့်သီလ မရှိခြင်း၊

၃။ ကောတုဟလ မင်္ဂလာကို ယုံကြည်ခြင်း၊

၄။ ကံကို မယုံကြည်ဘဲ လောကီမင်္ဂလာကိုသာ အနှစ်သာရအားဖြင့် ယုံကြည်ခြင်း၊

၅။ အခြားဘာသာ၌ မြတ်သော အလှူခံပုဂ္ဂိုလ် ရှိခိုးမျှော်ကိုးရာမှီးလျက် ဦးစွာ ပေးလှူကြည်ဖြူ မြတ်နိုးခြင်းတို့ ဖြစ်သည်။

ယင်းလက္ခဏာတို့နှင့်ပြည့်စုံသော ဗုဒ္ဓဘာသာဝင်မျိုးမှာ 'ဗုဒ္ဓဘာသာဝင်အောက်တန်းစား'၊ 'ဗုဒ္ဓဘာသာဝင် အညစ်အကြေး'၊ 'ဗုဒ္ဓဘာသာဝင် ဒွန်းစဏ္ဍား' ဟု ဘုရားရှင်က မိန့်ဆိုတော်မူသည်။

ဗုဒ္ဓဘာသာဝင်တစ်ဦးအနေဖြင့် မိမိသည် အထက်တန်းစားဗုဒ္ဓဘာသာဝင်လား အညံ့စားဗုဒ္ဓဘာသာဝင်လား ဟူသည်ကို ဘုရားရှင်၏ အထက်ပါ 'စံညွှန်းများ'ကို အမှီပြုလျက် စိစစ်ဆုံးဖြတ်နိုင်ပေ၏။ ယင်းစံညွှန်းများကို အပြန်အလှန်စေ့ငုဆင်ခြင်လျှင် ရတနာသုံးတန်နှင့် ကံ ကံ၏အကျိုးအပေါ်၌ ယုံကြည်မှုနှင့် လောကီမင်္ဂလာ၊ 'ကောတုဟလမင်္ဂလာ' တို့၌ ယုံကြည်မှုသည် လားရာဘက်ချင်းခြားနားကြောင်း၊ ဆန့်ကျင်ဘက်အသွင် ဆောင်ကြောင်း နားလည်သဘောပေါက်ပေလိမ့်မည်။

ရတနာသုံးတန်နှင့် ကံ ကံ၏အကျိုးကို ကြည်ညိုမှုသဒ္ဓါ စွဲစွဲမြဲမြဲနှစ်နှစ်ကာကာ ခိုင်မာလျှင် လောကီမင်္ဂလာနှင့် ကောတုဟလမင်္ဂလာတို့၌ စိတ်ညွှတ်မှုမရှိနိုင်။ (ယုံကြည်ဖို့ကားဝေးစွ) ရတနာသုံးတန်နှင့် ကံ ကံ၏အကျိုးကို ကြည်ညိုမှုသဒ္ဓါတရား အားပျော့ချည့်နဲ့လျှင် လောကီမင်္ဂလာနှင့် ကောတုဟလမင်္ဂလာတို့ကို အားကိုးစရာအဖြစ် ဖက်တွယ်လာတတ်ပေသည်။

ဗေဒင်၊ ယတြာ၊ အင်း၊ လက်ဖွဲ့၊ ဂါထာမန္တန်တို့ကို ယုံကြည်ခြင်း၊မည်သည့် ရုပ်ပွားတော်ကို ကိုးကွယ်လျှင် မည်သို့စီးပွားတက်မည်ဟု ယုံကြည်ခြင်းတို့သည် ကောတုဟမင်္ဂလာကို ယုံကြည်ခြင်း ဖြစ်၏။ ထိုသို့သော အမှုမျိုး၌ မွေ့လျော်ပျော်ပိုက်နှစ်ခြိုက်၍ 'မောဟလမ်းမှားလိုက်နေသူများ' အနေဖြင့် မိမိတို့သည် ဗုဒ္ဓဘာသာဝင် ဒွန်းစဏ္ဍားများ ဖြစ်နေကြပြီကို သတိထင်ထင် ဆင်ခြင်ရန်လိုအပ်လှပေသည်

ဒွန်းစဏ္ဍား (သူတောင်းစား) တို့မည်သည် မည်သည့် ပုဂ္ဂိုလ်က စွန့်ကြဲပေးကမ်းသည့် မည်သည့်ပစ္စည်းကိုမဆို အငြင်းအဆန် မရှိ ရိုကျိုးသိမ်ငယ်စွာ လက်ခံလေ့ရှိ၏။ ကောတုဟလမင်္ဂလာကို ယုံကြည်သူများသည်လည်း ထိုသို့နှယ်ဖြစ်ပါ၏။ 'ဒီလို ယတြာချေလျှင် ဒီလိုအောင်မြင်သတဲ့။ ဒီအဆောင်ကြောင့် ဒီလိုကြီးပွားသတဲ့။ ဒီရုပ်ပွားမျိုးကိုးကွယ်လျှင် အန္တရာယ်ကင်းသတဲ့' စသည့် ရုတ်ရုတ်ရုတ်ရုတ် ထွက်ပေါ်လာသည့် လောကီစီးပွားတက်ကြောင်းများကို (ဗုဒ္ဓ၏ အဆုံးအမနှင့် လျော်ညီမှု ရှိ,မရှိ) မစစ်ဆေးမူဘဲ မျက်ကန်း ယုံကြည်လက်ခံခြင်းမျိုးသည် 'အတွေးအခေါ် သူတောင်းစား' တို့၏ အမူအကျင့်သာဖြစ်ပါ၏။ ဗုဒ္ဓ၏ 'ကမ္မနိယာမ' နှင့်ဆန့်ကျင်သော ဤအမူအလေ့မျိုးကား ထေရဝါဒ ဗုဒ္ဓဘာသာဝင်တို့တွင် မရှိသင့်၊ မရှိအပ်ပါပေ။

စင်စစ် ထေရဝါဒ ဗုဒ္ဓဘာသာဝင် ဥပါသကာဟူသည် အတိတ်နိမိတ်၊ ကိန်းခန်းတဘောင်၊ နက္ခတ်၊ ဗေဒင်၊ ယတြာ၊ လက္ခဏာ၊ အိပ်မက်တိတ္ထံု၊ ရက်ရာဇာ၊ ပြဿဒါး စသည့် ဒိဋ္ဌ သုတ မုတမင်္ဂလာများကို မယုံကြည်ချေ။ ယင်းလောကီမင်္ဂလာတို့ကို ယုံကြည်လိုက်နာသော ဥပါသကာကို 'ဥပါသကာ အညံ့စား'၊ 'ဒွန်းစဏ္ဍား ဥပါသကာ'ဟု ခေါ်ပေသည်။

'ရဟန်းတို့ အကြင်သတ္တဝါတို့သည် နံနက်အခါ ကိုယ်ဖြင့် သုစရိုက်ကို ကျင့်ကြကုန်၏။ နှုတ်ဖြင့် သုစရိုက်ကို ကျင့်ကြကုန်၏။ စိတ်ဖြင့် သုစရိုက်ကို ကျင့်ကြကုန်၏။ ထိုသတ္တဝါတို့အား ကောင်းသော နံနက်ဖြစ်၏။ ထို့အတူ မွန်းတည့်၊ ညချမ်းအခါတို့၌ သုစရိုက်ကျင့်သူတို့အား ကောင်းသော မွန်းတည့် အခါ၊ ကောင်းသော ညချမ်းအခါ ဖြစ်၏' ဟု ဘုရားရှင်သည် (*တိကအင်္ဂုတ္တရပါဠိတော် – ၂၉၈*) ၌ ဟောတော်မူခဲ့သည်။

ထိုပါဠိတော်အရပင် အဋ္ဌကထာ ဂါထာအနက် ဖွင့်ရာ၌ 'ယသ္မိံဒိဝသေတ ယော သုစရိတ ဓမ္မေ ပရိပူရေန္တိ သော ဒိဝေသော' ဟု ပါဌသေသတည့် ယှဉ်၍ အနက်ပေးခဲ့သည်။

ဆိုလိုရင်းမှာ သုစရိုက်တရား ကျင့်သူတို့အား နက္ခတ်ကောင်း၊ မင်္ဂလာကောင်း၊ အခါကောင်း၊ ခဏကောင်း အားလုံး အကောင်းချည်းဖြစ်၍ မကောင်းသော နက္ခတ်၊ မင်္ဂလာမရှိ။ နက္ခတ်မင်္ဂလာ အခါကောင်း ကြုံရန် ဓာတ်ဆင် ဓာတ်ရိုက် ယတြာ စသည်တို့ ပြုလုပ်ရန် မလို။ ကိုယ်ကျင့်တရား မြဲမြံရန် သူတော်ကောင်းတရား ပွားများရန်သာ လိုသည်ဟု ဆိုလိုရင်းဖြစ်၏။

စင်စစ်သော် ကမ္မနိယာမချည်မျှင်ရှည်ကြီးတွင် သီတန်းထားသော လူသားတို့၏ သုခ၊ ဒုက္ခများအား မည်သည့် ဂါထာ၊ မန္တန်၊ အင်း၊ ယတြာ၊ အဆောင်လက်ဖွဲ့၊ သဒ္ဓိဆိုင်ရာ အစီအမံကမျှ ကပြောင်းကပြန်လုပ်၍ မရချေ။

လူသားသည် မိမိစိုက်ပျိုးသော အပင်ကို မိမိပင် ရိတ်သိမ်းရပေသည်။ 'အဆိပ်ပင်' စိုက်ပျိုးထားပါလျက် ဂါထာ၊ မန္တန်၊ လက်ဖွဲ့၊ ယတြာအားကိုးဖြင့် 'သြဇာပင်' ရိတ်သိမ်းချင်၍ မရပေ။ ကမ္မနိယာမဖြစ်ကြောင်းအတိုင်းသာ ဘဝစီးကြောင်း ရေလျှဉ်သည် စီးဆင်းနေပေသည်။ ကံ–ကံ၏အကျိုးကို မျက်ကွယ်ပြုသော လူသား၏ 'ဘဝကွင်းပြင်'တွင် မဟာအနိဋ္ဌာရုံများသာ လွှမ်းဖုံးနေပေလိမ့်မည်။

ဗုဒ္ဓဘာသာဝင်ဖြစ်ပါလျက် ကံ–ကံ၏အကျိုးကို နှစ်နှစ်ကာကာ ခိုင်ခိုင်မာမာ စွဲစွဲမြဲမြဲ မယုံကြည်၊ အကျင့်စရဏကို အလေးအနက် မထား၊ လောကီ မင်္ဂလာမှုများနှင့် အပေါ်ယံ အကာအလွှာ ကိုးကွယ်ရာ အမျိုးမျိုး နောက်သို့သာ (စီးပွားတက်ကြောင်း အလို့ငှာ) ပန်းမောစွာ လိုက်နေသူများအား အညွှန်းစား ဗုဒ္ဓဘာသာ စာရင်းဝင် ဖြစ်ကြပေသည်။

ဤနေရာ၌အလျဉ်းသင့်၍ သဲကုန်းဆရာတော် အရှင်ဉာဏိဿရ၏ 'ဗုဒ္ဓဝါဒ အခြေခံသဘောတရား'စာအုပ်မှ စာပိုဒ်ကို ထုတ်နုတ်တင်ပြလိုက်ပါသည်။

'ဗုဒ္ဓပြထားတဲ့အတိုင်း၊ သင်ထားတဲ့အတိုင်း၊ ဆုံးမထားတဲ့အတိုင်းကျင့်တဲ့ ပုဂ္ဂိုလ်တွေကို တစ်ခါတည်း အောက်တန်းမကျ အထက်တန်းရောက်အောင် ဘယ်သူက ခေါ်ဆောင်သွားမှာလဲ။ အဲဒီကျင့်တဲ့တရားက ခေါ်ဆောင်သွားမှာ။ ဗုဒ္ဓက ခေါ်ဆောင်သွားမှာ မဟုတ်ဘူး။ ကိုယ်ကျင့်တရားက ကိုယ့်ကို ခေါ်သွားလိမ့်မယ် ဆိုတာကို ယုံကြည်ထားဖို့ပါပဲ။ ဗုဒ္ဓဝါဒအရ ကိုးကွယ်ခြင်းဟာ အဲဒီအထိရောက်ရမယ်နော်။ ဒါမှ အဆင့်အတန်းမြင့်တာ။ ကိုယ့်ကိုခေါ်သွားမယ့် ပုဂ္ဂိုလ်၊ သယ်သွားမယ့် ပုဂ္ဂိုလ်၊ ခေါ်ဆောင်သွားမယ့်ပုဂ္ဂိုလ်၊

ကယ်တင်သွားမယ့် ပုဂ္ဂိုလ် သတ္တဝါ အခြားမှာမရှိဘူး။ ကိုယ့်ကို သယ်ဆောင်သွားမှာ ခေါ်ဆောင်သွားမှာ အဆင့်အတန်းမြင့်ပေးလိုက်မှာ ဘယ်သူတုံးဆိုရင် ကိုယ်ကျင့်သုံးထားတဲ့ တရားပါပဲ’

ဗုဒ္ဓဘာသာ၌ ကိုးကွယ်ခြင်းဟူသည် အကျင့်စရဏ ပြဋ္ဌာန်းပါသည်။ မိမိကိုယ်မိမိ အထက်တန်းစား ဗုဒ္ဓဘာသာဝင်အဖြစ် ခံယူလိုလျှင် ဗုဒ္ဓ၏ ဓမ္မနှင့်သင့်လျော်သော ကိုယ်ကျင့်သိက္ခာ ကို တည်ဆောက်ဖို့ လိုပါမည်။ ရတနာသုံးတန်နှင့် ကံ–ကံ၏အကျိုးကိုသာ တစိုက်မတ်မတ်စဉ်းငယ်မျှပင် အယိမ်းအယိုင်မရှိ ပကတိ ငုတ်စိုက်ကျောက်ချထားသည့်နှယ် ယုံကြည်ဖို့ လိုပါမည်။ ယင်းယုံကြည်မှုကို ထိပါးတိမ်းစောင်းစေသော ကောတုဟမင်္ဂလာ၊ လောကီမင်္ဂလာတို့၌ အားကိုးရှာခြင်း မျိုးကို အတွင်း အဇ္ဈတ္တ၌ လုံးဝ ဝင်ရောက်ခွင့် မပြုသင့်ပါ။ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၏ ဟိုဘက်မှာ အခြား သရဏံ ဂစ္ဆာမိတွေ ရှိမနေသင့်ပါ။ ဓမ္မံ သရဏံ ဂစ္ဆာမိ၏ ဟိုဘက်မှာလည်း အခြား သရဏံ ဂစ္ဆာမိတွေ ရှိမနေသင့်ပါ။ သံဃံ သရဏံ ဂစ္ဆာမိ၏ ဟိုဘက်မှာလည်း အခြား သရဏံ ဂစ္ဆာမိတွေ ရှိမနေသင့်ပါ။

ထေရဝါဒ ဗုဒ္ဓသာသနာတော်မြတ်၏ အညစ်အကြေးဖြစ်သော၊ အတွင်းရန်သူဖြစ်သော တန္တရယာန၊ ယန္တရယာနများ၏ အန္တရာယ်စက်ကွင်းမှ ရှောင်ပြီး မြင့်မြတ်သန့်စင်သော အထက်တန်းစား ဗုဒ္ဓဘာသာဝင် အဖြစ် (အကျင့်စရဏဖြင့်) ခံယူနိုင်ကြပါစေ။

## ဘုရားရှိခိုးဆုတောင်းများ

အားလပ်ရက်ဖြစ်သဖြင့် အိမ်တွင် ကျေးဇူးတော်ရှင် အရှင်ဇနကာဘိဝံသ ဆရာတော် ဘုရားကြီး၏ တစ်ဘဝ သံသရာ ကျမ်းစာအုပ်ကြီးကို တတိယအကြိမ်မြောက် ပြန်လည် ဖတ်ရှုနေစဉ်အခိုက် ဖြစ်ပါသည်။ ခင်မင်ရင်းနှီးစွဲဖြစ်သော လူရွယ်တစ်ဦး ရောက်လာသဖြင့် ကျမ်းစာအုပ်ကြီးကို လက်မှ အသာအယာ ချလျက် လူရွယ်ကို ဖိတ်ခေါ် နေရာချပေးလိုက်ပါသည်။

'ထိုင်ကွာ၊ ဘယ်က လှည့်လာတာလဲ'

'အစ်ကို့ဆီ တမင် လာတာပါ၊ ဆွေးနွေးစရာရှိလို့။ ကျွန်တော်ကြောင့် အစ်ကို စာဖတ် ပျက်သွားပြီနဲ့တူတယ်'

'ရပါတယ်ကွာ၊ အားနာစရာမလိုပါဘူး။ အေးအေးဆေးဆေးပေါ့။ လက်ဖက်လည်းစား၊ ရေနွေးလည်းသောက်။ ငါ့ညီ ဆွေးနွေးစရာရှိလည်း ဆွေးနွေးပေါ့'

' ဒီလိုပါ အစ်ကို၊ ကျွန်တော်တို့ ဘုရားရှိခိုးတဲ့အခါမှာ အပါယ်လေးပါး၊ ကပ်သုံးပါး၊ ရပ်ပြစ်ရှစ်ပါး၊ ရန်သူမျိုးငါးပါး၊ ဝိပတ္တိတရားလေးပါး၊ ဗျသနတရားငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းရပါလို၏ ဆိုပြီး ဆုတောင်းကြတယ် မဟုတ်လား'

'ဟုတ်တယ်လေ။ အစ်ကိုတို့အစဉ်အလာ တညီတညာတည်း ရွတ်ဆို ကန်တော့နေတဲ့ သြကာသ ဘုရားရှိခိုးထဲမှာ အဲဒီ ဆုတောင်းတွေ ပါတာပဲ။ အဲဒါနဲ့ ပတ်သက်လို့ ဘာတွေးမိလို့လဲ'

'အဲဒီ ဆုတောင်းတွေကို ဘုရားရှိခိုးစာထဲမှာ ပါလို့သာ ရွတ်ဆို ဆုတောင်းနေကြတယ်။ လူအတော်များများက အပါယ်လေးပါးဆိုတာ ဘာကိုဆိုလိုတာ၊ ဝိပတ္တိတရားလေးပါးဆိုတာ ဘာကိုဆိုလိုတာ၊ ဗျသနတရားငါးပါးဆိုတာ ဘာကိုဆိုလိုတာ၊ ရပ်ပြစ်ရှစ်ပါးဆိုတာ ဘာကိုဆိုလိုတာ မသိကြဘူးလေ။ အဲဒီ ဆုတောင်းတွေရဲ့ အဓိပ္ပာယ်တွေကို မသိဘဲနဲ့ ပါးစပ်နဲ့ ဆုတောင်းနေတော့ အဲဒီဆုတောင်းတွေ ဘယ်လို ပြည့်ဝလာမှာလဲ။ ဆုတောင်းနေတယ် ကိုယ်ဆုတောင်းတဲ့ ဆုဟာ ဘာဆုတွေလဲဆိုတာ မသိတာကတော့ မဖြစ်ထိုက်ဘူးလို့ ထင်တယ်။ ဒါ ကျွန်တော်စဉ်းစားမိတာ ပြောတာပါ'

'မှန်တာပေါ့ ငါ့ညီ။ ဒီ ဘုရားရှိခိုးဆုတောင်းတွေအကြောင်း ကောင်းကောင်းသိပြီးမှ ဆုတောင်းတာဟာ ပိုပြီး သဘာဝကျတာပေါ့။ ဒီလို သိဖို့ရာဟာလည်း မခက်ပါဘူး။ စာအုပ်တွေထဲမှာ ပါသားပဲ။ ကိုယ်ကိုးကွယ်တဲ့ ဆရာတော်ထံ လျှောက်ထားရင်လည်း ဆရာတော်တွေက ဟောပြောမှာပေါ့။ ပထမဦးဆုံး မိဘဖြစ်တဲ့သူက အရင်သိအောင် လေ့လာ၊ ပြီးတော့ သားသမီးတွေကို လက်ဆင့်ကမ်း၊ ဒီနည်းကို ကျင့်သုံးရင် ဘုရားရှိခိုး ဆုတောင်းတွေရဲ့ အဓိပ္ပာယ်ကို ဗုဒ္ဓဘာသာဝင်တိုင်း သိရှိလာမှာပေါ့ကွာ'

'အဲဒီလို ဆုတောင်းတွေရဲ့ အဓိပ္ပာယ်တွေကို သိရှိပြီး ဆုတောင်းမှသာ ဆုတောင်းတွေ ပြည့်ဝလာမှာပေါ့ အစ်ကို၊ ဟုတ်တလား'

'အင်း–အစ်ကို နားလည်သဘောပေါက်ထားတဲ့အတိုင်း ပြောရရင် အဓိပ္ပာယ် မသိဘဲ ဆုတောင်းသူရော၊ အဓိပ္ပာယ်သိပြီး ဆုတောင်းသူရော အဲဒီဆုတောင်းတွေ တကယ်တမ်း ပြည့်စုံဖို့ကတော့ မလွယ်ပါဘူး'

'ဗျာ'

'ငါ့ညီ အံ့သြသွားလား။ ဘုရားရှိခိုး ဆုတောင်းတွေအကြောင်း တစ်ခုချင်း ဆွေးနွေးတဲ့အခါမှာတော့ အဓိပ္ပာယ်သိပြီး ဆုတောင်းတဲ့သူတွေတောင် အဲဒီ ဆုတောင်းတွေပြည့်စုံဖို့ မလွယ်ဘူးဆိုတာ ငါ့ညီ သဘောပေါက်လာအောင် အစ်ကို ဆွေးနွေးပြပါ့မယ်။ အခုတော့ 'ဆုတောင်း'တယ် ဆိုတဲ့ ကိစ္စကို လိုရင်း ပဓာန အချက်လောက် အရင်ဆွေးနွေးချင်တယ်။ ဒါနဲ့ ငါ့ညီအနေနဲ့ ဆုတောင်းတယ်ဆိုတဲ့ ကိစ္စကို ဘယ်လို နားလည်ထားသလဲ'

'ဆုတောင်းတယ် ဆိုတာကတော့ ကိုယ်လိုချင်တာ၊ ဖြစ်ချင်တာကို ရအောင် တောင်းဆိုတာမျိုးလို့ ဆိုလိုတာ နေမှာပေါ့'

'ဘယ်သူ့ဆီမှာ ဆုတောင်းတာလဲ'

'ဘုရားရှိခိုး ဆုတောင်းဆိုတော့ ဘုရားရှင်ထံမှာ တောင်းတာပေါ့'

'အစ်ကိုတို့ရဲ့ ဘုရားရှင်က အဲဒီလို ဆုတောင်းတိုင်း ပေးမှာတဲ့လား။ ပေးမယ်လို့ရော ဘုရားရှင်က ဘယ်တုန်းက အာမခံထားသလဲ'

'ဒါတော့ ကျွန်တော် မသိဘူး အစ်ကို။ များသောအားဖြင့်လည်း အဲဒီသဘောနဲ့ ဆုတောင်းနေကြတာပဲ မဟုတ်လား။ ဘုရားရှင်ထံမှသာ မဟုတ်ပါဘူး။ အခြား နတ်တွေ၊ ဘိုးတော်တွေထံမှာလည်း ဒီလိုပဲ ဆုတောင်း ဆုယူလုပ်နေကြတာပဲ'

"အေး–နတ်တွေ ဘိုးတော်တွေ တန်ခိုးရှင်ဆိုတဲ့ ပုဂ္ဂိုလ်တွေကတော့ လူသားတွေ တောင်းတဲ့ဆု ပေးနိုင်သလား၊ မပေးနိုင်သလား အစ်ကို မသိဘူး။ တစ်လောကလုံးရဲ့ တုနှိုင်းမဲ့ ကိုးကွယ်ရာဖြစ်တဲ့ မဟာကရုဏာတော်ရှင်လည်း ဖြစ်တဲ့ မြတ်ဗုဒ္ဓကတော့ လူသားတွေ တောင်းတဲ့ဆု ပေးမယ်လို့ အာမခံတော် မမူဘူး။ အစ်ကိုတို့ရဲ့ မြတ်ဗုဒ္ဓဟာ သံသရာ ဝဋ္ဋဒုက္ခကြီးက အပြီးတိုင် လွတ်မြောက်အောင် 'လမ်းညွှန်သူ' သာ ဖြစ်ပါတယ်။ တစ်ခါက ဘုရားရှင်ကို အသိဗန္ဓကရဲ့သား ရွာသူကြီးတစ်ဦးက ဗြာဟ္မဏဆရာကြီးတွေက သေသွားသူကို နတ်ပြည်ရောက်အောင် ဆုတောင်းပေးနိုင်ကြပါတယ်။ အရှင်ဘုရားကတော့ အဲသလို လုပ်ပေးနိုင်ပါသလား လို့ လျှောက်ထားပါတယ်။ ဒီတော့ ဘုရားရှင်က ဒုစရိုက်မှု ပြုလုပ်ပြီး သေသွားသူအတွက် လူအများက စုပေါင်းပြီး 'နတ်ပြည်ရောက်ပါစေ' လို့ ဆုတောင်းပေးမယ့် ရေမှာ နစ်မြုပ်နေတဲ့ ကျောက်ခဲကို ကမ်းပေါ် ရောက်ပါစေလို့ ဆုတောင်းလို့ မရနိုင်သလိုပဲ ရှိကြောင်း၊ သုစရိုက်လုပ်ပြီး သေသွားသူကို အပါယ်ကျပါစေလို့ ဆုတောင်းရင်လည်း ထောပတ်အိုးကို ရေမှာ ချပြီး ရေပေါ် ဝေ့လာတဲ့ ထောပတ်ဆီတွေကို နစ်မြုပ်ပါစေ လို့ ဆုတောင်းလို့ မရနိုင်သလိုဖြစ်ကြောင်း ဟောကြားတော်မူပါတယ်။ ဘုရားရှင်ရဲ့ ဒီဟောကြားတော်မူချက်ဟာ အင်မတန် တရားမျှတတဲ့ ကမ္မနိယာမကို ဖော်ညွှန်းတော်မူသလို လူသားဟာ မိမိရဲ့ ကောင်းကံ၊ ဆိုးကံကို မိမိသာသာ

ဖန်တီးယူရကြောင်း၊ တစ်စုံတစ်ဦးရဲ့ထံမှာ လက်ဖြန့်ခံတောင်း လို့ မရနိုင်ကြောင်း ဖော်ပြနေတာပဲ ဖြစ်ပါတယ်။ ပြီးတော့ မြတ်ဗုဒ္ဓရဲ့ ဒီဟောကြားတော်မူချက်ဟာ လူသားရဲ့ တန်ဖိုး၊ လူသားရဲ့ ဂုဏ်ရည်ကို အသိအမှတ်ပြုပြီး တစ်စုံတစ်ရာသော တန်ခိုးရှင်တွေ၊ ဖန်ဆင်းရှင်တွေက လူသားတွေရဲ့ ဘဝကို လိုသလို စေစားဖန်တီးနိုင်တယ်ဆိုတဲ့ အတွေးအခေါ်မှားကို လုံးဝဆန့်ကျင် ချေဖျက်တော်မူခဲ့တာပဲ ဖြစ်ပါတယ်။ ဗုဒ္ဓရဲ့ဝါဒဟာ ကိုယ့်ကိုကိုယ် အားကိုးရေးဝါဒ၊ ကိုယ့်ခြေထောက်ပေါ် ကိုယ်ရပ်ရေးဝါဒ၊ တစ်နည်းပြောရရင် အလုပ်သမားဝါဒလည်း ဖြစ်ပါတယ်။ အသီးလိုချင်ရင် အသီးသီးတဲ့ အပင်ကို စိုက်ရမယ်။ အရွက်လိုချင်ရင် အရွက်ထွက်မယ့် အပင်ကို စိုက်ရမယ်။ ဘာအပင်မှ မစိုက်ဘဲနဲ့ အသီးအရွက်လိုချင်တယ်လို့ ဆုတောင်းနေရုံတော့ ဘယ်တန်ခိုးရှင်ကမှ အသီးရော အရွက်ပါလာပေးမှာ မဟုတ်ပါဘူး"

"အစ်ကို ပြောသလိုဆိုရင် ဘုရားရှိခိုးစာထဲမှာ ပါတဲ့ ဆုတောင်းတွေကို ကိုယ်တိုင် လုပ်ယူရမယ့် အရာတွေပေါ့နော်"

"မှန်တာပေါ့ကွာ၊ ကိုယ်တိုင် လုပ်မယူဘဲ အကြိမ်ပေါင်း ရာထောင်ချီပြီး ဆုတောင်းနေရုံကတော့ ဘယ်မှာလာပြီး ဆုတောင်းတဲ့အတိုင်း ပြည့်စုံနိုင်မှာလဲ။ အဲဒီလို အပတ်တကုတ် အားထုတ်ကြိုးစားယူမှ ရရှိနိုင်တဲ့ ဆုတောင်းတွေကို အစဉ်အလာရသာ ရွတ်ဆိုနေပြီး အနက်အဓိပ္ပာယ်တောင် မသိတဲ့သူကျတော့ ကိုယ်တိုင် မသိတဲ့အရာကို တောင်းနေရာ ကျမနေဘူးလား။ ဒီတော့ ဘုရားရှိခိုး ဆုတောင်းတွေရဲ့ အနက်အဓိပ္ပာယ်တွေကို အပြည့်အစုံ အကျယ်အပြန့် မဟုတ်တောင် လိုရင်း အကျဉ်းလောက်တော့ သိထားသင့်တာပေါ့"

"စောစောက အစ်ကို ပြောတဲ့အထဲမှာ ဘုရားရှိခိုး ဆုတောင်းတွေဟာ အနက်အဓိပ္ပာယ်သိတဲ့ လူတောင် ပြည့်စုံဖို့ မလွယ်ဘူးလို့ ပါခဲ့တယ်လေ။ ပြည့်စုံဖို့ မလွယ်ဘူးဆိုတာ လုံးဝ မလွယ်တာကို ပြောတာလား။ ခက်ခဲလွန်းလို့ ပြောတာလား"

"အဲဒါကို အစ်ကို တစ်ခုချင်း ရှင်းပြပြီးတဲ့အခါမှာ ငါ့ညီ တဖြည်းဖြည်း သဘောပေါက်လာပါလိမ့်မယ်။ အပါယ်လေးပါး ဆိုပါတော့၊ အပါယ်လေးပါး ဆိုတာ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ ဆိုတာလောက်တော့ ငါ့ညီ သိပြီးဖြစ်လိမ့်မယ်။ အဲဒီ အပါယ်လေးပါးက တကယ်တမ်း လွတ်ချင်ရင် 'သောတာပန်' ဖြစ်အောင် လုပ်မှ ရပေလိမ့်မယ်။ သောတာပန်မဖြစ်သေးဘဲ သံသရာကျင်လည်နေသမျှ ကာလပတ်လုံး ဒီအပါယ်လေးပါးက လုံးဝလွတ်မယ်လို့ စိတ်ချချင်မှ စိတ်ချရလိမ့်မယ်။ ကျင်လည်ရာ ဘဝအထွေထွေမှာ ဘာတွေဖြစ်ဦးမယ် ဆိုတာ ဘယ်သူမှ အာမ မခံနိုင်ဘူး။ သေသေချာချာစဉ်းစားကြည့်လေ။ တရားတော်တွေမှာလည်း အထင်အရှားပါတာပဲ။ နတ်ပြည်က စုတေပြီး တိရစ္ဆာန်ဘဝ ရောက်ခဲ့တာတွေ ရှိနေတာပါပဲ။ သံသရာကျင်လည်နေသေးသမျှ၊ သောတာပန် မဖြစ်သေးသမျှတော့ အပါယ်တံခါး မပိတ်သေးဘူး ငါ့ညီ။ ဒီတော့ အပါယ်လေးပါးကို တကယ်ကြောက်ပြီး အဲဒီက လွတ်ချင်ရင် သောတာပန်ဖြစ်အောင်လုပ်ဖို့ မလိုပေဘူးလား။ ဒါကြောင့် အပါယ်လေးပါးရဲ့ အဓိပ္ပာယ်ကို သိပြီး လွတ်အောင် ဆုတောင်းနေရုံနဲ့ အပါယ်လေးပါးက လွတ်ဖို့ မလွယ်သေးဘူး။ သောတာပန်ဖြစ်အောင် အားထုတ်နိုင်မှ အပါယ်ဘေးက လုံးဝကင်းဝေးမှာ ဖြစ်ပါတယ်"

"ကပ်သုံးပါးဆိုတာ သတ္တန္တရကပ်၊ ရောဂန္တရကပ်၊ ဒုဗ္ဘိက္ခန္တရကပ် ဆိုတာကတော့ ကျွန်တော် သိတယ် အစ်ကို။ ဒီကပ်သုံးပါးက လွတ်အောင် ဘယ်လို ကျင့်ကြံနေထိုင်ရမှာလဲ အစ်ကို။ သောတာပန်ဖြစ်အောင် လုပ်ရမှာပဲလား"

"ကပ်သုံးပါးက လွတ်အောင်တော့ သောတာပန်ဖြစ်တောင် မလွတ်သေးဘူး။ ခန္ဓာကိုယ်ကြီး ရှိနေသမျှ လွတ်မယ်လို့ ဘယ်သူမှ အာမ မခံနိုင်ဘူး။ **'နမ္မားဆရာတော်ကြီး'** ကတော့ ကပ်သုံးပါးကို ခန္ဓာအဖြစ်လို့ ဟောတော်မူတယ်။ မြတ်စွာဘုရားရှင် ကိုယ်တော်တိုင် ဝေရဥ္စရာပြည်မှာ သီတင်းသုံးတော်မူခိုက် ဒုဗ္ဘိက္ခန္တရကပ်နဲ့ တွေ့တော်မူလို့ မုယောဆွမ်းကို ဘုဉ်းပေးတော်မူခဲ့ရတယ်။ ဒီတော့ ကပ်သုံးပါးက လွတ်ချင်ရင် ခန္ဓာငါးပါးချုပ်ရာ အနုပါဒိသေသနိဗ္ဗာန်ကိုရောက်အောင် အားထုတ်ရပေလိမ့်မယ်။ နှုတ်ကရွတ်ဆိုပြီး ဆုတောင်းရတာ လွယ်သလောက် လက်တွေ့ရဖို့ ဘယ်လောက်ခက်သလဲဆိုတာ ငါ့ညီ စဉ်းစားမိရောပေါ့"

"ရပ်ပြစ်ရှစ်ပါးကျတော့ကော အစ်ကို"

"ရပ်ပြစ်ရှစ်ပါးဆိုတာက အလွယ်ပြောရရင်တော့ အပြစ်ရှိသော အရပ်ပေါ့ကွာ။ အပြစ်ဆိုပေမယ့် ထူးထူးခြားခြား ဆိုးဆိုးဝါးဝါး အပြစ်မဟုတ်ပါဘူး။ မဂ်ဖိုလ်ရအောင် တရားအားထုတ်ခွင့် မရတဲ့အတွက် မဂ်ဖိုလ်ရခွင့် မရှိတာကိုဘဲ 'အပြစ်' လို့ ဆိုလိုတာ ဖြစ်ပါတယ်။ ပါဠိတော်မှာတော့ 'အက္ခဏ' လို့ သုံးစွဲပါတယ်။ အက္ခဏရဲ့ အဓိပ္ပာယ်ကတော့ အခွင့်ကောင်း၊ အခါကောင်း မဟုတ်တဲ့ ကာလဒေသပဲ ဖြစ်တယ်။ အဲဒီ ရပ်ပြစ်ရှစ်ပါးကတော့ ဘုရားပွင့်နေတဲ့အခါ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ အပါယ်လေးဘုံမှာ ဖြစ်နေခြင်း၊ ဘုရားပွင့်တဲ့အခါ လွန်စွာ အသက်ရှည်ပြီး ဘုရားရှင်ကို မဖူးတွေ့နိုင်တဲ့ အသညသတ်ပြဟ္မာနဲ့ အရူပပြဟ္မာ ဖြစ်နေခြင်း (အသညသတ်ပြဟ္မာ ဆိုတာ ခန္ဓာကိုယ်သာ ရှိပြီး စိတ်ဝိညာဉ်မရှိ။ အရူပပြဟ္မာကျတော့ စိတ်ဝိညာဉ်သာရှိပြီး ခန္ဓာကိုယ်မရှိ။ ဒါကြောင့် အဲဒီရဟန်းတော်များ မရောက်နိုင်ရာ အစွန်အဖျား ပစ္စန္တရစ်အရပ်မှာ ရောက်နေခြင်း၊ ဘုရားပွင့်ဆဲအခါ မိစ္ဆာ ဒိဋ္ဌိဉာဏ် ရှိသူဖြစ်ခြင်း၊ ဘုရားပွင့်ဆဲအခါ တရားကို နားလည်လောက်တဲ့ဉာဏ် မရှိခြင်း၊ ဒီခုနစ်မျိုးဟာ ဘုရားပွင့်ဆဲအခါ ဖြစ်နေသူတွေ၊ နောက်ဆုံးအချက်ကတော့ တတ်သိနားလည်လောက်တဲ့ဉာဏ် ရှိပေမယ့် ဘုရားမပွင့်တဲ့အခါ လူဖြစ်နေရတဲ့ အဖြစ်ကို ဆိုလိုတာ"

"ကျွန်တော်တို့ အခု လူအဖြစ်နဲ့ သာသနာတော်အတွင်းမှာ နေထိုင်ရတော့ အဲဒီ ရပ်ပြစ်ရှစ်ပါးနဲ့ ကင်းဝေးတယ်လို့ ဆိုနိုင်တာပေါ့နော်"

"မှန်တာပေါ့ကွာ။ ဘုရားရှင် ပရိနိဗ္ဗာန် ပြုတော်မူပြီး ဖြစ်ပေမယ့် သာသနာတော် ထွန်းလင်းတောက်ပနေတဲ့အချိန် ဗုဒ္ဓဘာသာဝင်အဖြစ် နေရတဲ့အချိန်ပဲဟာ။ တရားကို နားလည်လောက်တဲ့ဉာဏ် မရှိသူ မဖြစ်ဖို့ကတော့ ကိုယ်တိုင် အားထုတ်ရမယ့် ကိစ္စပဲ။ ဒါကလည်း ဓမ္မစာပေတွေ ဖတ်ရှုရမယ်။ ဆရာတော်ကြီးတွေ ဟောကြားတဲ့ တရားဒေသနာကို နားကြားရမယ်။ စာပေပရိယတ္တိ နှံ့စပ်ကျွမ်းကျင်တော်မူတဲ့ ဆရာတော်ကြီးတွေထဲမှာ ရိုရိုသေသေ ချဉ်းကပ်ပြီး မသိတာ၊ မရှင်းတာတွေကို မေးမြန်းလျှောက်ထားရမယ်။ တရားတော်တွေကို နားလည်လောက်တဲ့ဉာဏ် ကိုယ့်မှာရှိလာအောင် အဘက်ဘက်က အားထုတ်ရမှာပေါ့"

“ရန်သူမျိုးငါးပါးကတော့ ရေ၊ မီး၊ မင်း၊ ခိုးသူ၊ မချစ်မနှစ်သက်သောသူတွေကို ဆိုလိုတာလို ကျွန်တော်သိပါတယ်။ အဲဒါတွေက လွတ်အောင်ကကော”

“ရန်သူမျိုးငါးပါးကို ပြဆိုရာမှာ ရေ၊ မီး၊ မင်း၊ ခိုးသူဆိုတဲ့ အချက်လေးချက်မှာ တူညီကြပေမယ့် နောက်ဆုံးရန်သူကိုတော့ မချစ်မနှစ်သက်သောသူ လို့ ယူကြတာရှိသလို အမွေခံ သားဆိုး သမီးဆိုး လို့ မှတ်ယူကြတာလည်း ရှိပါတယ်။ **ကျေးဇူးတော်ရှင် အရှင်ဇနကာဘိဝံသ ဆရာတော်ကြီး**ကတော့ ရန်သူမျိုးငါးပါးစာရင်းမှာ အမွေခံ သားဆိုး သမီးဆိုး ကို ထည့်သွင်းတာကို လက်ခံတော်မူတယ်။ မိမိက မချစ်မနှစ်သက်ရုံနဲ့တော့ ရန်သူမဖြစ်နိုင်ဘူးလို့ ဆရာတော် ဘုရားကြီးက ယူဆတော်မူပါတယ်။ ဒီယူဆတော်မူချက်ကို အစ်ကို အင်မတန် ကြည်ညိုတယ်။ လက်တွေ့ဘဝကျတော့လည်း ကိုယ်က မချစ်မနှစ်သက်ရုံနဲ့ ရန်သူ ဖြစ်မလာတတ်ပါဘူး။ မဆက်ဆံဘဲ နေလိုက်ရုံရှိတာပါပဲ။ မအွေခံ သားဆိုး သမီးဆိုးကျတော့ စွန့်ပစ်ရလည်း အခက်၊ တွယ်ဖက်ရလည်း အခက်နဲ့ အမိအဖကို စိတ်ဆင်းရဲစေတယ်။ ရှာဖွေထားတဲ့ ပစ္စည်းဥစ္စာတွေကို ဆုံးရှုံးစေတယ်။ မိဂုဏ် ဖဂုဏ်တွေ ညှိုးမှိန်သိမ်ဖျင်းအောင် လုပ်တတ်တယ်”

“ဒါဖြင့် ရန်သူမျိုးငါးပါး စာရင်းမှာ မချစ်မနှစ်သက်သောသူအစား အမွေခံ သားဆိုး သမီးဆိုးကိုပဲ ထည့်သွင်းရမှာပေါ့နော်”

“အဲဒီလို ထည့်သွင်းတာက ပိုမိုသဘာဝကျတယ်လို့ အစ်ကို ယူဆတယ်။ ဒီ ရန်သူမျိုးငါးပါးဘေးက လွတ်ကင်းအောင်ကတော့ အတိတ်ကံနဲ့လည်း ဆိုင်တယ်။ ပစ္စုပ္ပန်ကံနဲ့လည်း ဆိုင်တယ်။ မီးကို ပေါ့ဆရင် မီးလောင်မှုနဲ့ ကြုံနိုင်တယ်။ ဒါဟာ ပစ္စုပ္ပန်ကံမကောင်းလို့ ကိုယ်ညံ့လို့ ဖြစ်တာ။ တခြား တစ်နေရာက စတင်လောင်လာတဲ့မီးကြီး မငြိမ်းနိုင်လို့ ကိုယ့်အိမ်ပါ အလောင်ခံရတာမျိုးကျတော့ ‘အတိတ်ကံ’ နဲ့ ဆိုင်ပြန်ရော။ ခိုးသူဘေး ကင်းချင်ရင် ကိုယ့်အိမ်ကိုယ် အမြဲ သတိထားပြီး လုံလုံခြုံခြုံဖြစ်အောင် လုပ်ထားပေါ့။ မလုံခြုံလို့ အခိုးခံရတာ ကိုယ်ညံ့လို့ပဲ။ ကိုယ့်အိမ်၊ ကိုယ့်ရာ၊ ကိုယ့်ဝင်း၊ ကိုယ့်ခြံကို လုံခြုံအောင်တော့ မစောင့်ရှောက်ဘဲ ဆုတောင်းနေရုံနဲ့တော့ ခိုးသူဘေးက ကင်းဝေးမှာ မဟုတ်ပါဘူး။ မင်းပြစ်မင်းဒဏ်ဆိုတာကလည်း မင်းက ပြဋ္ဌာန်းထားတဲ့ ဥပဒေတွေကို ဖောက်ဖျက်ရင်၊ မင်းကို ဆန့်ကျင်ရင် ခံရမှာပဲ။ မင်းမကြိုက်တဲ့အလုပ်တွေ အားလုံးရှောင်ရင် မင်းဘေးက ကင်းဝေးမှာပဲ။ အမွေခံ သားဆိုး သမီးဆိုးကျတော မိဘတွေရဲ့ အထိန်းအသိမ်း အဆုံးအမ ညံ့ဖျင်းလွန်းလို့ ဖြစ်ရတာရှိသလို၊ သားသမီးတွေရဲ့ ဗီဇကိုယ်တိုင်က (သံသရာတစ်လျှောက်လုံး သယ်ဆောင်လာတဲ့ စရိုက်ဆိုးတွေကြောင့်) ပြုပြင်လို့ မရလောက်အောင် အလွန်အကျွံ ညံ့ဖျင်းလွန်းလို့ ကြုံရတာမျိုးလည်း ရှိပါတယ်။ စီးပွားရေးကိုသာ သဲသဲမဲမဲ ရှာဖွေနေကြပြီး သားသမီးကို ပြန်လှည့်မကြည့်နိုင်အောင် အလုပ်ရှုပ်နေတဲ့ မိဘတွေ၊ ကိုယ်တိုင်က အရက်၊ ဖဲ၊ အပျော်အပါးနောက်လိုက်နေတဲ့အတွက် သားသမီးကို ဘယ်လိုမှ ဆုံးမလို့ မရနိုင်တဲ့ မိဘတွေ အများကြီး ရှိတယ်။ အမိရော အဖရော အိမ်ထောင်ရေး၊ လူမှုရေး ဖောက်ဖျက်လို့ သားသမီးတွေ အကွပ်မဲ့ကြမ်း ပရမ်းပတာ ဖြစ်နေတာတွေလည်း ရှိတယ်။ ဒါမျိုးတွေကျတော့ အမွေခံ သားဆိုး သမီးဆိုးဆိုတဲ့ ‘ရန်သူ’ကို ကိုယ်တိုင်က မွေးထုတ်နေတာပဲ ဖြစ်တယ်။ ဒီတော့ ချုပ်ပြီး ပြောရရင်

ရန်သူမျိုးငါးပါးဘေးက ကင်းဝေးအောင် ပစ္စုပ္ပန်ကံနဲ့ တားလို့ရတာလည်း ရှိပါတယ်။ မရတာလည်း ရှိပါတယ်။ သံသရာတစ်လျှောက်လုံး သယ်ဆောင်လာတဲ့ 'အတိတ်ကံ' ဆိုတာ မြင်နိုင်စွမ်း မရှိတဲ့ အရာဖြစ်လို့ 'အတိတ်ကံဆိုး' ဝင်လာရင်တော့ ပစ္စုပ္ပန်ကံ ကောင်းနေပေမယ့် တားမရတတ်တာမျိုးလည်း ရှိတတ်ပါတယ်။ ဒီတော့ ရန်သူမျိုးငါးပါးဘေးက အခါခပ်သိမ်း လုံးဝ ကင်းငြိမ်းစေဖို့ကတော့ ခန္ဓာဇာတ်သိမ်းပြီး နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်မှသာ ဖြစ်နိုင်ပါလိမ့်မယ်"

"ဝိပတ္တိတရား လေးပါးကိုလည်း ရှင်းပြပါဦး အစ်ကို"

"ဝိပတ္တိ ဆိုတာ ဖောက်ပြန်ချွတ်ယွင်းခြင်းလို့ အဓိပ္ပာယ် ရတယ်။ အဲဒီ ဝိပတ္တိတရား လေးပါးကတော့ သီလဝိပတ္တိ–သီလအကြီးစား ပျက်စီးခြင်း၊ အစာရဝိပတ္တိ–သီလအငယ်စား ပျက်စီးခြင်း၊ အာဇီဝဝိပတ္တိ–အသက်မွေးမှု မစင်ကြယ်ခြင်း၊ ဒိဋ္ဌိဝိပတ္တိ–အယူမမှန်ခြင်းတို့ ဖြစ်ပါတယ်။ သီလအကြီးစား၊ အငယ်စား မပျက်စီးစေချင်ရင် ကိုယ်တတ်နိုင်တဲ့ ကိစ္စပဲ သီလတွေလုံခြုံအောင် ထိန်းသိမ်းဖို့ပဲ။ ငါးပါးသီလလောက်မှ မစွဲမြဲဘဲ ဝိပတ္တိတရားလေးပါးမှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းရပါလို၏လို့ ဆုတောင်းမနေနဲ့ အပိုပဲ။ ကိုယ်တိုင်က တန်ဖိုးထား မထိန်းသိမ်းဘဲ တောင်းဆိုနေရုံနဲ့တော့ ဘယ်မှာ ရမှာလဲ။ အာဇီဝဝိပတ္တိ အသက်မွေးမှု မစင်ကြယ်ခြင်း ဆိုတာလည်း 'ကိုယ်' နဲ့သာ ဆိုင်တာပဲ။ ကိုယ်တိုင် ဖန်တီးနိုင်တဲ့အရာပဲ။ ခုခေတ်မှာ ရုပ်ဝတ္ထု အသစ်အဆန်းတွေကို မက်မောခုံမင်စိတ်နဲ့ ငွေကို လောဘတကြီး ရှာဖွေလာကြတယ်။ အဲဒီလို ရှာဖွေတဲ့အခါ ငွေရဖို့သာ အဓိက။ ဘယ်နည်းနဲ့ ရရဆိုပြီး သမ္မာအာဇီဝလား၊ မိစ္ဆာအာဇီဝလား ဂရုမထားဘဲ ရှာဖွေနေသူတွေ များလာတာ တွေ့ရတယ်။ အသက်မွေးမှု မစင်ကြယ်ဘဲနဲ့တော့ အာဇီဝဝိပတ္တိတရားကို ဆုတောင်းမနေနဲ့။ သားသတ်လုပ်ငန်းနဲ့ အသက်မွေးနေသူတွေ၊ မူးယစ်စေတတ်တဲ့ သေရည်သေရက် ရောင်းဝယ်နေသူတွေ၊ လက်နက်၊ အဆိပ် ကုန်သွယ်နေသူတွေ၊ ပြည့်တန်ဆာ လုပ်ငန်းနဲ့ စီးပွားရှာနေပြီး ဝိပတ္တိတရားလေးပါးမှ ကင်းလွတ်အောင် ဆုတောင်းနေလို့ကတော့ အပိုပဲ။ မရဘူး။ ဒိဋ္ဌိဝိပတ္တိက ကင်းဝေးချင်ရင်တော့ ထေရဝါဒ ပိဋကတ်တော် မြန်မာပြန်ကျမ်းတွေဖတ်၊ ဆရာတော်ကြီးတွေ ရေးသားထားတဲ့ ကျမ်းတွေကို ရှာဖွေလေ့လာ။ ဒိဋ္ဌိဝိပတ္တိက ကင်းဝေးစေဖို့သေချာပါတယ်။ ဘိုးတော်တွေ၊ နတ်တွေ၊ ကွမ်းယင်မယ်တော်၊ ဘိုးတော် အမ်းကုန်း၊ မဟိန္ဒရာ သူတော်စင်ဆိုတဲ့ ပုဂ္ဂိုလ်တွေကို ရတနာသုံးပါးနဲ့ တန်းတူထား ရှိခိုးကိုးကွယ်နေပြီး ဒိဋ္ဌိဝိပတ္တိက ကင်းဝေရပါလို၏လို့ ဆုတောင်းမနေနဲ့ ဘယ်နည်းနဲ့မှ မရဘူး"

"ဗျသနတရားငါးပါးဆိုတာကိုပါ ဆက်ပြီး ရှင်းပြပါဦး အစ်ကို"

"ဗျသနဆိုတာ ပျက်စီးခြင်း၊ ဆုံးပါးခြင်းကို ခေါ်တာ။ ဗျသနတရားငါးပါးဆိုတာ ဉာတိဗျသန–ဆွေမျိုးတွေ ပျက်စီးခြင်း၊ ရောဂဗျသန–အနာရောဂါဖြစ်ခြင်း၊ ဒိဋ္ဌိဗျသန–အယူပျက်စီးခြင်း၊ ဘောဂဗျသန–စည်းစိမ်ဥစ္စာပျက်စီးခြင်း၊ သီလဗျသန–သီလ ပျက်စီးခြင်းတွေပဲ ဖြစ်ပါတယ်။ ဒီငါးပါးစလုံးကို ပစ္စုပ္ပန်ကံနဲ့ တားလို့ရတာ ရှိသလို တားလို့မရတာလည်း ရှိတယ်။ ဆွေမျိုးတွေ ပျက်စီးခြင်းကို မိမိက မမြင်ချင် မတွေ့ချင်ပေမယ့် အဲဒီဆွေမျိုးတွေမှာ 'ကံဆိုး' တွေရှိရင် ပျက်စီးမှာပဲ။ ကိုယ်လည်း ဘယ်လိုမှ တတ်နိုင်မှာ မဟုတ်ဘူး။

သာကီဝင်မင်းတွေ ဘဝငါးရာလောက်က မုဆိုးလုပ်ခဲ့တဲ့ မကောင်းမှုကံကြောင့် ဝိဋူဍဘသတ်လို့ သေကြရတာကို မြတ်စွာဘုရားကိုယ်တော်တိုင် တွေ့မြင်သွားရတယ်မဟုတ်လား။ ဒါကြောင့် ညာတိဗျသနဆိုတာကတော့ ဆွေမျိုးတွေရဲ့ ကံသာ ပဓာနပဲ။ မိမိက ဘယ်လိုပဲ ဆုတောင်းနေပေမယ့် ဆွေမျိုးတွေ ကိုယ်တိုင်က ပစ္စုပ္ပန်ကံ ကောင်းတာတွေကို ထူထောင်ထားမှ။ အတိတ်ကံဆိုး ကြီးကြီးမားမားတွေ မရှိပါမှ ကင်းလွတ်နိုင်မှာ ဖြစ်ပါတယ်။ စည်းစိမ်ဥစ္စာပျက်စီးခြင်းဆိုတာမှာလည်း မိမိရဲ့ ပစ္စုပ္ပန်ကံ၊ အတိတ်ကံ နှစ်ရပ်စလုံးနဲ့ ပတ်သက်ဆက်ဆံနေတာပဲ။ ပစ္စည်းဥစ္စာကို မပျင်းမရိ လုံ့လဝီရိယနဲ့ ရှာဖွေမှ ရပြီးတဲ့ ပစ္စည်းဥစ္စာကို မကုန်အောင် ထိန်းသိမ်းတတ်ပါမှ အဝင်ကိုကြည့်ပြီး အထွက်ကို သုံးတတ်မှ စည်းစိမ်မပျက်စီးမှာ။ ဒါဟာ ပစ္စုပ္ပန်ကံနဲ့ သက်ဆိုင်တဲ့ အချက်တွေ။ မီးလောင်တာ၊ သဘော်ာမြုပ်တာ၊ ရေဘေးလွှမ်းမိုးတာ အစရှိတဲ့ မိမိက မတားဆီးနိုင်တဲ့ အကြောင်းကြောင်းတွေကြောင့် စည်းစိမ်ဥစ္စာပျက်စီးတာတွေလည်း ရှိတတ်တယ်။ ဒါတွေကတော့ မမြင်နိုင်တဲ့ အတိတ်ကံဆိုးနဲ့ ဆိုင်တယ်။ စီးပွားဥစ္စာတွေကို ကြိုးစားရှာဖွေမှု မပြုဘဲ အလွဲသုံးစားဖြုန်းတီးနေပြီး ဘောဂဗျသနမှ ကင်းဝေးရပါလို၏ ဆုတောင်းမနေနဲ့။ ဘယ်နည်းနဲ့မှ ဆုတောင်းမပြည့်ဘူး။ ရောဂဗျသနဆိုတာလည်း ဆုတောင်းရုံသက်သက်နဲ့ ရှောင်လွှဲလို့ မရနိုင်ဘူး။ ကျန်းမာရေးနဲ့ညီညွတ်အောင် နေထိုင်စားသောက်တတ်ဖို့ လိုမယ်။ ရာသီဥတုနှင့် သင့်တင့်အောင်၊ မျှတအောင် ပြုပြင်နေထိုင်တတ်ဖို့ လိုမယ်။ ရောဂါရစေတတ်တဲ့ အရက်၊ ဆေးလိပ်၊ မူးယစ်ဆေးဝါး၊ ကာမဂုဏ် အပျော်အပါးလိုက်စားတာမျိုးတွေကို ရှောင်နိုင်ဖို့ လိုမယ်။ မိမိနဲ့ သင့်တင့်တဲ့ အစားအသောက်ကိုသာ စားသောက်ရမယ်။ သင့်တင့်တဲ့ အစားအစာဖြစ်စေ အတိုင်းအရှည်ကို ချင့်ချိန်းပြီး စားရမယ် စသည်ဖြင့်ပေါ့လေ။ အစစ ကျန်းမာရေးနဲ့ ညီညွတ်အောင် သတိနဲ့ ဂရုပြုနေရင် ရောဂါဗျသနနဲ့ ကင်းဝေးနိုင်မှာပေါ့။ ကျန်းမာရေး ဗဟုသုတလည်း မရှိ။ အဆင်ခြင်မဲ့ နေချင်သလိုနေ၊ စားချင်သလိုစား၊ ဥတုနဲ့လည်း သဟဇာတဖြစ်အောင် မနေတတ်လို့ကတော့ ရောဂဗျသနနဲ့ ကင်းဝေးဖို့ ဘယ်လွယ်ပါ့မလဲ"

"သီလဗျသနနဲ့ ကင်းဝေးချင်ရင်လည်း မိမိကိုယ်တိုင်က သီလကို အမွန်အမြတ်ပြု တန်ဖိုးထားပြီး ထိန်းသိမ်းစောင့်ရှောက်ပေါ့။ မိမိမှာ သီလ မြဲဖို့ရာ မိမိသာ အဓိကပေါ့။ ဘယ်သူ့ဆီမှ တောင်းနေစရာ မလိုဘူး။ ဒိဋ္ဌိဗျသနလည်း ဒီလိုပဲ။ အယူမပျက်စီးစေချင်ရင် စာပေပရိယတ္တိ ကျွမ်းကျင်တဲ့ ဆရာတော်ကြီးတွေ၊ ကမ္မဋ္ဌာနာစရိယ ဆရာတော်ကြီးတွေ၊ ပညာရှိ သူတော်ကောင်းကြီးတွေထံ လေးလေးမြတ်မြတ် ဆည်းကပ်။

မြတ်ဗုဒ္ဓရဲ့ ဓမ္မစစ် ဓမ္မမှန်တွေကို သိအောင် လေ့လာ။ ကိုယ်တိုင် ကျင့်သုံးလိုက်နာ။ အခြားအခြားသော ကိုးကွယ်ရာ အမှားတွေနောက် ကောက်ကောက်ပါ မလိုက်ပါမိအောင် ရှောင်ကြဉ်။ သူများယောင်တိုင်း မယောင်နဲ့။ သူများပြောတိုင်း မယုံနဲ့။ ကိုးကွယ်ရာ၊ ယုံကြည်ရာ အယူဝါဒတွေနဲ့ ပတ်သက်လာရင် ထေရဝါဒမှတ်ကျောက်ကို လက်မလွှတ်နဲ့။ အဲဒီ ထေရဝါဒမှတ်ကျောက်နဲ့ တိုက်ဆိုင်စစ်ဆေးပြီးမှ လက်ခံသင့်တာကို လက်ခံ။ ငြင်းပယ်သင့်တာကို ငြင်းပယ်။ ဒါဆိုရင် အယူမပျက်စီးဖို့ စိတ်ချရလောက်ပြီ"

"အစ်ကို ပြောသလိုဆို သြကာသ ဘုရားရှိခိုးမှာပါတဲ့ ဆုတောင်းတွေဟာ မိမိကိုယ်တိုင် လက်တွေ့ကျင့်ကြံမှ ပြည့်စုံထမြောက်လာမယ့် ဆုတောင်းတွေက များနေတာပဲနော်"

“မှန်တာပေါ့ကွာ။ ဒါကြောင့်လည်း အစ်ကိုတို့ရဲ့ အနိုင်းမဲ့ ကိုးကွယ်ရာဖြစ်တော်မူတဲ့ ဘုရားရှင်က ကိုယ်ကိုကိုယ်အားကိုးပါ၊ ကိုယ့်ကိုကိုယ်မှီခိုပါ၊ ကိုယ်သာလျှင် ကိုယ့်ဘဝရဲ့ သခင် ဖြစ်တယ်။ ကိုယ့်ဘဝကို ကိုယ်သာပြဋ္ဌာန်းတယ်လို့ အကြိမ်ကြိမ် ဟောကြား သတိပေးတော်မူခဲ့တာပေါ့”

“အဲဒီလိုဆို ဆုတောင်းနေတာဟာ အပိုကိစ္စလို ဖြစ်မနေဘူးလား အစ်ကို”

အဲဒီလို ယူဆရင်တော့ အစွန်းတစ်ဖက်ကို ရောက်သွားမှာပေါ့ ငါ့ညီ။ ဒါဟာ အင်မတန် သိမ်မွေ့တဲ့ ကိစ္စပဲ။ အထိုက်လျောက် ဓမ္မစာပေတွေကို ဖတ်ရှုဖူးပြီး ရှေးသူတော်ကောင်းကြီးများရဲ့ ကျေးဇူးတရားနဲ့ အမြော်အမြင်တွေကို မြတ်မြတ်နိုးနိုး တန်ဖိုးထားတတ်ရင် ဆုတောင်းတဲ့ကိစ္စအပေါ်မှာ အစွန်းနှစ်ဖက် လွတ်စွာနဲ့ ခံယူနိုင်မှာ ဖြစ်ပါတယ်။ ဆုဆိုတာကို တန်ခိုးရှင်၊ ဖန်တီးရှင် တစ်ဦးဦးက ပေးနိုင်တယ်။ ကိုယ်တိုင် ကျင့်ကြံအားထုတ်လုပ်ကိုင်ဖို့ မလိုဘဲ ပြည့်တယ်လို့ ယူဆရင် အဲဒါဟာ အစွန်းတစ်ဖက်ပဲ။ အလုပ်လုပ်ပြီးရင် ပြီးတာပဲ။ ဆုတောင်းနေဖို့ မလိုပါဘူး။ ဘုရားရှိခိုးစာထဲမှာ ပါတဲ့ ဆုတောင်းတွေဟာ အပိုတွေပါပဲလို့ ယူဆရင်လည်း အစွန်းတစ်ဖက်ပဲ”

“အလုပ်မလုပ်ဘဲ ဆုတောင်းရင် ပြည့်ဝတယ်ဆိုတဲ့ အစွန်းတစ်ဖက်ကိုတော့ ကျွန်တော် သဘောပေါက်ပါပြီ အစ်ကို။ ဒုတိယ အစွန်းတစ်ဖက်ကိုတော့ ကျွန်တော် သဘောမပေါက်လို့ ရှင်းပြပါဦး”

“ဩကာသ ဘုရားရှိခိုးစာကို စီရင်ရေးသားတော်မူတဲ့ ဆရာတော်ကြီးဟာ သာသနာတော်ကို တကယ် ကြည်ညိုတဲ့ စာပေပရိယတ္တိ ကျွမ်းကျင်တော်မူတဲ့ ဆရာတော်ကြီးဖြစ်ပါတယ်။ ဒီ ဘုရားရှိခိုးတော်ကြီးကို ဆရာတော်ကြီးတွေ ပညာရှိ သူတော်ကောင်းကြီးတွေက နောင်လာနောက်သားတွေကို မေတ္တာ ကရုဏာများစွာနဲ့ လက်ဆင့်ကမ်းခဲ့ကြတယ်။ ဒီကျေးဇူးရှင်ကြီးတွေရဲ့ မေတ္တာ ကရုဏာနဲ့ အမြော်အမြင်ကြီးမှုတွေကို အစ်ကိုတို့လို နောင်လာနောက်သားတွေက အမွန်အမြတ် ပြုရမယ်။ ဦးထိပ်ပန်ဆင်ရမယ်။ အခုလို အပါယ်လေးပါး၊ ကပ်သုံးပါး၊ ရပ်ပြစ်ရှစ်ပါး၊ ရန်သူမျိုးငါးပါး၊ ဝိပတ္တိတရားလေးပါး၊ ဗျသနတရားငါးပါးအကြောင်း ဆွေးနွေးခိုင်းတာကိုက ဘုရားရှိခိုးစာထဲမှာ ပါလို့ ငါ့ညီ ဆွေးနွေးဖြစ်တာ မဟုတ်လား။ ဆွေးနွေးဖြစ်လို့လည်း သာသနာရေးဆိုင်ရာ သိသင့်သိထိုက်တာတွေကို သိသွားရပြီ။ တကယ့်ကို ကြောက်သင့် ကြောက်အပ်၊ မကြုံဆုံသင့် မကြုံဆုံအပ်၊ မဖြစ်သင့် မဖြစ်အပ်တဲ့ အရာတွေကို ဒီဆုတောင်းတွေမှာ သတိပေး ညွှန်ပြထားတာပဲ။ ဒီဆုတောင်းတွေရဲ့ အနက် အဓိပ္ပာယ်တွေကို ငါ့ညီ သိသွားပြီ။ အဲဒီလို သိသွားပြီးတဲ့နောက် ဘုရားရှိခိုး ဝတ်ပြုတဲ့အခါတိုင်း အဲဒီ ဆုတောင်းတွေကို ရွတ်ဆိုမယ်။ အဲဒီလို ကြိမ်ဖန်များစွာ ရွတ်ဆို ဆုတောင်းတဲ့အတွက် အဲဒီဘေးကြီးတွေက ကင်းဝေးစေလိုတဲ့ စိတ်တွေကို ဆက်လက်ဖြစ်ပွားအောင် ထိန်းသိမ်းထားရာ မရောက်ပေဘူးလား။ ဆိုချင်တာက အဲဒီလို ဘုရားရှိခိုးတိုင်း ဆုတောင်းနေတော့ အဲဒီဘေးကြီးတွေက ကင်းဝေးအောင် မိမိအနေနဲ့ အားထုတ်ကြိုးစားဖို့တွေ လိုနေပါသေးသလား။ မိမိရဲ့ ကာယကံ၊ ဝစီကံ၊ မနောကံတွေကို ပြုပြင်ဖို့ လိုနေပါ သေးလား ဆိုပြီး မိမိကိုယ်ကို ပြန်လှန်သုံးသပ် စိစစ်တာတွေ ဆင်ခြင်မိတာတွေ ဖြစ်ပွားမလာပေဘူးလား။ ဒါကြောင့်

ဘုရားရှိခိုး ဆုတောင်းတွေကို အဓိပ္ပာယ် သိသိနဲ့ အလေးအနက် နှလုံးသွင်းဆင်ခြင် ဆုတောင်းခြင်းကြောင့် မိမိကိုယ်ကို ဓမ္မလမ်းကြောင်းအတိုင်း လျှောက်လှမ်းဖို့ အမြဲ သတိပေးနေနိုင်တယ်လို့ အစ်ကို ယူဆပါတယ်"

"နောက်တစ်မျိုးယူဆရရင် မိမိဖြစ်ချင် ရချင်တဲ့ ဆန္ဒတွေကို ဖော်ပြပြီး ပြည့်စုံအောင် လုပ်ပါမယ်လို့ မိမိကိုးကွယ်ရာ ဘုရားရှင်ရဲ့ ရှေ့တော်မှောက်မှာ သန္နိဋ္ဌာန်ချခြင်းတစ်မျိုး ဖြစ်ပါတယ်။ ဒီသန္နိဋ္ဌာန်ချခြင်းကို ဘုရားရှိခိုးစဉ်တိုင်း ပြုတဲ့အခါကျတော့ မိမိရဲ့ အတွင်းသန္တာန်မှာ ပိုမိုခိုင်မြဲလာတယ်။ ဥပမာပြောရရင် နောက်ဘဝတွေမှာ အပါယ်လေးဘုံ ရောက်မှာကို တကယ် ကြောက်ရွံ့သလား။ အပါယ်လေးဘုံမှ တကယ့်ကို ကင်းဝေးစေလိုသလား။ အဲဒီ အပါယ်ဘေးက ကင်းဝေးလိုတဲ့ သမ္မာဆန္ဒများ မိမိရဲ့ အဇ္ဈတ္တသန္တာန်မှာ ငုတ်စိုက်ကျောက်ချသလို ခိုင်ခိုင်မြဲမြဲ စွဲစွဲနစ်နစ် တည်ရှိနေသူတစ်ဦးကတော့ သောတာပန်ဖြစ်အောင် အားထုတ်မယ့် လမ်းကြောင်းအပေါ် လျှောက်လှမ်းသွားမှာပဲ။ ဒီတော့ အပါယ်ဘေးမှ ကင်းဝေးရပါလို၏လို့ ဆုတောင်းစဉ်တိုင်း မိမိဟာ သောတာပန်ဖြစ်အောင် အားထုတ်မှ ဒီအပါယ်ဘေးကြီးက လွတ်မှာပါလားဆိုတဲ့ အသိမျိုး၊ အဓိဋ္ဌာန်မျိုး ပေါ်ပေါက်လာတဲ့အထိ ဆုတောင်းတွေအပေါ်မှာ လေးနက်သက်ဝင်ဖို့ လိုပါတယ်။ အဲဒီလို လေးလေးနက်နက် နှလုံးသွင်း ဆုတောင်းကြရင်ဖြင့် ဆုတောင်းတဲ့ကိစ္စဟာ အပိုကိစ္စ မဟုတ်ကြောင်း လက်တွေ့သိလာပါလိမ့်မယ်။ အခုအထိ ဆွေးနွေးလာပြီးတဲ့အခါကျတော့ ဒီသြကာသ ဘုရားရှိခိုးဆုတောင်းတွေထဲမှာ ထူးခြားတာအချို့ကို ငါ့ညီ သတိထားမိရဲ့လား"

"ကျွန်တော်သတိထားမိသလောက်တော့ ဒီဘုရားရှိခိုးဆုတောင်းတွေဟာ တကယ်တမ်း မိမိကိုယ်မိမိ အားကိုးပြီးမှ ကျင့်ကြံလုပ်ကိုင်မှ ပြည့်စုံနိုင်မယ်။ ပြီးတော့ ဒီဆုတောင်းတွေဟာ တောင်းသင့် တောင်းထိုက်တဲ့ ဆုတောင်းတွေ၊ သမ္မာဆန္ဒတွေလည်း ဖြစ်တယ်ဆိုတဲ့ အချက်လောက်ပါပဲ အစ်ကို"

"မှန်တာပေါ့ ငါ့ညီရာ။ ဒီဘုရားရှိခိုးဆုတောင်းတွေဟာ ဘဝနေနည်း လမ်းညွှန်လည်းဖြစ်၊ လောကုတ္တရာ လုပ်ငန်း လမ်းညွှန်တွေလည်း ဖြစ်ပါတယ်။ အယူပျက်စီးခြင်း၊ သီလပျက်စီးခြင်း ဘေးများမှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းရပါလို၏ ဆိုတဲ့ ဆုတောင်းတွေဟာ အင်မတန်ကို အမြော်အမြင်ကြီးတဲ့ ဆုတောင်းတွေပါ။ ဗုဒ္ဓဘာသာဝင် တစ်ယောက်အနေနဲ့ အယူပျက်စီးရင်၊ သီလပျက်စီးရင် ဘာလောကီ အစီအမံတွေနဲ့မှ မတားနဲ့။ ဘယ်လက်ဖွဲ့၊ အင်း၊ အဆောင်၊ ယတြာတွေနဲ့မှ မဟန့်နဲ့။ အဲဒီလူဟာ မျက်မှောက်ဘဝမှာလည်း ဒုက္ခရောက်မှာပဲ။ လားရာဂတိလည်း ဘယ်နည်းနဲ့မှ မကောင်းနိုင်ဘူး။ ဒါကြောင့် ဒီဆုတောင်းတွေကို မြတ်မြတ်နိုးနိုး တန်ဖိုးထားပြီး တောင်းပါ။ အဲဒီ ဆုတောင်းတွေနဲ့ ပြည့်စုံဖို့ရာကတော့ ထေရဝါဒ ဗုဒ္ဓစာပေကျမ်းဂန်များ လမ်းညွှန်ချက်များ၊ ဆရာတော်ကြီးများရဲ့ သြဝါဒတော်များနဲ့အညီ မိမိကိုယ်တိုင်ကပဲ ကျင့်ကြံအားထုတ် အလုပ်လုပ်ရမှာပေါ့"

## စိပ်ပုတီးနှင့် ဗုဒ္ဓဘာသာ

(၁)

"ဒီနေ့ အစ်ကို အားတယ် မဟုတ်လား။ အစ်ကိုနဲ့ ဆွေးနွေးစရာ ရှိလို့"

"အားပါတယ်။ မင်း ဆွေးနွေးစရာ ရှိတာ ဆွေးနွေးနိုင်ပါတယ်"

"စိပ်ပုတီးအကြောင်းပါ အစ်ကို။ ကျွန်တော် အခု စိပ်ပုတီး စိပ်နေတယ်။ လက်လှမ်းမီရာ စိပ်ပုတီးအကြောင်း ရေးသားထားတဲ့ ဆောင်းပါးတွေ ဖတ်ကြည့်တယ်။ တချို့ကလည်း စိပ်ပုတီးကို ဘယ်လိုအသားနဲ့ ဘယ်လို အစီအမံတွေ လုပ်ပြီးမှ စိပ်သင့်တယ်လို့ အကြံပေးလာကြတယ်။ အဲဒီအခါမှာ စိပ်ပုတီးနဲ့ ပတ်သက်ပြီး စဉ်းစားစရာတွေ၊ ဝိဝါဒ ကွဲစရာတွေ သံသယဖြစ်စရာတွေ တွေ့လာရတယ်"

"ဆိုပါဦးလေ။ ဘယ်လို သံသယဖြစ်စရာတွေများလဲ"

"ဆောင်းပါး တစ်စောင်မှာ စိပ်ပုတီးစိပ်စိပ် မစိပ်စိပ် ဘယ်သူမဆို ဦးခေါင်း၊ လည်ပင်း၊ မျက်နှာ၊ အိမ်မိုး စတဲ့ နေရာတွေမှာ စိပ်ပုတီးကို ထားပြီး ကိုးကွယ်ရင် အဲဒီသူဟာ ကမ္ဘာတစ်သိန်းတိုင် အပါယ်မလားရာလို့ ဖတ်လိုက်ရတယ်။ ကျွန်တော်တော့ တော်တော့်ကို ဘဝင်မကျ ဖြစ်မိတယ်။ ပုတီးကို မစိပ်ဘဲနဲ့ လည်ပင်းမှာ ဆွဲထားရုံ၊ ခေါင်မိုးမှာ ချိတ်ထားရုံနဲ့ အပါယ်မလားဘူးဆိုတာ ဒုစရိုက်တရားတွေ ရှောင်ဖို့မလို၊ သုစရိုက်တရားကို ဆောင်ဖို့မလိုသလို ဖြစ်မနေဘူးလား။ ပြီးတော့ ပုတီးကို ကိုးကွယ်ထားရင်တဲ့။ ပုတီးကို ကိုးကွယ်တယ်ဆိုတဲ့ အသုံးအနှုန်းဟာ သုံးနှုန်းသင့်ထိုက်သလားလို့ စဉ်းစားမိပါတယ်"

"မင်းအသက် မင်းအရွယ်နဲ့ ဒီလောက် စဉ်းစားတွေးခေါ်တတ်တာကို အစ်ကို သဘောကျတယ်။ အမှန်တော့ ထေရဝါဒ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက်မှာ မရှိမဖြစ် လိုအပ်တဲ့ အရည်အချင်းတစ်ရပ်က အရာရာမှာ ဝေဖန်ခွဲခြမ်း စိတ်ဖြာနိုင်စွမ်း ရှိခြင်းပဲ။ ကာလာမသုတ်မှာ ဘုရားရှင် ဟောတော်မူထားသလို လူပြောသူပြော စကားတွေ အစဉ်အလာစကားတွေမှာ နားမဆုံးစေဘဲ မိမိရဲ့ ပင်ကိုဉာဏ်ကို အသုံးချတတ်ဖို့ အင်မတန် အရေးကြီးတယ်။ ဒီနေ့ ဘာသာရေး မဂ္ဂဇင်းတွေ များလာ၊ ဘာသာရေးဆောင်းပါး ရေးသူတွေ များလာတာ ကောင်းတဲ့ အသွင်လက္ခဏာ ဖြစ်ပေမယ့် အချို့ ဆောင်းပါးရှင်တွေက ထေရဝါဒ အခြေခံသဘောတရားတွေ နားလည်လို့ ရေးနေကြတာတွေ မဟုတ်ဘူး။ ထေရဝါဒအမြင်ထက် ကိုယ့်ဆန္ဒစွဲ အမြင်ကိုသာ ဟုတ်လှပြီအထင်နဲ့ ရေးနေကြသူတွေလည်း ရှိတယ်။ ဒီအခြေအနေမှာ ဖတ်သူအနေနဲ့ သူရေးသမျှတွေကို လွယ်လင့်တကူ မယုံကြည်ဖို့ ကိုယ်ပိုင်ဉာဏ်နဲ့ ချင့်ချိန်ဝေဖန်ဖို့ လိုအပ်တာပေါ့။ အခု မင်းပြောတဲ့ ဆောင်းပါးကလည်း ဝိဘဇ္ဇဝါဒီ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေအဖို့တော့ ပြက်လုံးတစ်ခုပေပဲ။ အမှန်တော့ ပုတီးကို အဆောင်လက်ဖွဲ့လို သဘောထားပြီး ရေးသွားတာ အပါယ်မလားဘူး ဆိုတာ အကျင့်စရဏနဲ့ပဲ ဆိုင်တယ်။ အကျင့်စရဏနဲ့ပဲ အပါယ်ကိုတားမြစ်လို့ရတယ်။ ဗုဒ္ဓဘာသာဝင်တွေ အိမ်တိုင်းမှာ ဘုရားရှင်ကိုယ်စား ရုပ်ပွားဆင်းတုတော်တွေ ကိုးကွယ်ထားကြတာပဲ။ ဘုရားရှင်က ငါ့ကို အိမ်ဦးခန်းမှာ ကိုးကွယ်ထားရင် တရားကို ကျင့်သုံးသည်ဖြစ်စေ၊

မကျင့်သုံးသည်ဖြစ်စေ အပါယ်မလားဘူးလို့ ဟောဖူးလို့လား။ ဘုရားရှင်ကို ကြည်ညိုလွန်းလို့ နောက်တော်ပါးက တစ်ဖဝါးမကွာ လိုက်ပါတဲ့ ရဟန်းတစ်ပါးကို ဓမ္မကျင့်မှသာ ငါဘုရားကို ကြည်ညိုရာ ကျတယ်။ ဓမ္မကိုမြင်မှ ဘုရားကို မြင်တယ်လို့ ဟောတော်မူခဲ့တာပဲ။ ပုတီးကို စိပ်စိပ် မစိပ်စိပ် လည်ပင်းမှာ အိမ်ခေါင်မိုးမှာ ချိတ်ဆွဲထားရုံနဲ့ ကမ္ဘာတစ်သိန်း အပါယ်မလားဘူးဆိုတဲ့ အရေးအသားဟာ ဗုဒ္ဓအလိုတော်နှင့် ဘယ်လောက်ဆန့်ကျင်သလဲဆိုတာ ဆင်ခြင်စဉ်းစားတတ်ရောပေါ့။ ပုတီးကို ကိုးကွယ်တယ်ဆိုတဲ့ အသုံးအနှုန်း သုံးသင့် မသုံးသင့်တာကတော့ တို့ဗုဒ္ဓဘာသာဝင်တွေရဲ့ ကိုးကွယ်ရာ ဗုဒ္ဓ၊ ဓမ္မ၊ သံဃာ ရတနာသုံးပါး ဘာဖြစ်လို့ ပုတီးကို ကိုးကွယ်တယ်ဆိုတဲ့ အသုံးအနှုန်း သုံးသင့် မသုံးသင့် ထူးပြီး စဉ်းစားနေစရာမလိုပါဘူးကွာ။ အင်မတန် ရှင်းလင်း သိသာတဲ့အချက်ပဲ"

"ပြီးတော့ ကျွန်တော် ဘဝင်မကျတာက ပုတီးကိုပဲ ခုနစ်ရက် သားသမီးအလိုက် တနင်္ဂနွေသားဆိုတော့ အင်သား၊ တနင်္လာသားဆိုရင် ငုသား၊ အင်္ဂါသားဆိုရင် ဆီးသား စသည်ဖြင့် ပြုလုပ်ရမယ်ဆိုတာရယ်၊ တချို့က ပန်းပေါင်း၊ ဂမုန်းပေါင်းတွေနဲ့ ပုတီးစေ့ ပြုလုပ်ပြီး အင်းမြုပ်သစ်စေးသုတ်လိမ်းပြီးမှ စိပ်ရမယ်ဆိုတာရယ် အဲဒါတွေဟာ လိုကော လိုအပ်သလား အစ်ကို"

"အမှန်တော့ မင်းပြောတာတောင် မကဘူး၊ ဂြိုဟ်တိုင် စိပ်ပုတီးတို့ ဓာတ်ဆင်စိပ်ပုတီးတို့ ပြုလုပ်တာတွေလည်း ရှိသေးတယ်။ ဂြိုဟ်တိုင် စိပ်ပုတီး ပြုလုပ်ပုံကတော့ တနင်္ဂနွေ အုန်းသား (၆) လုံး၊ တနင်္လာ ကျွန်းသား (၁၅) လုံး၊ အင်္ဂါ ဆီးသား (၈) လုံး၊ ဗုဒ္ဓဟူး ဝါးသား (၁၇) လုံး၊ စနေ ထိမ်သား (၁၀) လုံး၊ ကြာသပတေး မှန်သား (၁၉) လုံး၊ ရာဟု ရှားသား (၁၂) လုံး၊ သောကြာ သီးသား (၂၁) စုစုပေါင်း (၁၀၈) လုံး။ မိမိရဲ့ နေ့နံသစ်သားကို စိပ်ပုတီးခေါင်းပြုလုပ်ပြီး စိပ်ကြတဲ့ နည်းပေါ့။ ဓာတ်ဆင် စိပ်ပုတီး ပြုလုပ်ပုံကတော့ ပိတောက်သားဖြစ်တဲ့ လှည်းပုံတောင်းသားကို ပုတီးပြုလုပ်၊ ပုတီးခေါင်းမှာ ပြဒါးထည့်။ ပြီးတော့ ပဒိုင်းသားနဲ့ ပြန်ပိတ်ထားတာ ဖြစ်တယ်။ ဂိုဏ်းဆရာတွေ၊ ဓာတ်ဆရာတွေက အဲဒီ စိပ်ပုတီးမျိုးကို သုံးလေ့ရှိတယ်။ ဒါတွေဟာ လိုအပ်သလား၊ မလိုအပ်သလား ဆိုတာကို မဆုံးဖြတ်ခင် စိပ်ပုတီးရဲ့ သမိုင်းကြောင်းကို ခြေရာခံဖို့ လိုလိမ့်မယ်"

"စိပ်ပုတီးဟာ မြတ်စွာဘုရား မပွင့်မီကတည်းက ပေါ်ပေါက်ခဲ့တယ်ဆို ဟုတ်လား အစ်ကို"

"ဟုတ်ပါတယ်။ စိပ်ပုတီးဟာ မြတ်စွာဘုရား မပွင့်မီကတည်းက ပေါ်ပေါက်ခဲ့တာပါ။ စိပ်ပုတီးကို စတင် အသုံးပြုသူတွေဟာ အာရိယန်လူမျိုး၊ ဗြာဟ္မဏဝါဒရှင်တွေဖြစ်တယ်။ သူတို့ဟာ သူတို့ ကိုးကွယ်ရာ နတ်တွေ၊ ဗြာဟ္မဏတွေရဲ့ ဂုဏ်ကို ရွတ်ဖတ်ပြီး ပုတီးစိပ်ကြလေ့ ရှိတယ်။ ဒီတော့ စိပ်ပုတီးကို စတင် အသုံးပြုသူတွေဟာ ဗြာဟ္မဏလူမျိုးတွေ၊ ဗြာဟ္မဏဝါဒရှင်တွေပဲ ဆိုတာကိုတော့ အလေးအနက် စွဲစွဲမြဲမြဲ မှတ်ထားရမှာ ဖြစ်တယ်"

"ဒါဖြင့် ဘုရားမပွင့်မီကတည်းက ဗြာဟ္မဏလူမျိုးတွေ သုံးစွဲခဲ့တဲ့ စိပ်ပုတီးကို ဗုဒ္ဓပွင့်တော်မူပြီးတဲ့အခါ ဗုဒ္ဓဘာသာဝင်တွေက အတုယူပြီး သုံးစွဲလာကြတာပေါ့၊ ဟုတ်လား အစ်ကို"

"အဲဒါကြောင့် စိပ်ပုတီးရဲ့ သမိုင်းကြောင်းကို သေသေချာချာ သိအောင် လုပ်ပြီး ကျကျနန ဝေဖန်ဆန်းစစ်ဖို့ လိုတယ်လို့ အစ်ကို ယူဆတာပေါ့။ စိပ်ပုတီးဟာ ဗြာဟ္မဏဝါဒရှင် လူမျိုးတွေ စတင်သုံးစွဲခဲ့တဲ့ ပစ္စည်းဖြစ်တယ်၊ ဘုရားရှင် ရေလက်ထက်တော်မှာလည်း ဘာသာခြား အယူရှိတဲ့ ပုဂ္ဂိုလ်တွေ သုံးစွဲနေဆဲပဲဖြစ်တယ်။ ဒါပေမယ့်

အစ်ကိုတို့ရဲ့ တုနှိုင်းမဲ့ ကိုးကွယ်ရာ ဖြစ်တော်မူသော မြတ်ဗုဒ္ဓက စိပ်ပုတီးကို အသုံးပြုခိုင်းဖို့ နေနေသာသာ စိပ်ပုတီးဆိုတဲ့ ဝေါဟာရကို တစ်လုံးတစ်ပါဒမျှ မြွက်ဟသွားတော်မမူဘူး"

"ဗျာ ဒါဖြင့်၊ ဘုရားရှင် လက်ထက်က ဗုဒ္ဓဘာသာဝင်ဟာ ပုတီး မသုံးခဲ့ကြဘူးလား"

"ဟုတ်တယ်။ ဘုရားရှင်လက်ထက်က ဗုဒ္ဓဘာသာဝင်တွေ စိပ်ပုတီး သုံးစွဲခဲ့ကြတဲ့ အထောက်အထား မရှိဘူး။ ကျွတ်တမ်းဝင်သွားတဲ့ ပုဂ္ဂိုလ်တွေဟာ စိပ်ပုတီးကို သုံးစွဲခဲ့ကြတယ်ဆိုတဲ့ အထောက်အထားလည်း မရှိပါဘူး။ ဘုရားရှင်ကလည်း သုတ်၊ ဝိနည်း၊ အဘိဓမ္မာ ကျယ်ပြောလှတဲ့ ပိဋကတ်သုံးပုံမှာ စိပ်ပုတီးအကြောင်း တစ်လုံးတစ်ပါဒမျှ မိန့်တော်မမူခဲ့ဘူး"

"အစ်ကိုပြောသလိုဆို စိပ်ပုတီးဆိုတဲ့ ဝေါဟာရ ပါဠိလို မရှိဘူးပေါ့နော်"

"ထေရဝါဒ ပိဋကတ်တော်မှာသာ မပါတာ။ ပါဠိ အဘိဓာန်မှာတော့ ပုတီးကို ဇပ္ပမာလာ လို့ သုံးနှုန်းခေါ်ဝေါ်ထားတာ ရှိပါတယ်"

"ဇပ္ပရဲ့ အဓိပ္ပာယ်က ရွတ်ဆိုခြင်း၊ သရဇ္ဈာယ်ခြင်း ဖြစ်ပြီး မာလာဆိုတာက ပန်း သို့မဟုတ် အစဉ်အတန်းလို့ အဓိပ္ပာယ် ရပါတယ်။ ဇပ္ပမာလာဆိုတာ တစ်ခုခုကို ရွတ်ဆိုသရဇ္ဈာယ်သောအခါ အကြိမ်ပေါင်းကို မှတ်သားရန် သီကုံးထားတဲ့ အရာဝတ္ထုလို့ အဓိပ္ပာယ် ပြန်ဆိုရမှာ ဖြစ်ပါတယ်"

"ရဟန်းအသုံးအဆောင်တွေထဲမှာကော ပုတီးပါသလား အစ်ကို"

"ဒါကတော့ မင်းသေသေချာချာ မစဉ်းစားဘဲမေးတဲ့ မေးခွန်းပဲ။ မေးနေစရာ လိုသေးလား။ ပိဋကတ်တွေမှာ မပါဘူးဆိုမှတော့ ရဟန်းအသုံးအဆောင်ထဲမှာ ဘယ်ပါတော့မလဲ။ ရဟန်းအသုံးအဆောင်တွေကို သင်္ကန်း၊ သပိတ်မှအစ အပ်အထိ ဘုရားရှင် ခွင့်ပြုတော်မူခဲ့တယ်။ ပုတီးတော့ မပါပါဘူး"

"စိပ်ပုတီးဟာ ဘုရားဟော ပိဋကတ်တော်တွေထဲလည်း မပါဘူး။ ရဟန်းအသုံးအဆောင်လည်း မဟုတ်ဘူး။ အဲဒါနဲ့များ ပုတီးကို ဘယ်ခေတ်က ဗုဒ္ဓဘာသာဝင်တွေက စတင် သုံးစွဲခဲ့တာလဲ အစ်ကို။ ထေရဝါဒဗုဒ္ဓသာသနာ စတင်ထွန်းကားခဲ့တဲ့ ပုဂံခေတ်က ဗုဒ္ဓဘာသာဝင်တွေကပဲ စပြီး သုံးစွဲခဲ့တာလား"

"အဲဒါကြောင့် ပုတီးရဲ့သမိုင်းကို လေ့လာဖို့လိုတယ်လို့ အစ်ကို ယူဆတာပေါ့။ ထေရဝါဒဗုဒ္ဓသာသနာ စတင်ထွန်းကားခဲ့တဲ့ ပုဂံခေတ်က ဗုဒ္ဓဘာသာဝင်တွေ ပုတီးသုံးစွဲခဲ့တဲ့ ပုဂ္ဂိုလ်တွေတော့ ရှိဟန်တူတယ်။ ပုဂံအပါယ်ရတနာဘုရား နံရံပန်းချီတွေမှာ နံရိုးပြိုင်းပြိုင်း ပေါ်နေတဲ့ မဟာယန ဆံကျစ်ထုံး ရသေ့ကြီးတွေရဲ့ ပုံတွေမှာတော့ စိပ်ပုတီး ကိုင်နေဟန်ပုံတွေ ရေးဆွဲထားတာ တွေ့ရတယ်။ နန္ဒမညဘုရား နံရံဆေးပန်းချီတွေမှာလည်း မုတ်ဆိတ်နဲ့ တိတ္ထိကြီးတွေ စိပ်ပုတီး ကိုင်နေတဲ့ပုံတွေ ရေးဆွဲထားတာ တွေ့ရတယ်။ ဒီတော့ ပုဂံခေတ်က မဟာယနတွေ၊ တိတ္ထိကြီးတွေ ပုတီးသုံးစွဲခဲ့တာဖြစ်ပြီး ထေရဝါဒဗုဒ္ဓဘာသာဝင်တွေ သုံးစွဲမှု မရှိဘူးလို့ ကောက်ချက်ချရမှာ ဖြစ်တယ်"

"ဒါဖြင့် မြန်မာပြည်မှာ ဘယ်ခေတ်က ပုတီးစတင်သုံးစွဲခဲ့တာလဲ အစ်ကို"

"အစ်ကို လက်လှမ်းမီ လေ့လာရသလောက်တော့ အင်းဝခေတ်အထိ ပုတီးကို ဘာသာရေး ပစ္စည်းတစ်ခုအဖြစ် မသုံးစွဲခဲ့ကြဘူး။ အင်းဝခေတ် နောက်ပိုင်းကျမှ စတင် သုံးစွဲခဲ့တာ တွေ့ရတယ်။ ပုတီး စတင်သုံးစွဲတဲ့ခေတ်က မင်းတွေဟာ ဂါထာမန္တန်ကိစ္စတွေ လောကီ အစီအရင်တွေမှာ အလွန် ယုံကြည်တဲ့ မင်းတွေဆိုတာ လေ့လာသိရှိရတယ်။ အဲဒီခေတ်မှာ ဇောဘယာရဲ ဆရာတော်၊ ဗားမဲ့ ဆရာတော် စတဲ့ ဗေဒင်ဆေးဝါး ရဟန်းတော်တွေ ထင်ရှားခဲ့တယ်။ ဂါထာမန္တန်တွေကို အခေါက်ရေနဲ့ ရွတ်တဲ့အခါ ခေါက်ရေမမှားအောင် စိပ်ပုတီးကို သုံးစွဲရာက မြန်မာပြည်မှာ ပုတီးအသုံးပြုမှု စတင် အခြေစိုက်ခဲ့တယ်လို့ အစ်ကို ယူဆတယ်"

"အဲဒီ ရဟန်းတော်တွေက ထေရဝါဒ ရဟန်းတော်တွေပဲ မဟုတ်လား"

"အဲဒီ ဆရာတော်တွေက ရှင်အရဟံ ဆင်းသက်လာတဲ့ ထေရဝါဒ ရဟန်းတွေ ဟုတ်ဟန်မတူဘူး။ ထေရဝါဒခေတ်မတိုင်မီက ရှိနှင့်နေကြတဲ့ အရည်းကြီးတွေရဲ့ အမူအကျင့်ဖြစ်တဲ့ ဗေဒင်ဟာ၊ ဆေးဝါးကု၊ ဂါထာမန္တန်ရွတ်၊ အင်းအိုင်ခါးလှည့် လက်ဖွဲ့တွေနဲ့ နာမည်ကြီးမှတော့ ထေရဝါဒ ရဟန်းစစ်စစ် ဘယ်မှာ ဟုတ်တော့မှာလဲ။ မဟာယာန ရဟန်းတွေ ဖြစ်ကောင်းဖြစ်မယ်"

"အစ်ကိုပြောသလိုဆို စိပ်ပုတီးကို စတင်သုံးစွဲခဲ့တာ မဟာယာန ရဟန်းတွေပေါ့နော်"

"အမှန်တော့ စိပ်ပုတီးရဲ့ ရင်းမြစ်မူလဟာ ဂါထာမန္တန်တွေ တည်ရာမှီရာ မန္တရဘာသာဖြစ်တဲ့ ဗြာဟ္မဏဘာသာ ဖြစ်တယ်။ အဲဒီ ဗြာဟ္မဏဘာသာရဲ့ မန္တရ၊ တန္တရဝါဒတွေဟာ နောက်တော့ မြောက်ပိုင်း ဗုဒ္ဓဘာသာဖြစ်တဲ့ မဟာယာနတွေထံ ရောက်ရှိခဲ့တယ်။ မဟာယာနတွေမှတစ်ဆင့် ထေရဝါဒထဲ စိမ့်ဝင်လာတာ ဖြစ်တယ်"

"ဗြာဟ္မဏဝါဒရှင်တွေရဲ့ တန္တရဝါဒ၊ မန္တရဝါဒတွေက ဘယ်လိုလုပ်ပြီး ဗုဒ္ဓဘာသာထဲ ဝင်ရောက်လာတာလဲ အစ်ကို"

"အစ်ကို လေ့လာဖူးသလောက်တော့ သာသနာတော် အနှစ် ၃၀၀ ခန့် သီရိဓမ္မာသောကမင်းကြီး လက်ထက်က စတင်ခဲ့တာပဲ"

"အဲဒီခေတ်က မင်းနဲ့ ပြည်သူတွေက ဗုဒ္ဓဘာသာကို အားပေးကိုးကွယ်ခဲ့တဲ့အတွက် တချို့ ဗြာဟ္မဏဝါဒရှင် ပုဂ္ဂိုလ်တွေဟာ ဗုဒ္ဓဘာသာအတွင်း ဝင်ရောက် ရဟန်းပြုခဲ့ရာက ဗြာဟ္မဏဝါဒရှင် တန္တရဝါဒတွေ ဗုဒ္ဓဘာသာထဲ ဝင်ရောက်ခဲ့တာပဲ"

"ဒါကြောင့်လည်း ဂြိုဟ်တိုင် စိပ်ပုတီးတို့၊ ဓာတ်ဆင် စိပ်ပုတီးတို့ဆိုတာတွေ ဖြစ်လာတာကိုး"

"ဟုတ်တာပေါ့။ နေ့သင့် နံသင့် ရွေးထားတဲ့ စိပ်ပုတီးတို့၊ ဂြိုဟ်တိုင် စိပ်ပုတီးတို့၊ ဓာတ်ဆင် စိပ်ပုတီးတို့ကို အသုံးပြုသင့်သလား၊ မပြုသင့်သလား မစဉ်းစားခင် ပုတီးသမိုင်းကို ခြေရာခံဖို့ လိုတယ်လို့ ကနဦးက ပြောခဲ့တာပေါ့။ ဒါတွေဟာ ထေရဝါဒဗုဒ္ဓဘာသာနဲ့ ဆန့်ကျင်တဲ့ တန္တရဝါဒီတွေရဲ့ ဆောင်ရွက်ချက်တွေပဲ"

(၂)

“အစ်ကို ပြောသလို စိပ်ပုတီးဟာ ရဟန်း အသုံးအဆောင်တွေထဲမှာ မပါဘဲနဲ့ သိမ်ဝင်စိပ်ပုတီးဆိုပြီး ဘာကြောင့် သုံးနှုန်းပြောဆိုနေကြတာလဲ”

“သိမ်ဝင်ပုတီး၊ သိမ်ဝင်အပ်၊ သိမ်ဝင်သပိတ်ကွဲ စတဲ့ အသုံးအနှုန်းတွေဟာ ထေရဝါဒ ပိဋကတ်တော်မှာလည်း မပါ၊ အဋ္ဌကထာ ဋီကာ အဖွင့်ကျမ်းတွေမှာလည်း မပါပါဘူး။ ထေရဝါဒ ရဟန်းစစ်စစ် တွေလည်း ဒီအသုံးအနှုန်းတွေကို မသုံးစွဲပါဘူး။ ဒါတွေဟာ ဂိုဏ်းဆရာတွေရဲ့ အသုံးအနှုန်းတွေပဲ”

“ဒါဖြင့် ပဋ္ဌင်းခံတဲ့နေရာ ပရိက္ခရာတွေထဲမှာ ပုတီးထည့်ပြီး လှူတာကကော”

“ဒါကလည်း ရဟန်း အသုံးအဆောင်ထဲ မပါတာကို ရဟန်းအသုံးအဆောင်လို့ ထင်မှတ်တဲ့ လူဝတ်ကြောင်အချို့က ဆောင်ရွက်နေကြတာပါ။ သိရန်မှန်သမျှကို တစ်စမကျန် ကြွင်းမဲ့ဉသုံ အလုံးစုံ သိတော်မူတဲ့ သဗ္ဗညု ဘုရားရှင် ကိုယ်တော်မြတ်ကြီးက သူ့ရဲ့တပည့်သား သံဃာတော်တွေအတွက် ပုတီး လိုအပ်မယ်ထင်ရင် ရဟန်းအသုံးအဆောင်ထဲ ပုတီးထည့်သွင်းခဲ့မှာပေါ့။ ဘုရားရှင်လက်ထက်တော်ကတည်းက ဘာသာခြားတွေ၊ တိတ္ထိကြီးတွေ ပုတီးသုံးခဲ့ကြတာပဲ။ ပုတီးပေါ်တာပဲ။ ဒါကြောင့်လည်း သိက္ခကာမ သီလဝန္တ လဇ္ဇီပေသလ ဆရာတော်ကြီးတွေက သမ္ပဒကံဆောင်ရာမှ ပုတီးထည့်တာကို အားပေးလေ့မရှိပါဘူး။ ဒါယကာတွေအလိုကို မဆန့်ကျင်စေချင်တဲ့အတွက် တားမြစ်ခြင်းမပြုဘဲ နေကြတာသာ ဖြစ်ပါလိမ့်မယ်”

“ရှင်သီဝလိ ရဟန္တာ အရှင်မြတ်ကြီး စိပ်ပုတီးကိုင်နေဟန် ထုလုပ်ထားတဲ့ ရုပ်တုတွေ ရှိနေတာကတော့ အစ်ကို ဘယ်လို သဘောရသလဲ”

“ဒါကတော့ ရှင်းပါတယ်ကွာ။ ပန်းပုထုတဲ့သူက ပန်းပုထုလုပ်တဲ့အတတ်ပဲ တတ်ပြီး ထေရဝါဒဗုဒ္ဓစာပေ လေ့လာမှုမှာကျတော့ ခေါင်းပါးလွန်းလို့ ဖြစ်ရတာပေါ့။ ကိုယ့်ဘာသာ သာသနာအကြောင်း ခြေခြေမြစ်မြစ် နားမလည်ဘဲ ငွေရပြီးရောဆိုပြီး စိပ်ပုတီးကိုင်နေတဲ့ ရှင်သီဝလိရဟန္တာ အရှင်မြတ်ကြီး ပုံတော်ကို ထုလိုထု၊ ဗြာဟ္မဏဝါဒရှင် နတ်ဖုရားမသူရဿတီရဲ့ ပုံကို ပိဋကတ်သုံးပုံ ကိုင်နေဟန် ထုလိုထု လုပ်နေတဲ့ ပန်းပုသမားတွေအနေနဲ့ ထမင်းတစ်လုတ်အတွက်ဆိုလျှင် ထင်းခုတ်စားတာကမှ နောင်သံသရာအရေး စိတ်အေးရမှာလို့ ပြောလိုက်ချင်တယ်”

“ပုတီးဟာ ဗြာဟ္မဏဝါဒက စတင်တာဖြစ်ပေမယ့် ၁၀၈ ပုတီးလုံးကတော့ ကျွန်တော်တို့ ဘုရားဂုဏ်တော်၊ တရားဂုဏ်တော်၊ သံဃာဂုဏ်တော်ကို အာရုံပြုစိပ်ရင် အသင့်တော်ဆုံးဖြစ်နေတာကတော့ အမှန်ပဲ။ ဒီ ၁၀၈ လုံး ပုတီးလုံးကတော့ ထေရဝါဒထဲ ပုတီးသုံးစွဲမှု ရောက်လာမှ တီထွင်ထားတဲ့ ပုတီးလား”

“မဟုတ်ဘူး ငါ့ညီ။ ၁၀၈ လုံး ပုတီးကို စတင်သုံးစွဲသူတွေက ဗိဿနိုးဂိုဏ်းဝင် ဗြာဟ္မဏဝါဒရှင်တွေပဲ။ ဂြိုဟ်သက် ၁၀၈ နှစ်၊ သတ္တမိဿ နက္ခတ်၊ ၁၀၈ နဝင်းကို ရည်ရွယ်ပြီး ၁၀၈ လုံး ပုတီး သုံးစွဲခဲ့ကြသလို ဗြာဟ္မဏတွေက ဥုံနမဂါထာကို ၁၀၈ ကြိမ် ရွတ်တဲ့အခါ အသုံးပြုခဲ့ကြတာပဲ။ ၁၀၈ လုံး ပုတီးကို

ပြုလုပ်ကြတယ်။ အတ္တဝိသနက္ခတ်ပါတ် ၁၀၈ နဝင်းကို အကြောင်းပြုပြီး ၁၀၈ လုံး ပုတီးကုံး ဆိုတာကလည်း ဗုဒ္ဓဘာသာဝင်တွေ စတင် သုံးစွဲခဲ့တာ မဟုတ်ဘူးလို့ မှတ်သားထားရမှာပဲ"

"ပုတီး ၁၀၈ လုံးကို ကိုးနဲ့၊ ခြောက်နဲ့၊ သုံးနဲ့ စားလို့ ပြတ်တဲ့အတွက် တြင်းကျေ၊ နဝင်းကျေတယ်လို့ ပြောနေကြတာကော"

"ထေရဝါဒ ကျမ်းဂန်တွေမှာတော့ တြင်းကျေလည်း မရှိ၊ နဝင်းကျေလည်း မရှိပါဘူး။ အစ်ကိုပြောတာနဲ့ မကျေနပ်နဲ့ဦး။ စာပေပရိယတ္တိမှာ ကျွမ်းကျင်တဲ့ ဆရာတော်ကြီးတွေထံ မေးလျှောက်ကြည့်ပေါ့။ တစ်ခုတော့ ရှိတယ်။ အင်းဘုန်းကြီး၊ ဇေဒင်ဘုန်းကြီး၊ လက်ဖွဲ့ဘုန်းကြီး၊ မန္တန်ဘုန်းကြီးတွေကိုတော့ မမေးနဲ့ပေါ့။ တြင်းပဲကျေကျေ၊ နဝင်းပဲကျေကျေ စိတ်ထားမဖြူစင်ရင် ဒုစရိုက်မှုတွေ မစင်ကြယ်ရင် ကုသိုလ်ကောင်းမှုတွေကို အမျှော်ကင်းကင်းနဲ့ မဆောင်ရွက်ရင် အဲဒီလူရဲ့ အနာဂတ်ဟာ ဘယ်လိုနည်းနဲ့မှ ကောင်းလာမှာ မဟုတ်ဘူး။ ကိန်းဂဏန်း အရေတွက်ဆိုတာ စိတ်ထားဖြူစင်ကြောင်း၊ ကိလေသာစင်ကြယ်ကြောင်းနဲ့ ဘာမှမဆိုင်ဘူး"

"အချို့ စိပ်ပုတီးသမားတွေကို ဗုဒ္ဓဘာသာဝင်မှန်ရင် စိပ်ပုတီးရှိရမယ်။ စိပ်ပုတီးကို သုံးစွဲမှသာ တရားရှင် ပီသတယ်လို့ ပြောကြ ဆိုကြတာကို ကြားဖူးကြတယ် အစ်ကို"

"ဒါကတော့ သူတို့ရဲ့ ဆန္ဒစွဲ အမြင်ပဲလေ။ ထေရဝါဒအမြင်မှ မဟုတ်တာ။ သူတို့ပြောတာ ဆိုတာကို ထေရဝါဒပေတံနဲ့ စံထိုး တိုင်းတာကြည့်။ အစ်ကိုတို့ ဘုရားက ဟောကြားခဲ့တဲ့ တရားတော်နဲ့ ညီ မညီ စစ်ဆေးကြည့်။ အဲဒီလို ထေရဝါဒမှတ်ကျောက်ပေါ် တင်နိုင်ဖို့ဆိုတာကလည်း ကိုယ်ကိုယ်တိုင်က ထေရဝါဒ စာပေတွေ လေ့လာဖို့ လိုတယ်။ ဘာသာရေးမှာ မူလပထမ သိဖို့က အရေးကြီးတာပဲ။ အခု မျက်မှောက်ခေတ်က အစ်ကိုတို့လို လူဝတ်ကြောင်တွေဟာ အင်မတန် ကံကောင်းပါတယ်။ ပိဋကတ်တော်တွေကို ရဟန်းပညာရှိ၊ လူပညာရှိကြီးတွေက မြန်မာဘာသာစကားနဲ့ ပြန်ဆိုထားတာ ဖြစ်တဲ့အတွက် ပါဠိလို မတတ်ပေမယ့် ဘုရားရှင်ရဲ့ ဒေသနာတွေကို ဖတ်ရှုလေ့လာနိုင်ခွင့် ရှိပါပြီ။ ပုတီး စတင်သုံးစွဲတဲ့ခေတ်က အခုလို ပါဠိတော် မြန်မာပြည်လည်း မရှိ။ စာအုပ်စာတမ်းတွေလည်း မရှိတော့ လူဝတ်ကြောင်တွေအနေနဲ့ ဗုဒ္ဓရဲ့ ဒေသနာတော်တွေကို အခုလို လေ့လာခွင့် မရခဲ့ကြဘူး။ အဲဒီခေတ်က လူတွေဟာ ပိဋကတ်တော်မှာ စိပ်ပုတီးအကြောင်း မပါမှန်း၊ စိပ်ပုတီးဟာ ရဟန်း အသုံးအဆောင် မဟုတ်မှန်း သိခဲ့ကြမှာ မဟုတ်ဘူး။ ဘုရားဟော မူရင်းဒေသနာတွေကို လူဝတ်ကြောင်တွေ လေ့လာဖို့ အခွင့်မသာတဲ့အတွက် ဗြာဟ္မဏဘာသာမှ သူရဿတီ ကိုးကွယ်မှုတွေ၊ မဟာယာန ဗုဒ္ဓဘာသာမှာ ရှင်ဥပဂုတ္တကိုးကွယ်မှုတွေ၊ အဲဒီဘာသာတွေက ဆင်းသက်လာတဲ့ ဂါထာမန္တန်မှာ ဉုံခံ ရွတ်ဆိုမှုတွေကို အစဉ်အလာ လက်ခံခဲ့ကြတာပဲ။ ဒါကြောင့် အစဉ်အလာဆိုတိုင်း လက်မခံဘဲနဲ့ အစဉ်အလာကို ထေရဝါဒမှတ်ကျောက်ပေါ်တင်ပြီး အမှား အမှန် ဆန်းစစ်ဖို့ လိုနေပြီ"

"ဆောင်းပါးတစ်စောင်မှာ မကျန်းမာသူများအဖို့ ပက်လက်အနေအထားဖြင့် ပုတီးစိပ် ပွားများစေနိုင်တယ်။ အနာထပိဏ်သူဌေးကြီးသည် ရောဂါဖိစီးကာ သေလုမျောပါး ဖြစ်နေချိန်တွင် ပက်လက်အနေအထားဖြင့်ပင် ဘုရားဂုဏ်တော်ကို အာရုံပြုပါသည်လို့ ရေးထားတာ ဖတ်ရတယ်။ ပက်လက်အနေအထားနဲ့ ပုတီးစိပ်နိုင်တာကို

အနာထပိဏ်သူဌေးကြီး ပက်လက်အနေအထားနဲ့ ဘုရားဂုဏ်တော်အာရုံပြုတာကို ဘာကြောင့် ဆက်စပ်ရေးတာလဲ။ အနာထပိဏ်သူဌေးကြီး ပုတီးစိပ်ပြီး ဘုရားဂုဏ်တော်ကို အာရုံပြုသယောင်ယောင် တွေးတောမိအောင် ရေးထားတာနဲ့ တူတယ်”

“သေလုမျောပါးဖြစ်နေတဲ့ အနာထပိဏ်သူဌေးကြီး ပုတီးစိပ်နိုင်ဖို့ နေနေသာသာ ပုတီးကိုလက်မှာတောင် မကိုင်နိုင်ပါဘူး။ အဲဒီခေတ်မှာ ဗုဒ္ဓဘာသာဝင်တွေ ပုတီးမသုံးခဲ့ဘူး ဆိုတာလည်း ပိဋကတ်တော်အရ အထင်အရှားပဲဟာ။

အနာထပိဏ်သူဌေးကြီးဟာ ဗုဒ္ဓါနုဿတိဘာဝနာနဲ့ ဘုရားဂုဏ်တော်ကို အာရုံပြုသွားတာ။ အမှန်တော့ ဝိပဿနာ ဘာဝနာအလုပ်ဆိုရင် တင်ပျဉ်ခွေ အနေအထားနဲ့မှ လုပ်လို့ရတယ် ထင်ပြီး ပုတီးစိပ်တယ်ဆိုတာကတော့ လဲလျောင်းရင်းလည်း စိပ်လို့ရတယ်ဆိုတဲ့ သဘောနဲ့ ရေးလိုက်ဟန်တူပါတယ်။ ဘုရားရှင်လမ်းညွှန်တော်မူခဲ့တဲ့ ဘာဝနာမှုထက် နောက်မှပေါ်တဲ့ ပုတီးစိပ်မှုကို ရှေ့တန်းတင်ချင်တဲ့ သဘောတွေပဲ။ အမှန်တော့ ဘုရားဂုဏ်တော်ကို အာရုံပြုနှလုံးသွင်းတာမှာ ကြိယာပုတ်လေးဖြာစလုံးမှာပဲ ပြုလုပ်လို့ ရတာမျိုးပါ။ ပုတီးမပါဘဲ လဲလျောင်းနေရင်းနဲ့ အနာထပိဏ်သူဌေးကြီး ဘုရားဂုဏ်တော် အာရုံပြုသွားခဲ့တာပဲ”

“အနိစ္စ၊ ဒုက္ခ၊ အနတ္တ လို့ ရွတ်ဆိုပြီး ပုတီးစိပ်နေသူတစ်ဦးကို ကျွန်တော်တွေ့ဖူးတယ်။ အဲဒီနည်းနဲ့ ပုတီးစိပ်တာကိုတော့ အစ်ကို ဘယ်လို ယူဆသလဲ”

“အဲဒီလိုနည်းနဲ့ ပုတီးစိပ်နေတဲ့ သူတွေကို လေ့လာကြည့်ပေါ့ကွာ။ အဲဒီသူတွေ သူတို့ ခန္ဓာကိုယ်ကြီးကို တကယ်ပဲ ငြီးငွေ့သွားကြပြီလား။ တကယ်ပဲ မတပ်မက်ကြတော့ဘူးလား။ လောဘတွေ တကယ်ပဲ ပါးလျားသွားပြီလားလို့ အကဲခတ်ကြည့်ပေါ့။ အနိစ္စ၊ ဒုက္ခ၊ အနတ္တဆိုတဲ့ လက္ခဏာရေးသုံးပါးကို ဉာဏ်ထဲမှာ နစ်နစ်နဲနဲ၊ စွဲစွဲမြဲမြဲ ထင်ဖို့ဆိုတာ ဝစီကံနဲ့ ရွတ်ဆိုပြီး ပုတီးကို စိပ်ရုံနဲ့ ရနိုင်တယ်လို့ အစ်ကို မယူဆဘူး။ ဒါဟာ ဝိပဿနာ အလုပ်မျိုးဖြစ်တဲ့အတွက် စိတ်နဲ့ ကိုယ်ထဲလိုက်ရှာရတဲ့ အလုပ်မျိုး။ ကမ္မဋ္ဌာနစရိယ ဆရာကောင်းတွေရဲ့ လမ်းညွှန်မှုနဲ့ အစောင့်အရှောက်တွေလည်း အင်မတန် လိုပါတယ်။ ကိုယ့်ဘာသာ အနိစ္စ၊ ဒုက္ခ၊ အနတ္တလို့ နှုတ်က ရွတ်နေရုံ ပုတီးစိပ်နေရုံနဲ့ နက်နဲသိမ်မွေ့တဲ့ လက္ခဏာရေးသုံးပါးကို ဉာဏ်ထဲမှာ (လောကကို ငြီးငွေ့သွားတဲ့အထိ) စွဲဝင်သွားဖို့ဆိုတာ မလွယ်ပါဘူး။ ဒါနဲ့ ပတ်သက်ပြီး ဆရာတော်ကြီးတစ်ပါးက လင်္ကာတစ်ပုဒ်နဲ့ သတိပေး ဆုံးမတော်မူခဲ့ဖူးပါတယ်”

“ကျွန်တော် အဲဒီလင်္ကာကို ကြားဖူးတယ် အစ်ကို ရွတ်ပြပါလား”

“ရွတ်ပြမယ်လေ **အနိစ္စ၊ ဒုက္ခ၊ အနတ္တဟု ရွရွလှုပ်လှုပ်၊ လက်ကကုတ်၍၊ နှုတ်ကတွတ်တွတ်၊ ပွားအောင်ရွတ်လည်း၊ ပေါက်လွတ်ပဲစား၊ စိတ်ကိုထားက၊ တရားအငွေ့၊ စိတ်မတွေ့ဘူး။ ငါ ငါ ခတ်ခဲ၊ ငါခတ်ကွဲအောင်၊ မမြဲအနိစ္စ၊ ဆင်းရဲဒုက္ခ၊ အစိုးမရ၊ အနတ္တဟု၊ ရွရွလှုပ်လှုပ်၊ လက်ကကုတ်လျက်၊ နှုတ်ကတွတ်တွတ်၊ တယ်မရွတ်လင့်၊ စိတ်ညွတ်ဉာဏ်ပါ၊ ကိုယ်တွင်းမှာသာ၊ ခါခါရှာလော့၊ စိတ်ကတွေ့လျှင်၊**

**ဉာဏ်ကမြင်သည်၊ စိတ်တွင် ဉာဏ်ပေါက်လိုရင်းတည့်** တဲ့။ အဲဒီ လင်္ကာအရ နှုတ်ကရွတ်ဆိုပြီး ပုတီးစိပ်လို့ ရနိုင် မရနိုင် စဉ်းစားဉာဏ်နဲ့ စိစစ်ဆင်ခြင်ပေါ့"

"ပုတီးစိပ်ပြီး ဘုရားဂုဏ်တော်ကို အာရုံပြုတာကကော"

"အဲဒီမေးခွန်းကို မဖြေခင် ပုတီးစိပ်တယ်ဆိုတာ ဘယ်လို ပြုမူဆောင်ရွက်တာလဲလို့ ကနဦး ဆန်းစစ်ဖို့ လိုတယ်"

"ဒါကတော့ အစ်ကိုရာ ပုတီးစိပ်တယ်ဆိုတာ ပုတီးစေ့ကလေးတွေကို တစ်စေ့ချင်း တစ်စေ့ချင်း ချပေးတာ။ ချပေးစဉ်အခိုက်မှာ တစ်စုံတစ်ရာကို အာရုံပြုနေတာပေါ့"

"ရွတ်ဆိုတာရော မပါဘူးလား"

"တချို့လည်း နှုတ်ကပါ ရွတ်ဆိုပြီး ပုတီးစိပ်ကြတာပေါ့"

"ကောင်းပြီ၊ ဒီတော့ ပုတီးစိပ်တဲ့အလုပ်မှာ စိတ်အလုပ်သာမက နှုတ်ကရွတ်ဆိုပြီး စိပ်မယ်ဆိုရင် နှုတ်အလုပ်ပါ ပါမနေဘူးလား။ ပြီးတော့ လက်က တလှုပ်လှုပ် လှုပ်နေရင်တော့ ကာယကံ အလုပ်ပါ ပါနေတယ်။ ဘုရားဂုဏ်တော်တွေကို အာရုံပြု နှလုံးသွင်းတာဟာ ဗုဒ္ဓါနုဿတိဘာဝနာပဲ။ ဘာဝနာဆိုတာ စိတ်အလုပ် သက်သက်ပဲ။ နှုတ်ကူ လက်ကူဖို့ လို မလို အများကြီး စဉ်းစားဖို့ လိုပါတယ်။ အဘိဓမ္မာ စိတ္တနိယာမအရတော့ နှလုံးသွင်းရမယ့်စိတ်ကို နှုတ်နဲ့လက်မှာ ဝီထိစဉ်အပေါင်းများစွာ ဖဲ့ပေးနေရတဲ့ သဘောမျိုးပဲ။ ဆိုချင်တာက ဘုရားဂုဏ်တော်ကို ပွားများတယ်ဆိုတာ ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်းပဲ။ ဘုရားရှင်လက်ထက်တော်ကစပြီး ဒီကမ္မဋ္ဌာန်းကို သူတော်ကောင်းကြီးများ ပွားများခဲ့ကြတာပဲ။ သီဟိုဠ်ခေတ် ရဟန်းတော်တွေလည်း ဒီကမ္မဋ္ဌာန်းကို ကြွလေရာ နှလုံးသွင်းယူဆောင်ခဲ့ကြတာပဲ။ ဘယ်သူမှ ဒီဘာဝနာမှုမှာ ပုတီး အကူအညီ မယူခဲ့ကြပါဘူး"

"အစ်ကို ပြောသလိုဆို သီဟိုဠ်မှာ ထေရဝါဒ သာသနာထွန်းတောက်ခဲ့စဉ်ကလည်း ပုတီးအသုံးပြုတဲ့ အစဉ်အလာမရှိခဲ့ဘူးလား"

"အစ်ကိုလေ့လာရသလောက်တော့ သီဟိုဠ်သာသနာဝင်မှာ လည်း ပုတီးကို သာသနာသုံးဆိုင်ရာ ပစ္စည်းအဖြစ် အသုံးပြုခဲ့တဲ့ အထောက်အထားမရှိခဲ့ဘူး။ ဂုဏ်တော်တွေကို အာရုံပြုပြီး ပုတီးစိပ်တာနဲ့ ပတ်သက်ပြီး ဆက်ပြောပါဦး။ မင်း ဂုဏ်တော်တွေကို အာရုံပြုပြီး စိပ်တော့ အရဟံ၊ သမ္မာသမ္ဗုဒ္ဓေါ စသည်ဖြင့် နှုတ်က ရွတ်ဆိုသေးသလား"

"ကျွန်တော် နှုတ်ကတော့ မရွတ်ဘူး။ စိတ်ထဲမှာပဲ ရွတ်တာ"

"အဲဒီလို ပုတီးစိပ်တော့ အရဟံဆိုပြီး စိတ်ကရွတ်၊ ပုတီးတစ်လုံးချ၊ နောက်ပြီး သမ္မာသမ္ဗုဒ္ဓေါလို့ စိတ်က နှလုံးသွင်း ရွတ်ပြီးတော့ ပုတီးတစ်လုံးချ။ အဲဒီလို လုပ်သွားတာ မဟုတ်လား"

"ဟုတ်ပါတယ် အစ်ကို"

"ဒီတော့ ဂုဏ်တော်တစ်ပါးနဲ့ တစ်ပါးအကြားမှာ ပုတီးတစ်လုံးချချိန်ပဲ ရတော့ ဂုဏ်တော်တစ်ပါးချင်းကို ကြည်ကြည်လင်လင် နှလုံးသွင်းချိန် ရရဲ့လား။ ဆိုချင်တာက အရဟံဂုဏ်တော်ကို နှလုံးသွင်းပြီး စိတ်က

ရွတ်လိုက်ချိန်မှာ မြတ်စွာဘုရားရှင်သည် ကိလေသာဟူသော အပူအညစ်ခပ်သိမ်းတို့မှ အေးငြိမ်းဖြူစင်၍ နတ်လူပြဟ္မာ သတ္တဝါအားလုံးတို့၏ ပူဇော်အထူးကို ခံယူတော်မူထိုက်ပါပေသည် ဆိုတဲ့ အဓိပ္ပာယ်လိုရင်း အချုပ်လောက်တောင် ပုတီးတစ်လုံးမချခင် အချိန်တိုလေးမှာ ပြည့်ပြည့်စုံစုံ နှလုံးသွင်းမိရဲ့လား။ ပုတီးအခေါက်ရေ များအောင်ဆိုတဲ့ ရည်ရွယ်ချက်ထားပြီး မြန်မြန် ပိုစိပ်လေ ဂုဏ်တော်တစ်ပါးချင်းကို အာရုံထင်အောင် ခက်ခဲလေ မဖြစ်ပေဘူးလား"

"အမှန်အတိုင်းပြောရရင် ပုတီးတစ်လုံးပြီး တစ်လုံးချနဲ့ ပုတီးတစ်ပတ်လည်အောင် ပုတီးခေါက်ရေလည်း များများရအောင် စိပ်တဲ့အခါမျိုးမှာ ဂုဏ်တော်တစ်ပါးချင်းအလိုက် ပီပီပြင်ပြင် စိတ်ထဲ စွဲဝင်ချိန် မရတာတော့ အမှန်ပါပဲ"

"ဒီမှာ ငါ့ညီ၊ ဗုဒ္ဓါနုဿတိဂုဏ်တော်မှာ ပွားများတဲ့အခါ ဂုဏ်တော်ပွားများတဲ့သူဟာ ဂုဏ်တော်တစ်ခုချင်းရဲ့ အနက်အဓိပ္ပာယ်ကို စဉ်းစားကြံဆနေရတယ်။ စာအခေါ်တော့ ဝိတတ်ပေါ့။ ပြီးတော့ ဝိစာရလို့ ခေါ်တဲ့ အထပ်ထပ် ဆင်ခြင်သုံးသပ်ကြည့်ရတယ်။ အဲဒီလို အဖန်တလဲလဲ ကြံစည်စဉ်းစားနေရင်း ကျေနပ်မှုတွေ စိတ်ထဲမှာ လှိုက်လှိုက်လှဲလှဲ ရှိလာတယ်။ ကြက်သီးတဖြန်းဖြန်း ထလာတယ်။ ပီတိဖြစ်ပွားလာတယ်။ အဲဒီ ပီတိဖြစ်ပွားလာပြီးတဲ့နောက်မှာတော့ ကိုယ်ရော စိတ်ပါ ငြိမ်းအေးပြီး ချမ်းသာလာတယ်။ သုခဖြစ်လာတယ်။ အဲဒီ သုခဖြစ်လာပြီးနောက် ဘုရားရှင်ရဲ့ ကျေးဇူးတော် ဂုဏ်တော်တွေမှာသာ စိတ်ဟာ စုပ်စုပ်နစ်နစ် စူးစမ်းရပ်တည်နေတော့တယ်။ စာအခေါ်တော့ 'သမာဓိဧကဂ္ဂတာ' ပေါ့။ ဒါကြောင့်လည်း အရှည်ဝါသီ အရှင်ဥတ္တမာရာမ ရေးသားပြီး ရာဇဂုရု ကျပင်း ဆရာတော်ဘုရားကြီး တည်းဖြတ်တော်မူခဲ့တဲ့ ဝိသုဒ္ဓိပနီကျမ်းမှာ ဘယ်လို ဖော်ပြထားခဲ့သလဲဆိုတော့ ပုတီးကိုင်၍ စီးဖြန်းခြင်းသည်လည်း သတိသည် အရဟံ အစရှိသော ဗုဒ္ဓဂုဏ်တော် အစရှိသည်ကိုသာ အာရုံပြုခြင်းငှာ မဖြစ်မူ၍ ပုတီး၏ ဝဏ္ဏသဏ္ဌာန် အစရှိသည်တို့ကို လည်းကောင်း၊ ဆယ် ရာ ထောင် အစရှိသော ပညတ်ကိုသော်လည်းကောင်း အာရုံပြုခဲ့ရာ၏။ ထိုသို့ ပြုရာသည်ဖြစ်သောကြောင့် ဗုဒ္ဓဂုဏ် အရဟ္မအစရှိသော ပါဠိနှင့်အညီ ဘုရားသခင် ကျေးဇူးစသည်ကိုသော သက်သက်အာရုံ မတည်တံ့နိုင်ရာလို့ ရေးသားထားခဲ့တယ်။ ဒီရေးသားချက်ကိုတော့ ထေရဝါဒပိဋကတ်တော်တွေ၊ အဋ္ဌကထာ ဋီကာတွေမှာ မပါတဲ့ စိပ်ပုတီးကို သုံးမှ တရားထူးရမယ်လို့ အထင်မှားနေတဲ့ ပုဂ္ဂိုလ်တွေ အလေးအနက်ထား စဉ်းစားကြရလိမ့်မယ်"

"အစ်ကို ပြောသလိုဆို ပုတီးကို အသုံးမပြုဘဲ ဂုဏ်တော်ပွားများနိုင်တယ်ပေါ့"

"ပုတီး အသုံးမပြုဘဲ ဂုဏ်တော်ပွားများနိုင်ပါတယ်။ ဂုဏ်တော်တွေကို မပွားများမီ ဂုဏ်တော်ပါဠိအနက် မြန်မာပြန်များကို ကျေညက်အောင် အရကျက်ထားရမယ်။ ဂုဏ်တော်တစ်ပါးချင်းရဲ့ အဓိပ္ပာယ်ကို ပြည့်ပြည့်စုံစုံ ကုံလုံစွာ သိထားရမယ်။ ဂုဏ်တော်အဖွင့်ကျမ်းတွေကို လေ့လာထားရမယ်။ မဟာဂန္ဓာရုံ ဆရာတော် အရှင်ဇနကာဘိဝံသ ဆရာတော်ဘုရားကြီး ပြုစုတော်မူခဲ့တဲ့ ရတနာ့ဂုဏ်ရည်လို ကျမ်းစာအုပ်တွေကို ဖတ်ရှုထားရမယ်။ ပါဠိသက်သက် ကျက်ပြီး အနက်မသိလို့ကတော့ စိတ်ထဲမှာ နှစ်နှစ်ကာကာ ကြည်ညိုလာမှာ မဟုတ်ဘူး။ အဲဒီလို ဂုဏ်တော်တစ်ပါးချင်းအလိုက် အနက် အဓိပ္ပာယ်တွေကို ကျကျနန သိပြီးတဲ့အခါမှာတော့

ကျက်မှတ်ထားတဲ့ အနက် အဓိပ္ပာယ်တွေကို စိတ်ထဲက ပြန်လှန်ရွတ်ဆိုပြီး စဉ်းစားနေရမယ်။ ဒါကိုပဲ ရှုမှတ်ပွားများတယ်၊ ဘာဝနာပွားများတယ်လို့ ခေါ်တယ်။ ဘုရားဂုဏ်တော်တွေကို သတိရတဲ့စိတ်တွေ များများကြီး လုပ်နိုင်ဖို့သာ အဓိကပါ။ တင်ပျဉ်ခွေထိုင် အနေအထားနဲ့ မဟုတ်ဘဲ ကျန်တဲ့ ဣရိယာပုတ်တွေနဲ့လည်း ဘုရားဂုဏ်တော်တွေကို ပွားများနိုင်ပါတယ်"

"အချို့ကတော့ ဗုဒ္ဓါနုဿတိ ဘာဝနာ ပွားတဲ့အခါ သမာဓိ မရလွယ်တဲ့ သူတွေ အများစုအတွက် ပုတီးက သမာဓိရအောင် အထောက်အကူပြုနိုင်တယ်လို့ ပြောကြတယ်"

"အစ်ကိုတို့ရဲ့ ကိုးကွယ်ရာ ဘုရားရှင် ကိုယ်တော်မြတ်ကြီးဟာ သဗ္ဗညုတဉာဏ်ရှင်ကြီး ဖြစ်တော်မူပါတယ်။ အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်ကာလတွေမှာ ဆီးတားမထင် အကုန်မြင်တဲ့ ပုဗ္ဗေနိဝါသဉာဏ်တော် အနာဂတံသ ဉာဏ်တော် တွေနဲ့လည်း ပြည့်စုံတော်မူပါတယ်။ တရားတော်တွေကို သတ္တဝါဝေနေယျတွေအတွက် အမွေပေးခဲ့တော်မူရာမှာလည်း ဆရာစားမချန် မကြွင်းမကျန် ပေးခဲ့တာ ဖြစ်ပါတယ်။ ဝိပဿနာကမ္မဋ္ဌာန်းတရားတွေ အားထုတ်ရာမှာ သမာဓိရအောင် အခြေခံတဲ့အနေနဲ့ ပုတီးလိုအပ်မယ်ဆိုရင် ဘုရားရှင်ရဲ့ အနာဂတံသ ဉာဏ်တော်နဲ့ ကြိုတင် ဟောကြားခဲ့မှာ အမှန်ပါ။ တချို့ကလည်း ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်ကာလဟာ စိပ်ပုတီး မလိုခဲ့ပေမယ့် အခုကာလမှာတော့ စိပ်ပုတီးလိုတယ်လို့ ယူဆပါတယ်။ သတ္တဝါဝေနေယျတွေရဲ့ စရိုက်ကို အနှိုင်းမဲ့ သိတော်မူ မြင်တော်မူတဲ့ မြတ်စွာဘုရားဟာ ဒီခေတ်လူတွေအတွက် ပုတီးသုံးဖို့ လိုရင်လိုတယ်လို့ ဟောကြားတော်မူသွားမှာပါ။ ဘုရားရှင်ရဲ့ သာသနာဟာ ဖြည့်စွက်ရန် မလိုတဲ့ သာသနာတော်မြတ် ဖြစ်ပါတယ်။ ဒါကြောင့် အရှည်ဝါသီ အရှင်ဥတ္တမာရာမ အရှင်သူမြတ်ကြီးက (ပွဲလယ်၌ ထိုင်၍ စီးဖြန်းခြင်းသည်လည်း အာမာထကဗ္ဗာယီ လူမြင်ကွင်း၌ ဈာန်ဝင်စား၍ လူအထင်ကြီးအောင် လှည့်ဖြားခြင်း တစ်မျိုး မလွတ်။ ထို့ကြောင့် အာရုံ အာရမ္မဏိကတို့ကို ပိုင်းခြား၍ သိသော အာဇီဝ၏ ခင်းခြင်းဈာန်မဂ်ဖြင့် ချမ်းသာခြင်းကို အလိုရှိသော ပညာရှိသော ယောဂီရဟန်းမြတ်တို့ည် ကျမ်းဂန်၌လာသော ကျင့်ထုံးကျင့်နည်းကိုသာလျှင် မှီဝဲရာ၏။ မလာသည်တို့ကို ရှောင်ကြဉ်ရာ၏။ လူတို့သည် ပုတီးကိုင်၍ စီးဖြန်းသည်ရှိသော်ကား နိဗ္ဗာန်မဂ်ဖိုလ်အလို့ငှာ စီးဖြန်းသဖြင့် ကုသိုလ်မျှ ဖြစ်ကောင်း၏။ ထိုပုတီးဖြင့် အန္တရာယ်ပျောက်ခြင်းအစရှိသော မင်္ဂလာအလို့ငှာ စီးဖြန်းသည်ရှိသော်လည်း ဖြစ်သင့်၏။ သမာဓိ အလို့ငှာသော်ကား မဖြစ်သင့်ကောင်းတည်း) လို့ ရေးသား တော်မူခဲ့တယ်။ တစ်ခုတော့ အစ်ကို မင်းကို မေးချင်တယ်"

"မေးပါ အစ်ကို"

"မုဒြာအမျိုးမျိုးနဲ့ ဗုဒ္ဓ ရုပ်ပွားဆင်းတုတော်တွေကို ပြင်ပမှာရော စာအုပ်စာတမ်းတွေမှာရော မင်း ဖူးမြော်ကြည်ညိုဖူးတယ် မဟုတ်လား"

"ဟုတ်ကဲ့၊ ဆရာ ဒေါက်တာတင်ရေ၊ ဆရာစပ်ထွန်းမှတ်ဝင်းတို့ရဲ့ စာအုပ်တွေ၊ ဓမ္မရုပ်စုံမဂ္ဂဇင်းတွေ ဖတ်ဖူးတော့ နိုင်ငံတကာက ဗုဒ္ဓဆင်းတုတော်၊ ရုပ်ပွားတော်တွေကိုပါ ကြည်ညိုဖူးမြော်ဖူးပါတယ်"

"အဲဒီ ရုပ်ပွားဆင်းတုတော်တွေမှာ ဗုဒ္ဓပုတီးကိုင်နေတဲ့ ပုံတွေကို ဖူးတွေ့ဖူးသလား"

“မတွေ့ဖူးပါဘူး အစ်ကို”

“အေး အစ်ကိုတို့ရဲ့ ကိုးကွယ်ရာဖြစ်တဲ့ ဗုဒ္ဓဘုရားရှင်က ပုတီးကိုင်တော်မမူခဲ့ဘူး။ ဒါပေမယ့် အစ်ကိုတို့ရဲ့ အယူဝါဒ ခြားရာဖြစ်တဲ့ ဗြာဟ္မလူမျိုးတွေ ကိုးကွယ်ရာဖြစ်တဲ့ ဗြဟ္မာကြီးကတော့ ပုတီးကို ကိုင်ခဲ့တယ်။ ဗြဟ္မာကြီးရဲ့ ရုပ်ပုံကို ထုလုပ်ခြင်း၊ ဆေးရေးခြယ်ခြင်း ပြုလုပ်ထားကြရာမှာ လက်လေးဖက် ပါရှိပြီး လက်တစ်ဖက်က ဗေဒင်ကျမ်း၊ လက်တစ်ဖက်က စိပ်ပုတီး၊ လက်တစ်ဖက်က ဆီမီး၊ လက်တစ်ဖက်က ဆီခပ်ရန်ဇွန်း အသီးသီး ကိုင်ဆောင်ထားဟန် ထုလုပ်ရေးဆွဲထားတယ်။ ဒီမှုဆိုရင် စိပ်ပုတီးအပေါ် မင်း သဘောထားတတ်ရောပေါ့”

## ကိုးကွယ်မှု

“တို့ဘုရား သာသနာဟာ နေပူအောင် လုပ်လည်း ရတယ်။ မိုးရွာအောင် လုပ်လည်း ရတယ်။ လူလာအောင် လုပ်လို့လည်း ရတယ်။ လူမလာအောင် လုပ်လို့လည်း ရတယ်။ မင်းတို့ ဘုရား ကြည်ညိုတာက မတည့်တဲ့ သူငယ်ချင်း အိမ်လာလည်သလောက်မှ မကြည်ညိုကြလို့ မင်းတို့မှာ ဘာအကျိုးထူးမှ မခံစားရဘူး”

“မတည့်တဲ့ သူငယ်ချင်းလာလို့ ကိုယ်က မခေါ်ချင်တာတောင်မှ စားချိန်ကျရင် မင်းဒကာမကိုတော့ ဟိုကောင်ကို ထမင်းကျွေးလိုက် ဆိုပြီး ခိုင်းမယ်။ စားပြီးလည်း ဟိုဟာတွေ သိမ်းတော့ ဆည်းတော့လို့ ပြောမယ်။ ခု မင်းတို့ဟာက ဘုရားမှန်မှန် ဆွမ်းမကပ်ဘူး။ ကပ်ပြီးလည်း ဆွမ်းတော်ပွဲကို တစ်နေကုန် ပစ်ထားတာ မဟုတ်လား”

“ဘုရားကိုသာ တကယ် သက်ရှိထင်ရှား ရှိတဲ့ ပုဂ္ဂိုလ်လို သဘောထားပြီး လုပ်ရင် မင်းတို့ ဒီလောက် ဒုက္ခမရောက်ဘူး”

***(ဝေဘူဆရာတော်ဘုရားကြီး)***

ဗုဒ္ဓဘာသာဝင်တို့ ၏ နေအိမ်တိုင်းတွင် ဘုရားရှင် ၏ ကိုယ်စားရုပ်ပွား ဆင်းတုတော်များကို ဥဒ္ဒိဿစေတီ အဖြစ်ဖြင့် တည်ထားကိုးကွယ်ကြပါသည်။ ဤသို့ ကိုးကွယ်သမှုပြုရာ၌ မိရိုးဖလာ အစဉ်အလာအရ သာမန်မျှ သဘောထားရှိသူတို့ ရှိသကဲ့သို့ အသက်ရှင်ထင်ရှား ဘုရားသခင် ကိုယ်တော်မြတ်ကြီး ကိုယ်တော်တိုင် စံပယ်နေတော်မူဘိသကဲ့သို့ သဘောထားသူတို့လည်း ရှိပါသည်။ ဘုရားရှင်အပေါ်တွင် ကြည်ညိုမှုသဒ္ဓါ အနည်းအများပေါ်မှီ၍ ကွဲပြားခြင်း ဖြစ်ပါ၏။

မိမိတို့၏ နေအိမ်၌ ရုပ်ပွားဆင်းတုတော် တည်ထားကိုးကွယ်လင့်ကစား နေ့စဉ်မှန်မှန် ဘုရားရှိခိုး ဝတ်ပြုမှု မပြုခြင်း၊ ဆွမ်း ရေချမ်း ပန်း ဆီမီး မှန်မှန် ကပ်လှူမှု မပြုခြင်း၊ ဘုရားကျောင်းဆောင် (ဘုရားစင်) ရှေ့၌ မရိုမသေ ပြုမူပြောဆို နေထိုင်ခြင်းများသည် ဘုရားရှင်အပေါ် စစ်စစ်မှန်မှန် ကြည်ညိုမှု အားနည်းနေသောကြောင့် ဖြစ်ပါသည်။ ဘုရားရှင်အား သက်ရှိထင်ရှားသဖွယ် ရိုရိုသေသေ ကြည်ညိုကိုးကွယ်ရကောင်းမှန်း မသိသော်လည်း သောက ဒုက္ခ ရောက်ကြရသောအခါတွင်မူ ဘုရားရှင်ထံ ဆုတောင်းဆုယူ ပြုကြသူတွေလည်း ရှိပါ၏။ အချို့နေအိမ်များတွင် ဘုရားကျောင်းဆောင်ကို အပေါ်ထပ်တွင် တည်ထားကိုးကွယ်နိုင်ပါလျက် အောက်ထပ် ဧည့်ခန်းတွင် ထားရှိသည်ကို တွေ့ရပါသည်။ အောက်ထပ်တွင် ဘုရားစင်ထားရှိပြီး အပေါ်ထပ်တွင် လူနေခြင်းမျိုးကား မဖြစ်သင့်ပေ။ အပေါ်ထပ်ပါသော အိပ်ခန်းများတွင် နေထိုင်သူတို့အဖို့ ဘုရားစင်ကို အပေါ်ထပ်တွင်သာ ထားရှိသင့်ပါသည်။ ထိုသို့ အပေါ်ထပ်၌ ထားရှိကိုးကွယ်ရာတွင်ပင် သီးခြား ဘုရားခန်းအဖြစ် ထားရှိပူဇော်နိုင်လျှင် ကောင်းပေသည်။ ဘုရားခန်းနှင့် ကပ်လျက်တွင် အိပ်ခန်း၊ အိပ်စင်များ မထားရှိဘဲ စာကြည့်ခန်း၊ စာကြည့်စားပွဲသာ ထားရှိသင့်ပါသည်။ အထူးသဖြင့် ဇနီးမောင်နှံ အိပ်ခန်းနှင့် မနီးကပ်သင့်။

အပေါ်ထပ်မရှိ၍ တစ်ထပ်တည်း နေထိုင်ရသူတို့အဖို့လည်း အိမ်ဦးခန်းတွင် ဘုရားစင် တည်ထားရာ၌ အတန်သင့် ကျယ်ဝန်းလျှင် ဘုရားခန်း သီးသန့်ဖွဲ့ထားသင့်ပါ၏။ ဘုရားဝတ်ပြုသောအခါ ဆွမ်း၊ ပန်း၊ ဆီမီး၊

ရေချမ်း ဆက်ကပ်လှူဒါန်းသောအခါမှသာ ဘုရားခန်းအတွင်းသို့ ဝင်သင့်ပေသည်။ အိမ်ခန်းအနေအထားကျဉ်း၍ ဧည့်ခန်းတွင်ပင် ဘုရားစင် ထားရှိလျှင် ဘုရားစင်အား နောက်ကျောခိုင်း၍ မထိုင်သင့်ပေ။ ဘုရားစင်ရှေ့တွင် မဖွယ်ရာ မယဉ်ကျေးသော၊ ကြမ်းတမ်းသော ကာယကံမှု၊ ဝစီကံမှု မပြုမိရန်လည်း ဆင်ခြင်သင့်ပေ၏။

ဘုရားကျောင်းဆောင်တော်၊ ပန်းအိုး၊ သောက်တော်ရေခွက်၊ ဆွမ်းတော်ပန်းကန် စသည် ဘုရားရှင်အား လှူဒါန်းထားသော ပစ္စည်းများ အမြဲ သန့်ရှင်းစင်ကြယ်နေရန်လည်း ဂရုပြုရပေမည်။ သောက်တော်ရေခွက်၊ ဆွမ်းတော်ပန်းကန် စသည် ဘုရားရှင်အား လှူဒါန်းထားသော ပစ္စည်းများ အမြဲ သန့်ရှင်းစင်ကြယ်နေရန်လည်း ဂရုပြုရပေမည်။ သောက်တော်ရေခွက်၊ ဆွမ်းတော်ပန်းကန်တို့ကို နေ့စဉ် ပွတ်တိုက်ဆေးကြောသင့်ပါသည်။ ဘုရားစင်တွင် ဖုန်ကပ်ခြင်း၊ ပင့်ကူအိမ် ငြိတွယ်ခြင်းမျိုး အလျှင်း မရှိစေသင့်ပါ။

"ကျွန်ုပ်သည် ရန်ကုန်ရောက်ခဲ့သော ၁၉၄၈ ခုနှစ်ကစ၍ နံနက် ၃ နာရီ အိပ်ရာမှ ထသည်။ တရားထိုင်ခြင်း၊ ပရိတ်တော် ရွတ်ဖတ်ခြင်း စသည်တို့ကို ရွတ်ဖတ်ခြင်းဖြင့် တစ်နာရီခွဲကြာအောင် လမ်းလျှောက်ပြီးလျှင် ၄ နာရီခွဲသောအခါ အိမ်ဖော်များကို နှိုး၍ အရုဏ်ဆွမ်းချက်ပြီး ဆွမ်းတော် တင်လေ့ရှိသည်။ ထိုခေတ်က ပန်းသီးများ အလွန်ပေါသည်။ အလွန်ကြီးသော ပန်းသီးကြီးဆယ်လုံးမှာ ငါးကျပ်သာ ပေးရသည်။ ထို့ကြောင့် ပန်းသီးနှင့် အမြဲဆွမ်းတော်တင်သည်။ ကော်ဖီ၊ ပေါင်မုန့်ထောပတ်သုတ်ပါ ဆွမ်းတော်တင်သည်။ လူတွေက ကော်ဖီသောက်ပြီး ဘုရားကို ရေတော်ကပ်တာ ဘုရားကို သဒ္ဓါမရှိရာ ရောက်သည်"

နိုင်ငံတော် လက္ခဏာဆရာကြီး ဆရာစန္ဒာ၏ 'ဘဝခရီးနှင့် အတွေ့အကြုံ' စာအုပ်တွင် ရေးသားထားသော အထက်ပါစာပိုဒ်မှာ များစွာ ဆင်ခြင်လိုက်နာစရာ ဖြစ်၏။ လက်ဖက်ရည် အခွက်ပေါင်းများစွာ သောက်ပြီးသော်လည်း ဘုရားရှင်အား လက်ဖက်ရည် မကပ်ခဲ့ဖူးသည့် ကျွန်တော်၏ အဖြစ်ကိုလည်း ရှက်ရွံ့စိတ်ဖြင့် ဆင်ခြင်မိပါ၏။ စင်စစ် မိမိ၏ နေအိမ်တွင် အာဂန္တုဘုန်းကြီးတစ်ပါး ရောက်ရှိ သီတင်းသုံးနေပါအံ့။ အိမ်ရှင် ဒကာအနေဖြင့် နံနက်တွင် အရုဏ်ဆွမ်းကပ်ခြင်း၊ ချိုချဉ်ခဲဖွယ် ဆက်ကပ်လှူဒါန်းခြင်းများ ပြုကြပေမည်။ ဘုန်းကြီး၏ ရှေ့မှောက်ဝယ် ရိုရိုသေသေ ကြည်ကြည်ညိုညို ပြုမူဆောင်ရွက်ကြပေမည်။

"ငါဘုရားအပေါ်၌ ယုံကြည်ရုံမျှ ချစ်မြတ်နိုးရုံမျှဖြင့်ပင် နတ်ရွာသုဂတိသို့ လားရောက်နိုင်၏" ဟု မူလပဏ္ဏာသ၊ အလဂဒ္ဒူပမသုတ်တွင် ဗုဒ္ဓကိုယ်တော်တိုင် ဟောကြားတော်မူခဲ့သည်ကို အလေးအနက် နှလုံးအိမ်တွင် စိမ့်ထုံစွဲဝင်နေသင့်ပါသည်။

မိမိသည် နေအိမ်ဥပစာအတွင်း၌ မြတ်စွာဘုရားရှင် သီတင်းသုံးနေသည်ဟု သဘောထား ကိုးကွယ်သမှု ပြုသော် ကြာရှည်လာသည်နှင့်အမျှ ဘုရားရှင်၏ အရှိန်အဝါဖြင့် မကောင်းသော အတွေ့အကြုံ အပြုအမူ အပြောအဆိုတို့ကို ထိန်းချုပ်ရုပ်သိမ်းလာနိုင်ပေမည်။ ကောင်းသော အတွေးအကြံ၊ အပြုအမူ၊ အပြောအဆိုတို့ကို ဖြစ်ပေါ်တိုးပွား စည်ပင်လာမည်။ တဖြည်းဖြည်း တစ်စတစ်စ ပစ္စုပ္ပန်ကံကောင်းကို ထူထောင်မိလာပေမည်။ မလိုလားအပ်သော ဆိုးကျိုးကို ဖြစ်စေတတ်သော ပစ္စုပ္ပန်ကံဆိုးတို့ကိုလည်း ဟန့်တားနိုင်ပေမလိမ့်မည်။ ထိုအခါ

အားနည်းသော အတိတ်ကံဆိုးတို့ကို ပစ္စုပ္ပန်ကံကောင်းဖြင့် ချေဖျက်နိုင်ပေလိမ့်မည်။ ထို့အတူ အားကြီးသော အတိတ်ကံဆိုးတို့ကိုလည်း အားပျော့ချည့်နဲ့စေလိမ့်မည်။

ဘုရားရှင်ကိုယ်တော်မြတ်ကြီးအား ရိုရိုသေသေ ကြည်ကြည်ညိုညို စစ်စစ်မှန်မှန် ကိုးကွယ်ဆည်းကပ်ရင်း ဘုရားရှင်၏ သစ္စာဓမ္မများကို နေ့စဉ် ထိတွေ့နာကြားလာမည်။ တရားစာပေများ ဖတ်ရှုခြင်း၊ တရားတိပ်ခွေများ နာကြားခြင်းများကို နိုးနိုးကြားကြား ရှင်ရှင်သန်သန် ဆောင်ရွက်လာမည်။ ထိုဆောင်ရွက်ချက်နှစ်ရပ်သည် မိမိ၏ စရဏ တရားကို ကောင်းမွန်စွာ ပြဋ္ဌာန်းလာပေတော့မည်။ မိမိဘဝ၏ အကောင်းဆုံး လမ်းညွှန်များကို အပ်နှင်းလာပေတော့မည်။ ထိုအခါ ချမ်းမြေ့ပြေလွင်သော ဘဝလမ်းကြောင်းပေါ်တွင် ဦးတည် လျှောက်လှမ်း မိပေတော့မည်။

"တစ်မျိုးမျိုးသော အလုပ်ကိစ္စရှိရင် ဘုရားကိုသာ အမှတ်ရနေပါ။ အခါမရွေး အမှတ်ရနေရင် ကောင်းပါတယ်။ ဒီလို ဘုရား အာရုံယူနေတော့ သတ္တိအလိုလို ထက်မြက်လာတယ်။ စိတ်တွေဟာ ဘုရား အာရုံ အမြဲယူနေရတော့ တည်ကြည်မှု (သမာဓိ) ကိုရလာတယ်။ ဒီလို တည်ကြည်လာတော့ ရဲရင့်ထက်မြက်တဲ့ သတ္တိကောင်းတွေ ပေါ်လာရတာပဲ။ သွားလေရာမှာ ဘုရားအာရုံနဲ့ သွားနေရင် ကြမ်းတမ်းတာ မရှိပါဘူး"

မဟာဂန္ဓာရုံ ဆရာတော်ကြီး အရှင်ဇနကာဘိဝံသ၏ အထက်ပါအဆုံးအမကို နှလုံးသွင်းလိုက်နာလျက် ဘုရားအာရုံဖြင့် နေသူ ဗုဒ္ဓဘာသာဝင်တို့၏ အိမ်၌ အာသဝေါ မကင်းသေးသည့် ပရလောကမှ မည့်သည့် ပုဂ္ဂိုလ်တို့ကိုမျှ ထားရှိကိုးကွယ်နေရန် မလိုတော့ပါ။

နိုင်ငံရပ်ခြား တိုင်းတစ်ပါးမှ ဘိုးတော်၊ မယ်တော်များကိုလည်း အိမ်ဦးခန်းတွင် တင်ထားရန် မလိုပါ။

အယုတ်တရားအားလုံးကို လွန်မြောက်ပြီးဖြစ်သော တစ်လောကလုံး၏ တုနှိုင်းမဲ့ ကိုးကွယ်ရာ အရှင်ဗုဒ္ဓမြတ်စွာ ကိုယ်တော်တိုင် မိမိအိမ်တွင် ရောက်ရှိသီတင်းသုံးနေပြီဆိုပါလျှင် အဘယ်သို့သော ကိုးကွယ်မှုတို့ကို အိမ်ဦးခန်းတွင် တင်ထားဖို့ လိုပါတော့မည်နည်း။

မျက်ကန်းယုံကြည်မှု Blind Faith ကို အခြေခံသော အပေါ်ယံအကာအလွှာ ကိုးကွယ်ရာအမျိုးမျိုးကို မောဟထုထဲစွာ ဖက်တွယ်စရာမလိုပါ။ ကိုးကွယ်ရာ မများသင့်ပါ။

"ဇာတံသရဏံဘောဘယံ"

ကိုးကွယ်မှုမှ ဘေးဖြစ်တတ်ရာ ကိုးကွယ်မှု သန့်ရှင်းအောင်၊ ကိုးကွယ်မှု မညစ်နွမ်းအောင် မြတ်ဗုဒ္ဓကိုသာ မိမိအိမ်တွင် သက်ရှိထင်ရှား စံပယ်တော်မူသကဲ့သို့ နိစ္စဓူဝ ရိုရိုသေသေ ကြည်ကြည်ညိုညို ကိုးကွယ် သင့်ပါသတည်း။

■

## အရံအတား

မလိုလားအပ်သော အနှောင့်အယှက် အဖျက်အဆီးများ၊ ကျူးကျော်ဝင်ရောက်မှုများမှ အကာအကွယ်ဖြစ်စိမ့်သောငှာ အိုးအိမ် အဆောက်အအုံတို့၌ အရံအတားအမျိုးမျိုး ထားရှိဆောင်ရွက်ကြရသည်။

အုတ်တံတိုင်းများ ခတ်ခြင်း၊ သွပ်ဆူးကြိုးများ ကာရံခြင်း၊ ညစောင့်များ ထားရှိခြင်း၊ အစောင့်ခွေးများ ထားရှိခြင်း၊ မီးဆလိုက်များ တပ်ဆင်ခြင်း စသော အရံအတား အထွေထွေကို စီမံဖန်တီးထားကြသည်။ ခေတ်မီတိုးတက်သော သိပ္ပံပညာရပ်များ အလျှံအပယ် ကြွယ်ဝထွန်းကားနေသော နိုင်ငံများ၌ ပိုမိုဆန်းကြယ်သော အရံအတား အမျိုးမျိုးကိုပင် စီစဉ်ထားရှိကြပါ၏။

လူ့ဘဝတွင်လည်း မလိုလားအပ်သော–

ကံကြမ္မာဆိုးများ

ကြေကွဲဖွယ်ဖြစ်ရပ်များ

ရင်နာဖွယ် ဆုံးရှုံးပျက်သုဉ်းမှုများ

ချောက်ချားဖွယ် ယိမ်းယိုင်ပြိုကွဲမှုများမှ ကာကွယ်နိုင်စိမ့်သောငှာ အားကိုးရမည့် အရံအတားသည် အဘယ်နည်း။ အမှီသဟဲ ပြုရမည့် အရံအတားသည် အဘယ်နည်း။

*

ပထမဦးစွာ ကမ္မနိယာမ သဘောတရားကို ဆင်ခြင်ရန် လိုပါသည်။ကမ္မနိယာမ သဘောအရ သတ္တဝါတို့၏ ကံတရားဟူသည် ဘုရားသခင် စီမံဖန်တီးခြင်း မဟုတ်။ ဗြဟ္မာမင်းကြီး စီမံထားခြင်း မဟုတ်။ သိကြားမင်းကြီး စီမံဖန်တီးခြင်း မဟုတ်။ ဗုဒ္ဓမြတ်စွာကပင်–

"သင်တို့သည် ကိုယ်တိုင် အားထုတ်ကြလော့။ တထာဂတတို့သည် ညွှန်ကြားရုံမျှ ဖြစ်ကုန်၏" (ဓမ္မပဒ၊မဂ္ဂဝဂ်) ဟု ဟောတော်မူခဲ့ပါသည်။

လူသားတို့၏ ကံကြမ္မာဟူသည် မိမိတို့ ပြုလုပ်သော အပြုအမူများ၏ အသီးအပွင့်သာ ဖြစ်ဘိ၏။ လူသားတစ်ဦး၏ ဘဝဟူသည် သူ၏များစွာသော အပြုအမူများ၏ အစုအဝေးသာလျှင် ဖြစ်၏။ မိမိ စိုက်ပျိုးသော အပင်ကို မိမိ ရိတ်သိမ်းရခြင်းသာတည်း။

လူသားသည် မိမိ၏ အပြုအမူများဖြင့်သာ မိမိတို့၏ ဘဝကိုတည်ဆောက်ထားခြင်း ဖြစ်ပါသည်။ အပြုအမူဟူသည် ပြုမူဆောင်ရွက်ခြင်းကိစ္စ ပြီးမြောက်သည်နှင့် ပျောက်ကွယ်စမြဲ။ သို့သော် ယင်းအပြုအမူများကြောင့် ပြီးမြောက်ဖြစ်ပေါ်လာသော အကျိုးဆက်ကမူ မည်သည့်အခါမျှ မခွဲခွာ။ အရိပ်ပမာ လိုက်နေမြဲဖြစ်၏။ အပြုအမူမှ မွေးဖွားအပ်သော အကျိုးတရားဟူသည် (အကောင်းအဆိုးမဟူ) တည်တံ့မြဲ။ လူသား၏ အနာဂတ်ဘဝ တစ်လျှောက်လုံးကို အစဉ် လွှမ်းမိုးမြဲ။ ဩဇာအာဏာ သက်ရောက်မြဲ။

လူသားသည် မိမိ၏ ဇနီးမယား၊ သမီး၊ သားနှင့် ရေငွေဥစ္စာ၊ တိုက်တာအဆောက်အအုံကိုသာ ကိုယ်ပိုင်ဥစ္စာဟု ထင်မှတ်ကြ၏။ လျှပ်တစ်ပြက်အတွင်းမှာပင် အလျဉ်းမသင့်လျှင် ကွဲရ၊ ခွာရ၊ စွန့်ရတတ်သော ယင်းအရာများကား ကိုယ်ပိုင်ဥစ္စာ အစစ်အမှန် မဟုတ်ပါချေ။ ကိုယ် နှုတ် နှလုံး သုံးပါးဖြင့် ပြုလုပ်သော စေတနာမြောက်သည့် အပြုအမူဟူသမျှသည်သာ မိမိကိုယ်ပိုင်ဥစ္စာ အစစ်အမှန်ဖြစ်ပါသည်။

လူသားသည် မိမိအပြုအမူ၏ အမွေခံဖြစ်ပါသည်။ လူသားအချင်းချင်း (ဘဝအနေအထားချင်း) မတူညီစေရန်မှာလည်း သူတို့၏ အပြုအမူက ဖန်တီးထားခြင်းပင်။ ဗုဒ္ဓဝါဒအရ လူသား၏ အခြေအနေကို ဖန်တီးသည့်အရာများမှာ–

(၁) မိမိ၏ ဗီဇနိယာမ

(၂) မိမိ၏ ရုပ်ပိုင်းဆိုင်ရာ၊ နာမ်ပိုင်းဆိုင်ရာ လူမှုရေး ပတ်ဝန်းကျင်အခြေအနေ

(၃) မိမိ၏ စိတ္တနိယာမ

(၄) မိမိ၏ ကံတို့ ဖြစ်ပါသည်။

သို့တစေ ယင်းအရာတစ်ခုစီ၊ တစ်ခုစီသည် လည်းကောင်း၊ အားလုံးသည် လည်းကောင်း လူကို ချုပ်ကိုင်ထားနိုင်စွမ်း မရှိပါ။

လူ၌ ကိုယ်ပိုင်စိတ်ဆန္ဒ (အတ္တကာရာ) ကိုယ်ပိုင်လုံ့လဥဿဟ (ပုရိသာကာရ) ရှိပါသည်။ ယင်းအရာများကို အသုံးပြုပြီး မိမိ၏ ဘဝအခြေအနေကို ပုံသွင်းနိုင်ပါသည်။ တည်ဆောက်နိုင်ပါသည်။ ထို့ကြောင့်လည်း ဘုရားရှင်က–

"မိမိသည်သာလျှင် မိမိ ကိုးကွယ်ရာ ဖြစ်၏။ သူတစ်ပါး အဘယ်မှာ ကိုးကွယ်ရာ ဖြစ်နိုင်အံ့နည်း။ မိမိသာလျှင် မိမိ၏ လားရာ ဖြစ်၏။ ထို့ကြောင့် မြင်းကုန်သည်သည် မြင်းကို စောင့်ရှောက်သကဲ့သို့ မိမိကိုယ်ကို စောင့်ရှောက်ပါ" ဟု ဓမ္မပဒ၊ ဘိက္ခုဝဂ်တွင် ဟောတော်မူခဲ့ခြင်း ဖြစ်ပါသည်။

*

ကောင်းမှုပြုလျှင် ကုသိုလ်

မကောင်းမှုပြုလျှင် အကုသိုလ်

ကံသုံးပါး အပြုအမူကောင်းလျှင် ဘဝကောင်းမည်။

ကံသုံးပါး အပြုအမူမကောင်းလျှင် ဘဝဆိုးမည်။

ထိုအခါ ဆိုးရွားယုတ်ညံ့၊ နိမ့်ကျသော ဘဝမျိုးသို့ မကျရောက်စေရန် အပြုအမူဆိုးများမှ ရှောင်ရှားဖို့ လိုအပ်လာသည်။

ဆိုးရွားသော ကံသုံးပါး အပြုအမူများမှ ကောင်းကျိုး ရလာနိုင်ရန် မျှော်လင့်၍ မဖြစ်။ ဆုတောင်း၍ မရနိုင်။ မည်သည့် တန်ခိုးရှင်မှလည်း ကယ်မရန် မစွမ်းနိုင်။

မည်သည့် သိဒ္ဓိဆိုင်ရာ အစီအမံကမှလည်း ယင်းဆိုးကျိုးမှ လွတ်မြောက်အောင် မထုတ်ဆောင်နိုင်။ တူသော အကျိုးပေးမြဲ ဓမ္မတာကို ကပြောင်းကပြန်ဖြစ်အောင် ပြောင်းလဲစေနိုင်သည့် ပုဂ္ဂိုလ်ဟူ၍ လောကမြေအပြင်၌ ရှာဖွေ၍ မတွေ့နိုင်။

အပြုအမူဟူသည် လေးမှ ပစ်လွှတ်လိုက်သော မြားနှယ်ပင်။ ဦးတည်ရာသို့ စူးနစ် ဝင်ရောက်သွားတတ်သည်ချည်းပင်။ လမ်းခရီး တစ်လျှောက် အရှိန်အဟုန် ပြင်းစွာ ပြေးသွားသည့် မြားကို လေးပစ်သူသည် ပြန်ဖမ်း၍ မရတော့။

သို့ဖြစ်၍ မိမိ၏ဘဝကို ဆိုးကျိုးများမှ ကာကွယ်လိုလျှင် ကံသုံးပါး အပြုအမူဆိုးများကို မပြုမိရန် သတိဖြင့် ဆင်ခြင်ထိန်းချုပ်ရမည်သာ ဖြစ်ပါသည်။

ကာယကံ၊ ဝစီကံ၊ မနောကံဟူသော ကံသုံးပါး အပြုအမူကို အမြဲမပြတ် စောင့်ကြည့်စိစစ်ထိန်းချုပ်မှု ပြုခြင်းသည်သာ လူ၏ ကံကြမ္မာအား မလိုလားအပ်သော အပြစ်ဆိုးများ၊ ကြေကွဲဖွယ်ဖြစ်ရပ်များ၊ ယိမ်းယိုင်ပြိုကွဲမှုများ၊ ဆုံးရှုံးပျက်သုဉ်းရမှုများမှ ကာကွယ်နိုင်သည့် ဘဝ၏ စစ်မှန်သော အရံအတားမည်ပါ၏။

အပြုအမူတစ်ခုစီ တစ်ခုစီကို (မပြုမီအချိန်ကပင်) မိမိအတွက်သော်လည်းကောင်း၊ သူတစ်ပါးအတွက် သော်လည်းကောင်း ကောင်းကျိုး ဖြစ်စေမည်လားဟု ဆင်ခြင်ပါ။

မိမိအတွက်လည်း ကောင်းကျိုးဖြစ်စေ၍ သူတစ်ပါးအတွက်လည်း ကောင်းကျိုးဖြစ်စေပါအံ့။ ယင်းအပြုအမူမျိုးကား ဆောင်ရွက်ရန် အသင့်လျော်ဆုံးပေတည်း။

အကယ်၍ မိမိအတွက် အကျိုးဖြစ်စေပြီး သူတစ်ပါးအတွက်မူ အကျိုးမဖြစ်သော်လည်း ထိခိုက်နစ်နာစေမှု မရှိပါက ယင်းအပြုအမူမျိုးလည်း ဆောင်ရွက်သင့်သည်ပင်။

မိမိအတွက် အကျိုးဖြစ်စေသော်လည်း သူတစ်ပါးအား ထိခိုက်နစ်နာစေပါက ယင်းအပြုအမူမျိုးကား ရှောင်ကြဉ်ထိုက်သည်ပင်။

သူတစ်ပါးအကျိုးစီးပွား ပျက်ပြားစေသော အပြုအမူမှန်သမျှ (လောလောဆယ် မိမိတွင် လောကီအကျိုးစီးပွား တိုးပွားသည်ဟု ထင်ရစေကာမူ) စင်စစ်သော် မိမိအကျိုးကိုလည်း တစ်ချိန်ချိန်တွင် ထိခိုက်စေလိမ့်မည်သာ။ သူတစ်ပါး အကျိုးစီးပွား ပျက်ပြားစေသော အပြုအမူမှန်သမျှ တစ်ချိန်ချိန် တူသော အကျိုးပေးကာ မိမိ အကျိုးစီးပွားကိုလည်း နစ်နာဆုံးရှုံးစေလိမ့်မည်သာပင်။

အကယ်၍ အပြုအမူတစ်ခုသည် မိမိ၏အကျိုးစီးပွား ပျက်စေသည်ဟု ဆင်ခြင်မိပါက ယင်းအပြုအမူမျိုးကို မပြုမီကပင် ဝေးစွာ ရှောင်ကြဉ်ရပေလိမ့်မည်။

ဤသို့ဖြင့် အပြုအမူတစ်ခုကို ဆောင်ရွက်ရန် ကြံစည်တိုင်း သတိဖြင့် ဆင်ဆင်ခြင်ခြင် နှိုင်းနှိုင်းဆဆ ပြုနေလျှင် မကောင်းကျိုးများကို သယ်ပိုးဆောင်ကြဉ်းလာတတ်သော (ကိုယ် နှုတ် စိတ်တို့မှ ပေါက်ဖွားလာသည့်) အပြုအမူဆိုးများကို ထိန်းချုပ်၍ ရလာပေမည်။ ကံသုံးပါး စင်ကြယ်မှုသည် တဖြည်းဖြည်း တိုးပွား၍ လာပေလိမ့်မည်။

အပြုအမူဟု ဆိုရာတွင်–

ကိုယ်ကာယနှင့် ပတ်သက်သော အပြုအမူ (ကာယကံ)

နှုတ် သို့မဟုတ် စကားနှင့် ပတ်သက်သော အပြုအမူ (ဝစီကံ)

စိတ်နှလုံးနှင့် ပတ်သက်သော အပြုအမူ (မနောကံ) ဟူ၍ သုံးမျိုး ရှိပါသည်။

ယင်းသုံးမျိုးတွင် မနောကံသည် ရှေ့သွားဦးဆောင်ပေတည်း။ မနောကံ (စိတ်လှုပ်ရှားမှုတစ်ခု) ဖြစ်တိုင်း ကာယကံ၊ ဝစီကံ တို့ လိုက်ပါရသည်တော့ မဟုတ်ပါ။ သို့တစေ အားကောင်း ထက်သန်သောအခါတွင်မူ ကာယကံနှင့် ဝစီကံတို့သည် မနောကံ၏ စေစားရာနောက်သို့ ဦးညွှတ်လိုက်ပါရချေတော့သည်။

မနောကံ စတင်ခြင်းမပြုဘဲ ဝစီကံနှင့် ကာယကံသည် ဖြစ်ပွားခြင်း မရှိနိုင်။

ကောင်းသော ဝစီကံ ကာယကံ ဖြစ်စေ၊ ဆိုးသော ဝစီကံ ကာယကံဖြစ်စေ မနောကံမှသာ ပေါက်ဖွားလာခြင်း ဖြစ်ပါသည်။

ကောင်းသော မနောကံမှ ကောင်းသော ကာယကံ၊ ဝစီကံတို့ ဖြစ်ပွားစေ၍ ဆိုးသော မနောကံမှ ဆိုးသော ဝစီကံ၊ ကာယကံကို ဖြစ်ပွားစေသည်မှာ နိယာမပင်။

သို့ဖြစ်၍ ဆိုးသော ဝစီကံမှု၊ ဆိုးသော ကာယကံမှုတို့ မဖြစ်ပွား မပေါ်ပေါက်စေရန်မှာ စိတ်အစဉ်တွင် ဆိုးသော မနောကံကို ဖြစ်တည်ခွင့် မပေးရန်ပင်ဖြစ်ပါသည်။ စိတ်နှလုံးတွင် ဆိုးရွားသော စိတ်အညစ်အကြေးများ ငြိတွယ်ခွင့် မပေးရန်ပင် ဖြစ်ပါသည်။

ဤသို့ဖြင့် စိတ်ခံစားမှု တစ်ခုဖြစ်တိုင်း၊ စိတ်လှုပ်ရှားမှု တစ်ခုဖြစ်တိုင်း စိတ်၏ စင်ကြယ်မှုလော၊ စိတ်၏ အညစ်အကြေးလောဟူသည်ကို မပြတ်သော သတိဖြင့် တစ်ရံမလပ် စောင့်ကြည့် စစ်ဆေးသော အလေ့အထကို တစ်စတစ်စ ပွားများတည်ဆောက် ရပေလိမ့်မည်။

ဤသည်ပင် မိမိ၏ဘဝအား မကောင်းကျိုး ဟူသမျှမှ ရှောင်ရှားစေနိုင်မည့် စစ်မှန်သော အရံအတားမည်ပါ၏။ လူသားဘဝ၏ အကောင်းဆုံးနှင့် အစစ်မှန်ဆုံးသော ကာကွယ်ရေးဥပဒေသကြီးလည်း ဖြစ်ပါ၏။

မိမိ၌ စိတ်လှုပ်ရှားမှုဖြစ်တိုင်း ဝိသမလောဘလော၊ ဒေါသလော၊ မာန်မာနလော၊ အာဃာတလော၊ မစ္ဆရိယလော၊ ဣဿာလော စသည်ဖြင့် ဆင်ခြင်သုံးသပ်ပါ။ ယင်းအရာများကား စိတ်နှင့် ပတ်သက်သော မကောင်းမှုများ ပယ်သတ်နိုင်ပါမူ ကိုယ်နှင့် ပတ်သက်သော မကောင်းမှု၊ နှုတ်နှင့် ပတ်သက်သော မကောင်းမှုများ ဖြစ်ပွားလာတော့မည် မဟုတ်ပါ။

ထိုမကောင်းမှုများက သယ်ပိုးဆောင်ကြဉ်းလာသည့် ကံကြမ္မာဆိုးနှင့် အနိဋ္ဌာရုံ တရားများလည်း ထိုသူ၏ ဘဝအတွင်းသို့ ချင်းနင်းဝင်ရောက်လာခွင့် မရှိနိုင်တော့ပါ။

## ထေရဝါဒ အမွေအနှစ်

ထေရဝါဒ သာသနာသည် ဘိုးဘွားဘီဘင် အဆက်ဆက်တို့ လက်ဆင့်ကမ်းခဲ့သော မြန်မာတို့၏ အမွေအနှစ် ရတနာဖြစ်သည်။

ဤထေရဝါဒရတနာကို အမွေအနှစ်အဖြစ် ထားရစ်ခဲ့သော ဘေးဘိုးဘီဘင်များ၏ ကျေးဇူးတရားကား အနန္တ။ ထိုကျေးဇူးရှင်ကြီးများသည် ကိုးကွယ်ရာ ဘာသာတရား တစ်ခုကို ဝေဖန်စိစစ်ပြီးမှ လက်ခံခဲ့ကြခြင်း ဖြစ်သည်။

မြန်မာနိုင်ငံအတွင်း ချင်းနင်းဝင်ရောက်လာခဲ့သော မဟာယာနအယူဝါဒများ၊ ဗြာဟ္မဏဟိန္ဒူ အယူဝါဒများ၊ တန္တရဝါဒ၊ မန္တရဝါဒ၊ ယန္တရဝါဒများကို ပစ်ပယ်ခဲ့ပြီး ထေရဝါဒကို လက်ခံခဲ့ကြခြင်းလည်း ဖြစ်သည်။

ရှေးမြန်မာကြီးများသည် မိမိတို့ထံ ဝင်ရောက်လာသော အယူဝါဒများကို ကြီးမားသော အမြော်အမြင်၊ ဆင်ခြင်တုံတရားများဖြင့် စိစစ်ဝေဖန်လျက် စွန့်ပယ်သင့်သည်တို့ကို ရက်ရက်ရဲရဲ စွန့်ပယ်၍ ယူသင့်သည်ကို ယုံယုံရဲရဲ ယူခဲ့ကြပေသည်။ အဆင်ခြင်မဲ့၊ အစစ်ဆေးမဲ့၊ အစူးစမ်းမဲ့၊ အစောကြောမဲ့ ဘာသာတရားတစ်ရပ်ကို လက်ခံကိုးကွယ်ခဲ့ခြင်း မဟုတ်ပါပေ။ အယူဝါဒ အသီးသီး ၏ ကောင်းကျိုး၊ ဆိုးကျိုးဟူသမျှ ဝေဖန်စိစစ်ဉာဏ်ဖြင့် စနစ်တကျ စိတ်ဖြာသုံးသပ်ပြီးမှ ထေရဝါဒ ဗုဒ္ဓဘာသာကို ဦးထိပ်ပန်ဆင်ခဲ့ကြခြင်း ဖြစ်ပါပေသည်။

အကြောင်းအရင်းမြစ်ကို စေ့ငုဆင်ခြင်လိုက်လျှင် ကျေးဇူးရှင် ဘိုးဘွားဘီဘင်တို့၏ ဉာဏ်အမြော်အမြင်ကား အံ့မခန်း ကြီးမားလှပါဘိ။ နက်ရှိုင်းလှပါဘိ။

ဖန်ဆင်းသူ၊ စောင့်ရှောက်သူကို ကိုးကွယ်သော ဘာသာတရားအား ပစ်ပယ်၍ မိမိဘဝကို မိမိ ဖန်တီးနိုင်စွမ်း ရှိသည်ကို လက်ခံသည့် ဘာသာတရားကို ယုံကြည်သော ရှေးမြန်မာကြီးတို့၏ အတွေးအခေါ်ကား ရိုးသားလွန်းလှပါဘိ။ ရဲရင့်လွန်းလှပါဘိ။ လူ့အားမာန် ပြည့်လျှမ်းလွန်းလှပါဘိ။

တန်ခိုးရှင်၊ ဖန်တီးရှင်၊ ဖျက်ဆီးသူများဖြင့် လူသား၏ စွမ်းအင်နှင့်တန်ဖိုးကို မှောင်ချထားသော အယူဝါဒများကို လက်မခံခဲ့ဘဲ လူသား၏ စိတ်ဓာတ်အား မှန်ကန်စွာ သန်စွမ်းတိုးတက်ခြင်း မပြုနိုင်အောင် ပိတ်ပင်ချုပ်ချယ်ထားသော အရာမှန်သမျှ ဆန့်ကျင်ခြားနားသည့် ထေရဝါဒကိုသာ ရွေးချယ် ကိုးကွယ်ခဲ့သော ရှေးမြန်မာကြီးတို့ ၏ ဦးနှောက်ကား အထက်တန်းကျလှပါဘိ။

အတ္တဝါဒ အမျိုးမျိုးကို လက်မခံ ငြင်းဆန်ခဲ့ပြီး အနတ္တဝါဒကိုသာ ရွေးချယ်ကိုးကွယ်ခဲ့သော ရှေးမြန်မာကြီးတို့၏ အတွေးအခေါ်ကား နက်ရှိုင်းလွန်းလှပါဘိ။ ရင့်ကျက် သိပ်သည်းလွန်းလှပါဘိ။ ကမ္ဘာနှင့် အဝန်း နတ်ကိုးကွယ်မှုများ ထွန်းကားပျံ့နှံ့နေချိန်တွင် နတ်ရုပ်ဟူသမျှ နတ်လှောင်ကျောင်းထဲတွင် သော့ခတ်ပိတ်လှောင် ခဲ့သော ပုဂံခေတ်မြန်မာကြီးများ၏ စိတ်ဓာတ်ကား ပြောင်မြောက်လွန်းလှပါဘိ။

တစ်စုံတစ်ရာသော တန်ခိုးရှင် ဖန်တီးရှင်ထံတွင် မိမိဘဝကို အပ်နှင်းပြီး ထိုတန်ခိုးရှင်ထံတွင် ဖြစ်လိုရလိုမှုများကို ဆုတောင်းအမျိုးမျိုးဖြင့် တောင်းခံသော အယူဝါဒအမျိုးမျိုးနောက်သို့ ကောက်ကောက်ပါ မလိုက်ဘဲ မိမိ၏ စေတနာကို မိမိယုံကြည်သော၊ မိမိစေတနာ အားလျော်စွာ အလုပ်လုပ်ရသည်ကို လက်ခံသော

ဆုတောင်း၍မရ အလုပ်လုပ်ရသည်ကို ခံယူသော ထေရဝါဒ ဗုဒ္ဓဘာသာ၏ ဦးဆောင်မှုကို ရှေးမြန်မာကြီးများ ခံယူခဲ့ပါ ၏။

မိမိ၏ ခန္ဓာကိုယ်အတွင်း နှလုံးသားအတွင်း၌ အစစ်အမှန် တည်ရှိသည့် စေတနာ၊ ဉာဏ်ဝီရိယ၏ တန်ဖိုးများကိုသာ အသိမှတ်ပြုသော ဘာသာတရားကို နှောင်းလူတို့အတွက် အမွေပေးခဲ့သော ရှေးဘေးဘိုးဘီဘင်တို့၏ ကျေးဇူးမဟာကို တုံ့ဆပ်ရမည်မှာ ယနေ့ ဗုဒ္ဓဘာသာဝင်တို့၏ တာဝန်ဖြစ်ပါ၏။

ဒဿနသဘောမပါမှုဘဲ ဥပါဒါန်သဘော ဆောင်သော တန္တရ၊ ယန္တရ၊ မန္တရ ဝါဒအမျိုးမျိုးကို ဝါဒဆိုးများအဖြစ် သတ်မှတ်လျက် ဝေးဝေးက ရှောင်ကြဉ်ခဲ့သော ရှေးဘိုးဘေးဘီဘင်တို့၏ အစဉ်အလာကို ဆက်လက်ထိန်းသိမ်းရပေမည်။

ကိုးကွယ်ရာ ဘာသာတရားဟူသည် လူမျိုးတစ်မျိုး၏ အသက်သွေးကြောဖြစ်ပါ၏။ ဓလေ့ထုံးစံ၊ ယဉ်ကျေးမှုစသော အကိုင်းအခက်များသည် ဘာသာရေးစည်ပင်မှ ဖြစ်ထွန်းလာခြင်း ဖြစ်ပါသည်။

ဘာသာရေး အမွေအနှစ်ကို ရရှိခံစားခြင်း၊ ထိန်းသိမ်းစောင့်ရှောက်ခြင်း ပြုရမည့်တာဝန်မှာ ဘာသာဝင်တိုင်း၏ မပြုမနေရ တာဝန်ဖြစ်ပါ၏။

လွတ်လပ်စွာ ကိုးကွယ်ခွင့်ဟူသည် မွေးရာပါ လူ့အခွင့်အရေးဖြစ်သောကြောင့် လူသားတိုင်း နှစ်သက်ရာ ဘာသာတရားကို ကိုးကွယ်နိုင်ခွင့် ရှိပါသည်။ ဗုဒ္ဓဘာသာဝင်တစ်ဦးအနေဖြင့်လည်း မိမိသဘောကျရာ အခြားဘာသာတရားကို ပြောင်းလဲကိုးကွယ်နိုင်ခွင့် ရှိပါ၏။ ယင်းအတွက် ဗုဒ္ဓဘာသာအနေနှင့် တစ်စုံတစ်ရာ ဆုံးရှုံးသွားမည် မဟုတ်ပါ။ သို့တစေ–

ဗုဒ္ဓဘာသာအဖြစ် ခံယူပါလျက် အခြားအခြားသော အယူဝါဒများ၊ ဓလေ့ထုံးတမ်းများကို ရောထွေးခံယူ ကျင့်သုံးနေလျှင်မူ ထိုသူကိုယ်တိုင်လည်း ဗုဒ္ဓဘာသာဝင်စစ်စစ် မဖြစ်နိုင်တော့သကဲ့သို့ ဘာသာရေးဘက်တွင် မြေစမ်းခရမ်းပျိုးစသာ ရှိနေသေးသော မျိုးဆက်သစ် လူငယ်လူရွယ်များအနေဖြင့်လည်း ထေရဝါဒစစ်စစ်ကို သိမြင်ခွင့် ရှိတော့မည် မဟုတ်ပါ။

မိဘဖြစ်သူကိုယ်တိုင်က ဘုရားခန်းတွင် သူရဿတီဒေဝီ၊ ကွမ်ယင်မယ်တော်၊ ဘိုးတော်အမ်းကုန်း၊ ဘိုးမင်းခေါင်၊ အောင်မင်းခေါင်၊ မဟိန္ဒရာသူတော်စင် စသည့်ပုံများ ချိတ်ဆွဲနေလျှင် သားသမီးတွေ အနေနှင့်လည်း ထေရဝါဒစစ်စစ်တွေ ဖြစ်မလာတော့ဘဲ ယောင်ဝါးဝါးမှုန်ပြာပြာ ကပြားဗုဒ္ဓဘာသာဝင်တွေသာ ဖြစ်လာပေတော့မည်။

ဆရာဝင်းသိန်းဦး၏ ဆောင်းပါးတစ်ပုဒ်တွင် ပါရှိသည့် ဟိန္ဒူနတ်သမီးကြီးများကို ကိုးကွယ်နေသူ၊ ဟိန္ဒူဘုရားကျောင်းသွားသူ၊ အဓိဋ္ဌာန်ဝင်ပြီး တစ်ကိုယ်လုံး ဝါထိန်အောင် လူးသူ၊ နံငယ်ပိုင်းအဝတ်ဖြင့် ခန္ဓာအနံ့ အပ်တွေစိုက်ပြီး အလှူခံထွက်သူ ဗုဒ္ဓဘာသာဝင်တစ်ချို့၏ သားသမီးများသည် အဘယ်မှာလျှင် ဗုဒ္ဓဘာသာဝင်စစ်စစ် ဖြစ်လာတော့မည်နည်း။

လက်ဦးဆရာဖြစ်သော မိဘကိုယ်တိုင်က ဘာသာရေးတွင် အချိုးမကျ၊ ရောရိရောရာ ယောင်ချာချာဖြစ်နေပါလျှင် သူတို့၏အမွေကို ဆက်ခံမည့် သားသမီးများမှာလည်း အဘယ်မှာလျှင် ထေရဝါဒစစ်စစ်

ဖြစ်တော့မည်နည်း။ စင်စစ်သော် ထိုသူတိုသည် ဘာသာရေးစိတ်ဓာတ် မြဲမြံခိုင်မာမှုမရှိရုံမျှမက ဘာသာရေး အသိအမြင် ချွတ်ခြုံကျရှာသူများ ဖြစ်ပါသည်။

ဗုဒ္ဓပွင့်တော်မူရာ အခြေခံ အိန္ဒိယပြည် မဇ္ဈိမတိုင်း၌ ဗုဒ္ဓသာသနာ ကွယ်ပရခြင်း အကြောင်းအရင်းများတွင် ဟိန္ဒူဗြဟ္မဏမဟာယာနတို့၏ နတ်၊ ဝိဇ္ဇာ ၊အင်းအိုင်၊ ခါးလှည့်၊ ဂါထာ၊ မန္တရား စသော လောကီရေးရာ အတတ်ပညာများ ဗုဒ္ဓဘာသာအတွင်း ရောဝင်ပူးကပ်ခံရခြင်းသည် အဓိက အကြောင်းအရင်းဖြစ်ကြောင်း ထိုသူများ သိရှာလိမ့်မည် မဟုတ်ပါ။

ကျေးဇူးရှင် ဘိုးဘွားဘီဘင် အဆက်ဆက် လက်ဆင့်ကမ်းခဲ့သော ထေရဝါဒ အမွေအနှစ်ကား အမြင့်မြတ်ဆုံး တန်ဖိုးအရှိဆုံး ရတနာအစစ်ဖြစ်ပါ၏။ ထေရဝါဒသာသနာသည် အကြွင်းမဲ့ ပြည့်စုံပြီးဖြစ်သော ဘာသာတရားလည်း ဖြစ်ပါ၏။ သင်္ဂါယနာအဆက်ဆက် တင်ခဲ့ပြီးဖြစ်သော ထေရဝါဒပိဋကတ်တော်များသည် အသန့်ရှင်းဆုံး၊ အစင်ကြယ်ဆုံး ဖြစ်ပါသည်။ အပြည့်စုံဆုံးလည်း ဖြစ်ပါသည်။ မည်သည့်အရာမျှ နုတ်ပယ်ရန်မလိုသကဲ့သို့ မည်သည့်အရာမျှလည်း ဖြည့်စွက်ရန် မလိုပါ။

ထို့ကြောင့်လည်း–

'သင်သည် ဗုဒ္ဓဝါဒကို အမှန်တကယ် စိတ်ပါမြတ်နိုး၍ လက်တွေ့ကျကျ အဟုတ်ကျင့်ကြံသည်ကို လေ့လာလိုပါလျှင် မြန်မာနိုင်ငံသို့ သွားပါ'

ဟူသော ကမ္ဘာကျော်ဆိုထုံး တစ်ခုပင် ရှိပါသည်။

စစ်မှန်စင်ကြယ်သောပြီးပြည့်စုံပြီးဖြစ်သော ထေရဝါဒပိဋကတ်တော်များကြောင့် မြန်မာနိုင်ငံသည် ပရိယတ်၊ ပဋိပတ်သာမက ပဋိဝေဓပါ ဘက်စုံ ဖွံ့ဖြိုးတိုးတက်သော နိုင်ငံအဖြစ်လည်း ကမ္ဘာမှာ ထင်ရှားနေခြင်းဖြစ်ပါသည်။

ဤမျှအားကိုးရသော၊ ခိုင်ခံ့သော အကြွင်းမဲ့ ပြည့်စုံပြီးဖြစ်သော ထေရဝါဒ ပိဋကတ်တော်များ ကို လူမျိုး၏ အမွေအနှစ်အဖြစ် လက်ဆင့်ကမ်းခဲ့သော ရှေးဘိုးဘွားဘီဘင်တို့၏ ကျေးဇူးတရားကို တုံ့ဆပ်လိုသော်၊ ထေရဝါဒ ပိဋကတ်တော်များတွင် လမ်းညွှန်ထားပြီး ဖြစ်သော ဆောင်ရန်၊ ရှောင်ရန်များအတိုင်း တိတိပပ လိုက်နာကျင့်ကြံကြရန်ဖြစ်ပါသည်။

စင်စစ်သော် အထက်တန်းစား ဗုဒ္ဓဘာသာဝင်စစ်စစ်တစ်ယောက်သည် ရက်ရာဇာ၊ ပြဿဒါးကို ဂရုမစိုက်၊ အတိတ်နမိတ်တို့ကို ဂရုမစိုက်၊ သာသနာ့ဗာဟီရ ဂါထာမန္တန်များကို ဂရုမစိုက်၊ နေကြတ်ခြင်း၊ လကြတ်ခြင်းကို ဂရုမစိုက်၊ နတ်စုန်းကဝေ တစ္ဆေသရဲတို့ကို ဂရုမစိုက်၊ အဆောင်လက်ဖွဲ့ကို ဂရုမစိုက်၊ အင်းအိုင်ခါးလှည့်တို့ကို ဂရုမစိုက်၊ အိပ်မက်တဘောင်စနည်းရွှေပေလွှာများကို ဂရုမစိုက်ပေ။ အဘယ်ကြောင့်ဆိုသော်

ထေရဝါဒပိဋကတ်တော်များတွင် ထိုအရာများသည် သာသနာပြင်ပ လောကီ အတတ်ပညာများသာ ဖြစ်၍ သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်စေနိုင်သော ပညာများ မဟုတ်ကြောင်း ဖော်ပြထား၍ ဖြစ်ပါသည်။

ထေရဝါဒပိဋကတ်တော်များတွင် သူရဿတီမယ်တော်၏ သူရဿတီမယ်တော်၏ အခန်းကဏ္ဍ လုံးဝမရှိ။ ရှင်ဥပဂုတ္တ၏ အခန်းကဏ္ဍလုံးဝမရှိ။ ဘိုးတော်၊ အမ်းကုန်း၊ ကွယ်ယင်ဒေဝီ၊ မဟိန္ဒရာ သူတော်စင်၊ အောင်မင်းခေါင်၊ ဘိုးမင်းခေါင်တို့၏ အခန်းကဏ္ဍလုံးဝမရှိ။ ဉုံမဏိပဒ္မေဟုံ၏ အခန်းကဏ္ဍလုံးဝမရှိ။

ဗုဒ္ဓဘာသာဝင်ဖြစ်ပါလျက် ထေရဝါဒ သာသနာပြင်ပ လွဲမှားသော ကိုးကွယ်ရာ အမျိုးမျိုးနောက် ကောက်ကောက်ပါ လိုက်နေသူများမှာ ရှေးဘိုးဘွားဘီဘင်တို့ ထားချန်ရစ်ခဲ့သော အမွေအနှစ် ကို ဖျက်လိုဖျက်ဆီး ပြုမူနေသူများ ဖြစ်ပါသည်။

သန့်ရှင်းစင်ကြယ်ပြီး အကြွင်းမဲ့ ပြည့်စုံသော ထေရဝါဒအမွေအနှစ်ကို စဉ်းငယ်မျှပင် အရောယှက် မခံဘဲ မြတ်မြတ်နိုးနိုး စောင့်ရှောက်ထိန်းသိမ်းရမည့် တာဝန်မှာ ဗုဒ္ဓဘာသာဝင်တို့၏ အဓိက တာဝန် ဖြစ်ပါသတည်း။

## ကြယ်တာရာနှင့် သစ်ရွက်ကြွေ

(၁)

ကြယ်တာရာတို့မည်သည် တိကျခိုင်မာသော ပန်းတိုင် ရှိ၏။ သတ်မှတ်ပိုင်းခြားထားသော လမ်းအတိုင်းသာ ရွေ့လျားရာ၌ ကိုယ်ပိုင်စွမ်းအားကိုသာလျှင် အားကိုး၏၊ အမှီသဟဲပြု၏။ မည်သည့်ပြင်ပ ပယောဂကြောင့်မျှ သတ်မှတ်လမ်းမှ သွေဖည်သွားသည်ဟူ၍ မရှိ။ ဦးတည်ရာမှ တိမ်းစောင်းသွားသည်ဟူ၍ မရှိ။

(၂)

သစ်ရွက်ကြွေတို့မည်သည် တိကျခိုင်မာသော ပန်းတိုင်ဟူ၍ မရှိ။ သတ်မှတ်ပိုင်းခြားထားသော လမ်းလည်းမရှိ။ လေအနှင့်တွင် ကြွေလွင့်ဝဲပျံလျက် ရောက်ချင်ရာ ရောက်တတ်၏။ သစ်ရွက်ကြွေ၏ ပျံ့လွင့်ဝေ့ဝဲမှုတွင် ကိုယ်ပိုင်စွမ်းအားဟူ၍ နတ္ထိ။ ပြင်ပလေ၏ ဆွဲဆောင်ရာ နောက်သို့သာ စွမ်းအားမဲ့စွာ ဦးတည်ချက် မရောရာစွာ လွင့်မျောရရှာ၏။

(၃)

ဘာသာတရား ကိုးကွယ်မှုပိုင်းတွင် ကြယ်တာရာနှယ် ကျင့်သုံးသူများလည်း ရှိသကဲ့သို့ သစ်ရွက်ကြွေနှယ် ကျင့်သုံးသူများလည်း ရှိပါ၏။

ကြယ်တာရာလို ပုဂ္ဂိုလ်များ၏ နှလုံးသားထဲ၌ ရတနာသုံးပါးမှတစ်ပါး အခြား ဘယ်အရာမျှ မရှိ။ ရတနာသုံးပါးကိုသာလျှင် ကိုးစားရာ အားထားရာဟု မယိမ်းမယိုင် ခိုင်ခိုင်မြဲမြဲ စွဲစွဲနစ်နစ် ခံယူ၏။ အခြား ကိုးစားစရာများကို လုံးဝ ဥပေက္ခာပြု လျစ်လျူရှု၏။ စီးပွားဥစ္စာ ရာထူးဂုဏ်ရှိန်လာဘ်လာဘတို့ကို မက်လုံးပေး၍ အခြား အခြားသော ကိုးကွယ်ရာများကို ဖက်တွယ်ရန် သွေးဆောင်ဖြားယောင်းလာစေ စဉ်းငယ်မျှ မရွေ့မယိုင်။ ဗုဒ္ဓ၊ ဓမ္မ၊ သံဃဟူသော ကိုးကွယ်ရာများနှင့် နှိုင်းယှဉ်လျှင် အခြား အခြားသော (နတ်၊ ဘိုးတော်၊ မယ်တော် စသည်) များကို မြူမှုန်ပမာ ဖွဲ့ပမာမျှသာ သဘောထားတတ်၏။ မည်မျှပင် အဆိုးလောကဓံ၏ ဒဏ်ကို ပြင်းပြင်းပြပြ ခံစားရစေ ရတနာသုံးပါးမှအပ ဘယ်အရာတွင်မျှ အားကိုးရာမရှာ။ ဆောက်တည်ရာ မပြု။

သစ်ရွက်ကြွေလို ပုဂ္ဂိုလ်များကား နှုတ်မှမူ သရဏဂုံကို ဆောက်တည်ပါ၏။ သို့သော် လောကီအကျိုး တိုးပွားစေသည်ဟု ဆိုလျှင် နတ်ကိုလည်း ကိုးကွယ်၏။ ဘွားတော်ကိုလည်း ကိုးကွယ်၏။ ပြည်တွင်းမှ ဘိုးတော်၊ ဘွားတော်များနှင့်ပင် အားမရ မတင်းတိမ်။ ပြည်ပမှ ဘိုးတော်၊ ဘွားတော်များကိုလည်း ကိုးကွယ်။ ရတနာသုံးပါးနှင့် ထိုထိုသော ပုဂ္ဂိုလ်များသည် ပြဒါးတစ်လမ်း၊ သံတစ်လမ်း ဖြစ်မှန်းလည်း နားမလည်ကြ။

(၄)

ကြယ်တာရာနှင့်တူသော ပုဂ္ဂိုလ်များသည် ကံ– ကံ၏အကျိုးကို မမိုတ်မသုန် ယုံကြည်၏။ ကုသိုလ်၏ ကောင်းကျိုး၊ အကုသိုလ်၏ ဆိုးကျိုးကို စွဲစွဲနစ်နစ် ယုံကြည်၏။ စေတနာကောင်းနှင့် စေတနာဆိုးတို့၏ စွမ်းအင်သတ္တိကို ကြည်ကြည်လင်လင် သိမြင် နားလည်ထား၏။ ကိုယ့်စေတနာကို ယုံကြည်၏။ ကိုယ့်စေတနာအားလျော်စွာ အလုပ်လုပ်ရသည်ကို လက်ခံ၏။ အသီးစားချင်သော် အပင်စိုက်ရမည်ဟု ခံယူ၏။ ဆုတောင်း၍ မရ။ အလုပ်လုပ်မှ ရသည်ဟု ခံယူ၏။ အလုပ်သမားဝါဒကို ကိုင်စွဲ၏။ မိမိ၏ စေတနာ၊ ဉာဏ်၊ ဝီရိယတို့ကို အားကိုး၏။ ဗုဒ္ဓ၏ မိမိကိုယ်ကို အားကိုးပါဟူသော အဆုံးအမတော်ကို ဦးထိပ်ပန်ဆင်၏။

သစ်ရွက်ကြွေလို ပုဂ္ဂိုလ်များကား ကံ– ကံ၏အကျိုးကို နှစ်နှစ်ကာကာ မယုံကြည်။ မိမိ၏ စေတနာ၊ ဉာဏ်၊ ဝီရိယတို့အပေါ်၌လည်း အားကိုးမှု ဖျော့တော့၏။ လောကီအကျိုး တိုးပွားစေသည်ဟု ဆိုလျှင် ဂိုဏ်းဆရာတို့ထံတွင်လည်း လက်ဖြန့်ခံ၏။ ဘိုးတော် ဘွားတော်များထံတွင်လည်း လက်ဖြန့်ခံ၏။ နတ်ကတော် ထံတွင်လည်း လက်ဖြန့်ခံ၏။ ထိုထိုသော ပုဂ္ဂိုလ်များ၏ ပေးစာကမ်းစာကို ရရှိမှသာ အသက်ရှင် နေထိုင်၍ ရမည်၊ မိမိလိုရာဆန္ဒ ပြည့်ဝမည်ဟု ထင်မှတ်ကြ၏။ ဖန်ဆင်းရှင်၊ တန်ခိုးရှင်များဟု ထင်မှား ယူဆလျက်ရှိသော ထိုထိုပုဂ္ဂိုလ်များထံ မိမိကိုယ်ကို အပ်နှံရင်း လက်ဝေခံ သူတောင်းစားနှယ် ကျင့်သုံးတတ်ကြ၏။ လူ့အားမာန်၊ လူ့သတ္တိ၊ လူ့အစွမ်းအစများ ပါးလျားဆုတ်ယုတ်နေသူများဖြစ်၏။ မနုဿတဘာဝေါ ဒုလ္လဘောဟု ဘုရားရှင် ဂုဏ်တော်တင်တော်မူခဲ့သော လူသားအဖြစ်၊ လူသားဘဝကို သိက္ခာချနေသူများလည်း ဖြစ်၏။

(၅)

ကြယ်တာရာလိုပုဂ္ဂိုလ်များသည် ဝိဘဇ္ဇဝါဒီများလည်း ဖြစ်၏။ အရာရာကို ကိုယ်တိုင်ကိုယ်ကျ လေ့လာစိစစ် စိတ်ဖြာဝေဖန်ပြီးမှ လက်ခံသင့်သည်တို့ကို လက်ခံ၏။ ငြင်းပယ်သင့်သည်တို့ကို ငြင်းပယ်၏။ အယူအဆများ၊ ဓလေ့ထုံးစံများ၊ အစွဲအလမ်းများ၊ ဘာသာရေး ဆောင်ရွက်ချက်များ၊ ကိုးကွယ်မှုဆိုင်ရာ အပြုအမူများ စသည်တို့ကို ထေရဝါဒမှတ်ကျောက်တွင် တင်လျက် တိုက်ဆိုင်စစ်ဆေး၏။ အဘယ်အရာကိုမျှ လူပြောသူပြောဖြင့် မယုံ။ အဘယ်ပုဂ္ဂိုလ်ကိုမျှ လူပြောသူပြောနှင့် မကိုးကွယ်။ ထေရဝါဒပေတံနှင့် တိုင်းတာ စိစစ်လျက် အရာအားလုံးကို ဆင်ခြင်စဉ်းစားခြင်း၊ စေ့ငု စောကြောခြင်းမျိုးပြု၏။

သစ်ရွက်ကြွေတို့ကား ရတနာသုံးပါးမှ အပဖြစ်သော လွဲမှားသော ကိုးကွယ်ရာများထံ၌ ပူဇော်ခြင်း၊ ရှိခိုးခြင်း၊ ထုတိသြဘာပြုခြင်း၊ ဆုတောင်းပတ္ထနာပြုခြင်းတို့ကို ဆောင်ရွက်၏။ လူပြောသူပြော ဟူသမျှ မစစ်ဆေး၊ မစူးစမ်း မျက်ကန်း ယုံကြည်တတ်၏။ အနှစ်သာရဖြစ် အမာခံကိုင်စွဲရမည့် ထေရဝါဒမှတ်ကျောက်၏ တန်ဖိုးကို နားမလည်။ နားလည်အောင်လည်း မကြိုးစား။

(၆)

ကြယ်တာရာလို ပုဂ္ဂိုလ်များသည် မိမိကိုးကွယ်ရာ ဘာသာတရား၏ အခြေခံ သဘောတရားများကို လေ့လာ၏။ နားလည်အောင် အားထုတ်၏။ ထေရဝါဒ ကျမ်းဂန်များကို ဖတ်ရှု၏။ သာသနာ၀င် ထင်ရှားသော ဆရာတော်ကြီးများ ပြုစုတော်မူသော ကျမ်းမြတ်များကိုလည်း မြတ်မြတ်နိုးနိုး ဖတ်ရှု၏။ စာပေပရိယတ္တ ၌ နှံ့စပ်ကျွမ်းကျင်တော်မူသော ဆရာတော်ကြီးများထံ ဆည်းကပ်၍ အဆုံးအမကို ခံယူ၏။နားမလည် သဘောမပေါက်သည်တို့ကို မေးမြန်းနာခံ၏။ မိမိကိုးကွယ်ရာ ဘာသာတရားကို ရှင်းရှင်းလင်းလင်း သိမြင်သဘောပေါက်လာအောင် အားထုတ်၏။ ခေတ်မီ အသုံးအဆောင်ပစ္စည်းများထက် ထေရဝါဒ ကျမ်းစာအုပ်များကိုသာ တန်ဖိုးထား ၀ယ်ယူ၏။

သစ်ရွက်ကြွေလို ပုဂ္ဂိုလ်များကား မိမိ ကိုးကွယ်ရာ ဘာသာတရားကို မြတ်မြတ်နိုးနိုး လေ့လာရကောင်းမှန်း မသိ။ စာပေပရိယတ္တိ ၌ နှံ့စပ်ကျွမ်းကျင်သော ဆရာတော်ကြီးများထံ ဆည်းကပ်၍ အဆုံးအမကို ခံယူရကောင်းမှန်း မသိ။ ဗုဒ္ဓ ၏ ဓမ္မစကြာတရားတော်၊ အနတ္တလက္ခဏာသုတ်၊ ပဋ္ဌာန်းတရားတော်၊ ပဋိစ္စသမုပ္ပာဒ်တရားတော်တို့ကို ထားဘိဦး။ မင်္ဂလာတရားတော်ကိုမျှ လေ့လာရကောင်းမှန်း မသိ။ သို့တစေ လာဘ်ရွှင် စီးပွားတိုးစေသည်ဟု ဆိုသော ဂါထာများကို ကျက်မှတ်ရန်မူ ၀န်မလေး။ ခေတ်မီလူ့အသုံးအဆောင်များကို ငွေကြေးအမြောက်အမြား အကုန်ခံ ၀ယ်ယူရန် လက်မတွန့်သော်လည်း ဗုဒ္ဓစာပေ ကျမ်းစာအုပ်များ ၀ယ်ယူရန်မူ နှမြောတွန့်တိုကြကုန်၏။

(၇)

ကြယ်တာရာလို ဗုဒ္ဓဘာသာ၀င်များသည် ဗုဒ္ဓဘာသာ၀င်ဟူသောအမည်နှင့် လိုက်လျောညီထွေမှု ရှိစေမည့် ကျင့်၀တ်သီလနှင့် လည်းကောင်း၊ အသက်မွေး၀မ်းကျောင်းနှင့်လည်းကောင်း ပြည့်စုံကြသူများဖြစ်၏။ လူသား၏ အခြေခံကျင့်၀တ်ဖြစ်သော ငါးပါးသီလကို မည်သည့်အခြေအနေမှာပင် ဖြစ်စေ၊ မြဲမြဲအောင် ထိန်းသိမ်း၏။ လက်နက်၊ လူ၊ သားငါး၊ ဘိန်းအရက်၊ အဆိပ်ရောင်း၀ယ်ရေးဟူသော သူတစ်ပါးတို့အား ထိခိုက်နစ်နာ ပျက်စီးစေတတ်သော မိစ္ဆာကုန်သွယ်မှုမျိုးကို လုံး၀ ရှောင်ရှားသည်။ ဗုဒ္ဓဘာသာ၀င်စစ်စစ်တို့၏ အဘိဓာန်၌ အူမတောင့်မှ သီလစောင့်နိုင်မှာပေါ့ ဟူသော ဆင်ခြေ လုံး၀ မရှိ။ ယင်းနှင့် ဆန့်ကျင်ဘက် သီလစောင့်မှ အူမတောင့်သည်ဟု ခံယူထားကြ၏။ ဖိမ်ခံပစ္စည်းမျိုးစုံဖြင့် ကြွယ်၀ချမ်းသာမှု မရှိလျှင်သာ နေရမည်။ သမ္မာအာဇီ၀မှုဖြင့် အသက်ရှင်နေထိုင်ရန် မျှတသော ၀င်ငွေကို ရနိုင်သည်ဟု ယုံကြည်ကြ၏။ ယင်းယုံကြည်ချက်အတိုင်း သမ္မာအာဇီ၀လမ်းကြောင်းပေါ်တွင် လို့လဥဿဟ ပြင်းပြင်းဖြင့် လျှောက်လှမ်း၏။ အတ္တ၊ ပရမျှတသော အသက်မွေးမှုဖြင့် တည်ငြိမ်ချမ်းမြေ့စွာ ဘ၀ကို ကျင်လည်၏။ ၀ိသမလောဘကို ကြီးထွားရှင်သန်ခွင့် မပေး။ မိစ္ဆာအာဇီ၀ဖြင့် တိုက်တာ၊ ရေ၊ ငွေ ရတနာတို့ကို မရှာဖွေ။ တစ်ဘ၀တာအတွက်သာနေသော လူသားများ မဟုတ်။

(၈)

ကြယ်တာရာလို ပုဂ္ဂိုလ်များကား လောကီကောတုဟလ မင်္ဂလာများကို အရေးမထား၊ ကိုယ်ကျင့်သီလကိုသာ အလေးထား၏။ ကိလေသာအငွေ့အတန်းများကို အရေးမထား၊ ကိုယ်ကျင့်သီလကိုသာ အလေးထား၏။ ကိလေသာအငွေ့အတန်းများ လွှမ်းခြုံဆဲ။ ဘာသာခြား (မိစ္ဆာဒိဋ္ဌိ) ပုဏ္ဏားများ စိတ်ကူးထင်ရာ ရေးသားခဲ့သော လောကီကျမ်းစာများကို တန်ဖိုးမထား ဂရုမပြု။ ဗုဒ္ဓမြတ်စွာ၏ ပိဋကတ်တော်များနှင့် ယှဉ်လျှင် နံ့သာဆီနှင့် ရေပမာ အကွာကြီး ကွာလှသော ဗြာဟ္မဏပုဏ္ဏားတို့၏ လောကီပညာရပ်ဆိုင်ရာ ကျမ်းများကို ပမာမပြု၊ ထိုထိုသော ဘာသာခြား ဗြာဟ္မာဏပုဏ္ဏားများ၏ ကျမ်းစာများကို ဖတ်ရှုခြင်း၊ ယင်းကျမ်းစာများ၏ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်ခြင်းအားဖြင့် ရခဲလှစွာသော လူ့ဘ၀၏ အချိန်ကာလများကို အဆုံးအရှုံးမခံ။ ဗုဒ္ဓမြတ်စွာ၏ အဆုံးအမတော်များကို ရိုရိုသေသေ ကြည်ညိုဖတ်ရှုခြင်းဖြင့် ရရှိအပ်သော ဘ၀ကာလကို မွန်မွန်မြတ်မြတ် အကျိုးရှိရှိ အသုံးချ၏။ ကံသုံးပါး စင်ကြယ်ရေး၊ စိတ်ဓာတ်ဖြူစင်သန့်ရှင်းရေး၊ ကိုယ်ကျင့်သိက္ခာ မြင့်မားရေးဟူသော ဦးတည်ချက်များဖြင့် ဗုဒ္ဓစာပေများကို လေ့လာ၏။

သစ်ရွက်ကြွေလိုပုဂ္ဂိုလ်များကား ဗြာဟ္မဏပုဏ္ဏားတို့၏ လောကီကျမ်းများကို တန်ဖိုးထား၏။ မြတ်နိုး၏။ ထိုကျမ်းများကို သစ္စာတရားသဖွယ် မိုက်မဲစွာ တွယ်တာ၏။ ကြီးစွာသော လောဘအဟုန်ဖြင့် ထိုထိုသော ပုဏ္ဏားတို့၏ လမ်းညွှန်များအတိုင်း ပြုမူဆောင်ရွက်၏။ အတိတ်စွဲ၊ နိမိတ်စွဲတို့၌ မွေ့လျော်၏။ ပြဿဒါး၊ ရက်ရာဇာ၊ စန်း၊ လဂ်၊ ဂြိုဟ်စီး ဂြိုဟ်နင်း၊ တြင်း၊ န၀င်း၊ ဝါရမိတ္တုတို့၌ အလေးထား၏။ ဓာတ်ဆင် ဓာတ်ရိုက်တို့ ပျော်ပါး၏။ ပွဲပြင် ပွဲထိုး၏။ ဘုရားရှင်အသီးသီး၏ အဆုံးအမတော်ဖြစ်သော မကောင်းမှုဟူသမျှ မပြုရာ၊ ကောင်းမှုနှင့် ပြည့်စုံစေရာ၏။ စိတ်ကို စင်ကြယ်ပါစေဟူသော အချက်သုံးချက်ကို ထိုထိုသော အရာများလောက်ပင် အလေးမထားချင်၊ ဂရုမပြုချင်။

(၉)

ထေရဝါဒ သာသနာတော်မြတ် သန့်ရှင်းတည်တံ့ ပြန့်ပွားစေရန်မှာ သာသနာကို ပစ္စည်းလေးပါးဖြင့် ထောက်ပံ့ပြုသော ဥပါသကာ၊ ဥပါသိကာမများအပေါ်တွင်လည်း (တစ်ကြောင်း တစ်တန်အားဖြင့်) တည်မှီပါ၏။

ကြယ်တာရာလို ထေရဝါဒ ဗုဒ္ဓဘာသာဝင်စစ်စစ်များသာလျှင် သာသနာပြု ပုဂ္ဂိုလ်ဖြစ်နိုင်ပါသည်။ သစ်ရွက်ကြွေလို အညံ့စား ဗုဒ္ဓဘာသာဝင်များအနေဖြင့် သာသနာပြုပုဂ္ဂိုလ် မဖြစ်နိုင်ပါ။ အဘယ့်ကြောင့်ဟူမူ သူတို့၏ အတွင်းသန္တာန်၌ပင် သာသနာအစစ်အမှန် မတည်သေးသောကြောင့် ဖြစ်ပါ၏။

## ဘုရားကိုးဆူ ပူဇော်ပွဲမှသည်

"အစ်ကို၊ (ဓမ္မရုပ်စုံ) မဂ္ဂဇင်းမှာပါတဲ့ ဘုရားကိုးဆူ ပူဇော်ပွဲဆောင်းပါးကို ဖတ်ပြီးပြီလား"

"ဖတ်ပြီးပါပြီ။ ဘာဖြစ်လို့ မေးတာလဲ"

"အဲဒီဆောင်းပါးထဲမှာ ပါတဲ့ အချို့ အချက်အလက်တွေနဲ့ ပတ်သက်ပြီး အစ်ကိုနဲ့ ဆွေးနွေးချင်လို့ပါ"

"ပြောလေ ဘယ်အချက်အလက်တွေကို ဆွေးနွေးချင်လို့လဲ"

"ပထမဦးဆုံး အချက်ကတော့ ဘုရားကိုးဆူ ပူဇော်ပွဲဟာ ဓမ္မပဒ အဋ္ဌကထာလာ အာယုဝဍ္ဎနကုမာရဝတ္ထုအရ မြတ်စွာဘုရားရှင် လက်ထက်က စတင် ပေါ်ပေါက်ခဲ့တယ်လို့ ယူဆကြောင်း ရေးသားထားတယ်။ ကုမာရဝတ္ထုမှ ဘုရားရှင်နဲ့ ရဟန္တာများကို ပူဇော်ပုံနဲ့ အခု ဘုရားကိုးဆူ ပူဇော်ပွဲကျင်းပပုံကို တခြားစီပဲဟာ။ ကုမာရဝတ္ထုမှာက ဘုရားရှင်နဲ့ ရဟန္တာတည်းဟူသော ရတနာနှစ်ပါးကိုသာ သန့်သန့်ရှင်းရှင်း ပူဇော်ခဲ့တာပဲ။ အခု ဘုရားကိုးဆူ ပူဇော်ပွဲက နတ်တွေရော၊ ဂြိုဟ်တွေရော ရှုပ်ယှက်ခတ် ပါဝင်နေတာပဲ။ ဘုရားရှင်လက်ထက်ကတည်းက အစဉ်အလာကို ဆက်ခံတယ်ဆိုရင် အဲဒီပုံစံအတိုင်း တိတိကျကျ လိုက်နာဆောင်ရွက်ဖို့လည်း လိုတာပေါ့။ မဟုတ်ဘူးလား အစ်ကို"

"ဟုတ်ပါတယ်။ ဘုရားရှင် လက်ထက်တော်ကတည်းက ပေါ်ပေါက်ခဲ့တယ်ဆိုတဲ့ ယူဆချက်အပေါ် ဘယ်လို ထင်မြင်သုံးသပ်ချက်ကိုမှ မပေးလိုပါဘူး။ ဒါပေမယ့် ပူဇော်ပုံ အသွင်သဏ္ဍာန်ချင်း အလွန်အမင်း ခြားနားတယ်ဆိုတဲ့ အချက်ကိုတော့ သတိကြီးကြီးထားပြီး ဂရုပြုရမှာ ဖြစ်ပါတယ်။ ကုမာရဝတ္ထုမှာ ပူဇော်ပုံက ကိုးကွယ်ရာ အလွန် သန့်ရှင်းခဲ့တယ်။ အခု ဘုရားကိုးဆူ ပူဇော်ပုံက သန့်ရှင်းသော ကိုးကွယ်ရာနှင့် အတူ မသန့်ရှင်းသော ကိုးကွယ်ရာတွေ ရောယှက်နေတယ်။ ထေရဝါဒ ဗုဒ္ဓဘာသာဝင်တွေအဖို့ ဒီအချက်ကို သတိပြုဆင်ခြင်ရပေလိမ့်မယ်"

"ပြီးတော့ ဘုရားရှင်နဲ့ ရဟန္တာရှစ်ပါး ပူဇော်တာကို ဘုရားကိုးဆူ ပူဇော်တာလို့ သုံးနှုန်းတာကိုလည်း သိပ်ပြီး ဘဝင်မကျချင်ဘူး အစ်ကို။ ရဟန္တာရှစ်ပါးကို ဘုရားရှစ်ဆူအဖြစ် သုံးနှုန်းကောင်းလို့လား အစ်ကို"

"ငါ့ညီ ဘဝင်မကျမယ်ဆိုရင်လည်း မကျစရာဘဲလေ။ ရဟန္တာဟာ ဘုရား မဟုတ်ဘူးလေ။ ဘုရားရှင်က သစ္စာလေးပါးကို ကိုယ်တော်တိုင် ဆရာမကူ သယမ္ဘူဉာဏ်တော်ဖြင့် ရှာဖွေတွေ့ရှိသူ၊ သာသနာတော်မြတ်ကြီးကို စတင်တည်ထောင်သူ။ ရဟန္တာအရှင်မြတ်က ဘုရားရှင်ရဲ့ အဆုံးအမတော် အားလျော်စွာ လိုက်နာကျင့်ကြံပြီးမှ သစ္စာလေးပါးကို သိမြင်သူတွေ ဖြစ်ပါတယ်။ ဘုရားရှင်သည် ရဟန္တာအရှင်မြတ်များ ၏ သာသနာ့ဖခင်ကြီးဖြစ်သလို တစ်ဆူတည်းသော ဆရာကြီး ဖြစ်တော်မူပါတယ်"

"အခု ဘုရားကိုးဆူ ပူဇော်ပွဲမှာ ကန်တော့ခံ ရဟန္တာကြီးများ ဖြစ်တော်မူကြတဲ့ ရှင်သာရိပုတ္တရာ၊ ရှင်မောဂ္ဂလန်၊ ရှင်အာနန္ဒာ၊ ရှင်ကောဏ္ဍည၊ ရှင်ဂဝံပတိအစရှိတဲ့ ရဟန္တာမထေရ်မြတ်ကြီးများ သက်တော်ထင်ရှား ရှိမယ်ဆိုရင် အခုလို သုံးနှုန်းပုံမျိုးကို လုံးဝ ခွင့်ပြုမှာ မဟုတ်ပါဘူး။ ဒီရဟန္တာအရှင်မြတ်ကြီးများဟာ

ဘုရားရှင်အပေါ် အလွန်အမင်း ကြည်ညိုတော်မူကြတဲ့ အရှင်မြတ်များ ဖြစ်တဲ့အတွက် ဘုရားရှင်နဲ့ တစ်ထပ်တည်းထားတဲ့ အသုံးအနှုန်းမျိုးကို နှစ်မြို့ ခွင့်ပြုတော်မူမှာ မဟုတ်တာ သေချာပါတယ်"

"ဘုရားကိုးဆူ ပူဇော်ပွဲမှာပါတဲ့ ကန်တော့ခံ နတ်ကြီးငါးပါးတွေကတော့ ထေရဝါဒပိဋကတ်တွေမှာ ပါတဲ့ နတ်တွေမှ ဟုတ်ရဲ့လား အစ်ကို"

"သူရဿတီ၊ စန္ဒီ၊ ပရမေသွာ၊ မဟာပိန္နဲ၊ ဗိဿနိုး ဘယ်နတ်မှ ထေရဝါဒပိဋကတ်မှာ မပါပါဘူး။ ဗြာဟ္မဏဝါဒ၊ ဟိန္ဒီဝါဒတွေရဲ့ ဝေဒကျမ်းကြီးတွေမှာပါတဲ့ နတ်တွေ။ မိမိတို့ ကိုးကွယ်ရာ ဘုရား၊ ရဟန္တာတွေကို ပူဇော်ပွဲမှာ ဘာသာခြားတွေရဲ့ နတ်တွေကို ထည့်သွင်းပူဇော်တာကိုက အလွန်အမင်း ဝမ်းနည်းစရာ ကောင်းပါတယ်။ ရှက်စရာလည်း ကောင်းပါတယ်"

"ဒါဖြင့် အဲဒီဆောင်းပါးမှာ သူရဿတီသည် ပိဋကတ်သုံးပုံစောင့် မယ်တော်ကြီးဖြစ်၏ လို့ ရေးထားတာ ကလည်း မမှန်ဘူးပေါ့နော်"

"မမှန်ပါဘူးကွာ။ ပိဋကတ်သုံးပုံးကို သံဃာတော် အရှင်မြတ်ကြီးတွေသာ စောင့်ရှောက်ကြတာပါ။ ဒီအချက်ကိုလည်း စာပေပရိယတ္တိမှာ နှံ့စပ်ကျွမ်းကျင်တော်မူတဲ့ ဆရာတော်ကြီးတွေ၊ လူပညာရှိကြီးတွေ၊ ဘာသာရေးဆောင်းပါးရှင်တွေ အကြိမ်ကြိမ် ရေးသားဟောပြောခဲ့ကြပြီးသားပါ"

"ဘာသာခြား ဗြာဟ္မဏဝါဒီတွေရဲ့ နတ်မင်းကြီးငါးပါးကို ဘုရား ရဟန္တာတွေနဲ့ အတူ ပူဇော်တာဟာ ဗုဒ္ဓဘာသာဝင် တစ်ဦးအနေနဲ့ မပြုသင့် မပြုထိုက်တဲ့ ကိစ္စပေါ့နော်"

"အစ်ကိုတို့ ထေရဝါဒ ဗုဒ္ဓဘာသာအရ သာသနာတော်ရဲ့ ဆန့်ကျင်ဘက်လို့ သတ်မှတ်ထားတဲ့ ဗြာဟ္မဏဝါဒီတွေရဲ့ နတ်မင်းကြီးတွေကို ကိုးကွယ်ပူဇော်တဲ့သူဟာ ဘယ်လိုလုပ်ပြီး သမ္မာဒိဋ္ဌိ ဖြစ်တော့မှာလဲ"

"ဒါဖြင့် ဘုရားကိုးဆူ ပူဇော်ပွဲ အပေါ် အစ်ကို ဘယ်လို သဘောထားသလဲ"

"အမှန်တော့ ကိစ္စတစ်ရပ်ကို အစဉ်အလာ ဆောင်ရွက်ခဲ့ကြတာဆိုပြီး မျက်ကန်းယုံကြည်ချက်နဲ့ အစူးအစမ်းမဲ့၊ အဆင်ခြင်မဲ့ လက်ခံဆောင်ရွက်နေကြတာဟာ လူ့ဘောင်အတွက် အလွန်ကြီးမားတဲ့ အနုတ်လက္ခဏာ တစ်ရပ်ပဲ။ အစဉ်အလာတွေထဲမှာ ဆက်လက်ထိန်းသိမ်းရမယ့် အစဉ်အလာကောင်းတွေ ရှိသလို ဆက်လက်မထိန်းသိမ်းအပ်တော့တဲ့ အစဉ်အလာဆိုးတွေလည်း ရှိတယ်။ အစဉ်အလာဆောင်ရွက်ချက်တစ်ခုမှာ အကောင်းနဲ့အဆိုး ဒွန်တွဲနေတာလည်း ရှိတယ်။ ဘုရားကိုးဆူ ပူဇော်ပွဲဟာ အကောင်းနဲ့အဆိုး ဒွန်တွဲနေတဲ့ အစဉ်အလာဖြစ်တယ်"

"ထေရဝါဒ ပိဋကတ်တော်တွေကို မြန်မာပြန်ဆိုခြင်း မရှိသေးတဲ့အချိန် ဗြာဟ္မဏဝါဒီ မဟာယာနဝါဒနဲ့ ထေရဝါဒ ရောထွေးယှက်တင်ဖြစ်နေတဲ့အချိန်က ဘုရားကိုးဆူ ပူဇော်ပွဲ အစဉ်အလာစတင်ခဲ့တာ ဖြစ်တယ်။ ဒီအစဉ်အလာမှာ ဘုရားနဲ့ ရဟန္တာများကို ပူဇော်တာဟာ အစဉ်အလာကောင်းဖြစ်ပါတယ်။ ထေရဝါဒနဲ့ ညီညွတ်ပါတယ်။ ဗြာဟ္မဏဝါဒလာ နတ်မင်းကြီး ငါးပါးနဲ့ ဂြိုဟ်ကြီး (၉) လုံးကို ပူဇော်တာဟာ ထေရဝါဒနဲ့ ဖီလာဆန့်ကျင်တဲ့ အစဉ်အလာဆိုး ဖြစ်ပါတယ်"

“ဒီတော့ ဘုရားကိုးဆူ ပူဇော်ပွဲ အစီအစဉ်မှာ ထေရဝါဒနဲ့ ဆန့်ကျင့်ဘက်ဖြစ်တဲ့ နတ်မင်းကြီး ငါးပါးနဲ့ ဂြိုဟ်ကြီးကိုးလုံး ပူဇော်တာကို ဖယ်ထုတ်ပစ်ရမယ်။ ဆိုချင်တာက အကောင်းနဲ့အဆိုး ရောယှက်နေတဲ့ အစဉ်အလာတစ်ခုမှာ အဆိုးကို ဖယ်ထုတ်သုတ်သင်ပစ်ရမယ်။ ဖယ်ထုတ်လိုက်တဲ့ ဗြာဟ္မဏနတ်မင်းကြီးငါးပါးနဲ့ ဂြိုဟ်ကြီးကိုးလုံးနေရာမှာ ဓမ္မရတနာကို အစားထိုး ပူဇော်သင့်တယ်။ ဘုရားကိုးဆူ ပူဇော်ပွဲဆိုတဲ့ ဝိဝါဒပွားစရာ အမည်အစား ရတနာသုံးပါး ပူဇော်ပွဲ ဆိုပြီးတော့ ပြောင်းလဲသင့်တယ်”

## မျှော်ရသည်မှာ

**ကံမြေပေါ်မှာ၊ ဖြစ်ပေါ်လာ၍**

**သုံးဖြာကမ္ဘ၊ မှုကိစ္စကို**

**ပြုရမည်မှာ၊ သင့်တွက်သာတည့်။**

**သို့ရာတွင်သင်၊ အာနိသင်ကို**

**လိုချင်မှန်းဆ၊ မတောင့်တနှင့်**

**မျှော်ရသည်မှာ၊ နုပ်လုပါသည်**

**နံ့ချာစင်စစ် ရက်ဖွယ်တည်း။**

***ဦးသော်ဇင်***

"ဂါထာတွေ အမျိုးမျိုး ရွတ်နေကြတာနဲ့ ပတ်သက်လို့ အစ်ကို့ရဲ့ အမြင်အယူအဆကို သိချင်တယ်"

ညီအစ်ကိုသဖွယ် ရင်းနှီးနေသည့် ဘွဲ့ရပညာတတ် လူငယ်တစ်ဦးက မေးမြန်းလာခြင်း ဖြစ်သည်။ ဘာသာရေးစာပေများကို မွေ့လျော်လိုက်စားလာသည်မှာ မကြာသေးသောသူအဖို့ လိုက်လျောညီထွေ ရှိနေပေသည်။

"ဒီကိစ္စက အတော်အတန် သိမ်မွေ့တယ်။ အစစ်နဲ့အတု ထွေးရောယှက်တင် ဖြစ်နေတဲ့ ဂါထာတွေကို ဘယ်ဟာက အတု၊ ဘယ်ဟာက အစစ်ဆိုတာ ကွဲကွဲပြားပြား သိဖို့ လိုပေလိမ့်မယ်။ ဂါထာဆိုတာမှာ ဘုရားဟော (ဗုဒ္ဓဝစန) တွေ ရှိသလို ဘုရားဟောနဲ့ ကိုက်ညီအောင် ရေးသားထားတဲ့ ဂါထာတွေလည်း ရှိတယ်။ အချို့ကျတော့ လောကီဂိုဏ်း ဆရာတွေက သူတို့ဘာသာ တီထွင် ရေးသားထားတဲ့ ဂါထာတွေလည်း ရှိတယ်။ ထေရဝါဒ ဗုဒ္ဓကျမ်းစာတွေမှာပါရှိတဲ့ ဂါထာတွေရှိသလို ဗြာဟ္မဏဝါဒ မဟာယာနဝါဒတွေရဲ့ ဂါထာတွေလည်း ရှိတယ်။ ဘယ်ဂါထာ ဘုရားဟော အစစ်အမှန် ဟုတ် မဟုတ်၊ ဘုရား အလိုတော်ကျ ဟုတ် မဟုတ်ဆိုတာ သိဖို့ လိုလိမ့်မယ်။ သိအောင်လည်း ထေရဝါဒ ဗုဒ္ဓကျမ်းစာတွေကို ဖတ်ရှုလေ့လာဖို့ လိုလိမ့်မယ်။ တချို့ ဂါထာတွေက အဓိပ္ပာယ် ဖွင့်ဆိုလို့ မရတာတွေ၊ အဓိပ္ပာယ်မရှိတာတွေ ဖြစ်နေတယ်။ အဲဒီဂါထာတွေကိုလည်း စီးပွားတက်တယ် ဆိုပြီးတော့ ဘုရားဟော အစစ်အမှန် ဟုတ် မဟုတ် မလေ့လာဘဲ ရွတ်ဖတ်နေကြသူတွေ တွေ့နေရတယ်"

"ဘုရားရှင်ရဲ့ မူလ ပါဠိတော် မူရင်း အစစ်အမှန် ဂါထာဆိုရင်တော့ ရွတ်ဖတ်သင့်တယ်ပေါ့၊ ဟုတ်လား အစ်ကို"

"ဘာသာရေးအလုပ်တွေက သူ့အဆင့်နဲ့သူ အမျိုးမျိုး ရှိတယ်လေ။ ဝိပဿနာ ရှုတာ၊ တရားအားထုတ်တာကတော့ ဘာသာရေးလုပ်ငန်းမှာ နောက်ဆုံး ပန်းတိုင်ပေါ့။ လုပ်နိုင်ရင် အကောင်းဆုံးပေါ့။ ဒါပေမယ့် တကယ် နည်းစစ်၊ နည်းမှန်ဖြစ်ဖို့ ဆရာကောင်းထံမှာ ဆည်းကပ်ဖို့တော့ အရေးကြီးတယ်။ ထားပါလေ။ ဒါက အကျယ်ပြောမှ မင်းပိုပြီး နားလည်မှာ။ ပြီးတော့ တရားစာပေတွေ ဖတ်ရှုတာ၊ ဘုရားရှင်ရဲ့ အဆုံးအမတွေကို သိအောင် အားထုတ်တာ။ စာလို ခံခံသားသား ပြောရင်တော့ ပရိယတ်ပေါ့လေ။ ဘာသာရေးလုပ်ငန်းမှာ

အခြေခံအကျဆုံးနဲ့ မဖြစ်မနေ လုပ်ရမယ့် လုပ်ငန်းလည်း ဖြစ်တယ်။ ဒီနှစ်မျိုးစလုံးက ခဏတဖြုတ် ထလုပ်လို့ မရဘူး။ လေးလေးစားစား စွဲစွဲမြဲမြဲ လုပ်ရမယ်။ အချိန်ယူရတဲ့ သဘောရှိတယ်။ ဂါထာ ရွတ်တယ်ဆိုတာကတော့ ရသမျှ အချိန်တိုအတွင်းမှာလည်း လုပ်နိုင်တော့ အများစု လုပ်နိုင်ခြေရှိတယ်။ အချိန်ရော၊ ငွေရော၊ အရင်းအနှီးမကြီးလှဘူး။ စာအုပ်တစ်အုပ်မှ ဝယ်ချင်စိတ်မရှိတဲ့လူတောင် သူများထံက ကူးယူတဲ့ဂါထာကို ရွတ်လို့ ဖြစ်သေးတာ။ အဲဒီလို အများရွတ်နိုင်တဲ့ အနေအထားမှာ ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေကို သန့်စင်တဲ့၊ ကြည်ညိုတဲ့ စိတ်အရင်းခံနဲ့ ရွတ်ဖတ်နှလုံးသွင်းတယ်ဆိုရင်တော့ ကုသိုလ်တွေ အနန္တဖြစ်ပါတယ်။ စိတ်ဆိုတာက အာရုံတစ်ခုမဟုတ် တစ်ခုမှာ ကျက်စားတတ်တော့ အခြားအာရုံတွေမှာ ကျက်စားနေမယ့်အစား ရတနာသုံးပါးရဲ့ ဂုဏ်ကျေးဇူးတွေမှာ မွေ့လျော်သက်ဝင်ဆင်ခြင်တာ အင်မတန် မြင့်မြတ်ငြိမ်းချမ်းတဲ့ စိတ်အခြေအနေတစ်ရပ်ကို တည်ဆောက်နေတာပဲ”

“အမှုအခင်းနိုင်အောင်၊ စီးပွားတက်အောင်၊ ရာထူးတိုးအောင်ဆိုတဲ့ ရည်ရွယ်ချက်တွေနဲ့ ရွတ်ဖတ်နေရင်ကော အစ်ကို။ ကုသိုလ် ဖြစ်ပါ့မလား”

“လောကီအကျိုးစီးပွား သက်သက်အတွက် ရည်မှန်းချက် ထားပြီး ရွတ်ဖတ်မှတော့ ဘယ်မှာလာပြီး ကြည်လင်သန့်စင်တဲ့ သဒ္ဓါတရား ဖြစ်တော့မှာလဲ။ ရတနာသုံးပါး ဂုဏ်ကျေးဇူးများကို ရွတ်ဖတ် နှလုံးသွင်းခြင်း ဆိုတဲ့ လုပ်ရပ်က မြင့်မြတ်ပေမယ့် အလိုလောဘ အရင်းခံတရားက ညှံ့ဖျင်းတော့ ကုသိုလ်ဖြစ်တယ်ဆိုရင်တောင် ညှံ့ဖျင်းတဲ့ ကုသိုလ်ပဲ ဖြစ်တော့မှာပေါ့။ နိဿရဏဆိုတဲ့ ဘဝလွတ်လမ်းကို မျှော်ကိုးပြီး ရတနာသုံးပါးကို ဆည်းကပ်ရတာ။ ချမ်းသာချင်တာ၊ အောင်မြင်ချင်တာက တဏှာတွေ၊ ဝေဒနာတွေ။ ဒီမျှော်လင့်ချက်တွေ အရင်းခံပြီး ဂါထာတွေ ရွတ်ဖတ်တာဟာ ကောင်းမှုစေတနာထဲမှာ တဏှာအစေး ထည့်လိုက်တာနဲ့ အတူတူပဲ။ ရတနာသုံးပါးရဲ့ ဂုဏ်တော်တွေကို စစ်စစ်မှန်မှန် ကြည်ညို နှလုံးသွင်းလိုတဲ့ စေတနာ အရင်းခံသလား၊ အလို ရမ္မက်တွေ အမျှော်အကြောက်တွေကို အရင်းခံသလား။ ကိုယ့်အဇ္ဈတ္တကို ကိုယ် ရိုးရိုးသားသား ပြန်ပြီး စစ်ဆေးကြဖို့တော့ လိုလိမ့်မယ်”

“အစ်ကိုကော ဂါထာရွတ်တဲ့ အလေ့ ရှိသလား”

“အစ်ကို ဘယ်ဂါထာကိုမှ မရွတ်ဘူး။ တစ်ခုတော့ ရှိတယ်။ အစ်ကို ဘုရားရှိခိုးတာက ကျေးဇူးရှင် ကျီးသဲလေးထပ် ဆရာတော် ဘုရားကြီး စီရင်ရေးသားတော်မူခဲ့တဲ့ အစိန္တေယျ ဘုရားရှိခိုးတော်ကြီးအတိုင်း ရွတ်ဆို ရှိခိုးတာ။ အဲဒီ ဘုရားရှိခိုးတော်ကြီးက ဘုရားရှင်ရဲ့ ဂုဏ်တော်တွေချည်း ဖွဲ့သီထားပြီး ဆုတောင်း လုံးဝ မပါဘူး။ လေးလေးမှန်မှန် ရွတ်ဆို ရှိခိုးရင် နာရီဝက်နီးပါးခန့် ကြာတယ်။ အဲဒီ ဘုရားရှိခိုးတော်ကြီးနဲ့ ဘုရားဝတ်ပြုပြီး နေချိန်မှာ အင်မတန် ငြိမ်းအေးပြီး စိတ်ကြည်လင် သန့်ရှင်းနေတယ်။ ဆုတောင်းမပါတော့ အမျှော်နဲ့ အကြောက် တရားတွေလည်း လုံးဝ ကင်းစင်နေတယ်။ ရတနာသုံးပါး ဂုဏ်ကျေးဇူးတော်တွေကို ထုတ်ဖော်ပူဇော်တဲ့ ဂါထာ တွေကို လေ့လာဖူးပါတယ်။ ဒါပေမယ့် ဘယ်ဂါထာမှ ဒီဘုရားရှိခိုးတော်ကြီးလောက် ဘုရားရှင်ရဲ့ ဂုဏ်ကျေးဇူး တော်တွေကို ဖော်ကျူးနိုင်တာ မရှိပါဘူး။ ပြီးတော့ အခြားဂါထာတွေက ဘုရားရှင်ရဲ့ ဂုဏ်တော်တွေကို အာရုံပြုလို့

စိတ်ကြည်လင်နေဆဲမှာ အလိုလောဘ ဆုတောင်းတွေ ပါသွားတော့ သဒ္ဓါကြည်လင်စိတ်မှာ အနည်မှုန်တွေ ထယ ထသွားတယ်။ ရာနှုန်းပြည့် သန့်စင်ကြည်လင်မှု မရှိတော့ဘူး။ ဒါကြောင့် ဆုတောင်းပါတဲ့ ဘယ်ဂါထာကိုမှ မရွတ်ဘဲ အစိန္တေယျ ဘုရားရှိခိုးတော်ကြီးနဲ့ပဲ ဘုရားရှိခိုးဝတ်ပြုနေတာ"

"ပရိတ်ရွတ်တာကော မလုပ်ဘူးလား အစ်ကို"

"ပရိတ်တရားတော်မြတ်ကိုတော့ နာကြားတာရော၊ ရွတ်ဖတ်တာရော လုပ်ပါတယ်။ နံနက် အိပ်ရာက ထလျှင် ထချင်း တောင်တန်းသာသနာပြု ဆရာတော်ကြီးရဲ့ ပရိတ်တိပ်ခွေဖွင့်ပြီး ပရိတ်တရား နာကြားတယ်။ ရွတ်ဖတ်တဲ့ အခါမှာတော့ သပြေကန် ဆရာတော်ဘုရားကြီး ပရိတ်ကြီးနိဿယသစ် စာအုပ်ကို လက်စွဲပြုပြီး အနက်အဓိပ္ပာယ်တွေကိုပါ သိအောင် အားထုတ်တယ်။ ရွတ်ဖတ်တဲ့အခါ ပါဠိတော်ချည်းတစ်ခေါက်ရွတ်ပြီးမှ ပါဠိနဲ့အနက် တွဲယှက်နေတဲ့ နိဿယကိုပါ တစ်ခေါက် ရွတ်ပါတယ်။ အနက်အဓိပ္ပာယ်တွေကိုပါ သိရတဲ့ အခါကျတော့ ပရိတ်တရားတော်မြတ်အပေါ်မှာ ပိုမို ကြည်ညိုမှုတွေ ဖြစ်လာတယ်။ တစ်နေ့ကို ပရိတ်တော်တစ်သုတ်ကျစီ ရွတ်ဖြစ်ပါတယ်"

"ပရိတ်ကြီး ဆယ့်တစ်သုတ်လုံးလား အစ်ကို"

"အကုန်လုံးမဟုတ်ဘူး။ မင်္ဂလသုတ်၊ ရတနသုတ်၊ မေတ္တာသုတ်၊ ဇောဇ္ဈင်သုတ်နဲ့ ပုဗ္ဗဏှသုတ်တွေကို အလှည့်ကျ ရွတ်ဖတ်သွားတာ။ မင်းကို အကြံပေးချင်တာကတော့ ဘုရားရှင်ရဲ့ အဆုံးအမတွေကို သိအောင်လုပ်၊ ဓမ္မစာပေတွေဖတ်၊ ဘုရားရှင်ရဲ့ အဆုံးအမနဲ့ မိမိရဲ့ အဇ္ဈတ္တကို တတ်နိုင်သမျှ တစ်သားတည်း ကျနေအောင် ပျိုးထောင်။ စိတ်ကို အတတ်နိုင်ဆုံး ရှင်းရှင်းထားထား။ ကိုယ်ကျင့်တရား မပျက်စေနဲ့။ အကျင့်စရဏကို ဂရုမထားဘဲ အမျှော်အကြောက် အရင်းခံနဲ့ ဂါထာရွတ်တာတွေ မလုပ်နဲ့။ အထူးသဖြင့် ဗြာဟ္မဏဝါဒ၊ မဟာယာနဝါဒတွေက ဆင်းသက်လာတဲ့ အဓိပ္ပာယ်မဲ့ ဂါထာတွေကို ဝေးဝေးကရှောင်။ ဘယ်သူက ဘယ်လောက်ပဲ စွမ်းတယ်ဆိုဆို မယုံလေနဲ့"

## ဂုဏ်တော်နှင့် ပုံတော်

ဒီဇင်ဘာလလယ်ခန့်အတွင်းက ဖြစ်ပါသည်။ ဘာသာရေးစာပေဖတ်ရှုမှု၌ မွေ့လျော်နေသည့် ရင်းနှီးသူ လူငယ်တစ်ဦး ကျွန်တော့်ထံ ရောက်လာပြီး ရုပ်ပွားဆင်းတုတော် ဓာတ်ပုံနှစ်ပုံကို ပြသပါသည်။

ဒက္ခိဏာသာခါဟန်ပုံတော်ဖြစ်ပြီး မျက်နှာတော် အသွင်သဏ္ဌာန်မှာ ရယ်နေဟန် ဖြစ်ပါသည်။ ပုံတော် တစ်ပုံတည်းကိုပင် ပို့စကတ်ဆိုဒ် အိတ်ဆောင်ဆိုဒ် နှစ်မျိုး ဖြစ်ပါသည်။ အိတ်ဆောင်အရွယ်တွင် တစ်ဖက်က ပုံတော်ကျောဘက်က အင်းကွက်တစ်ကွက် ပါရှိပါသည်။ အခြားမြို့နယ်မှ မိမိတို့ မြို့နယ်သို့ ရောက်ရှိ၍ အပူဇော်ခံ ကြွရောက်နေသော ရုပ်ပွားဆင်းတုတော်ဆူ ဖြစ်ပါသည်။ ဝယ်ယူပူဇော်သူများ အလွန်များပြားကြောင်းလည်း ထိုလူရွယ်၏ ပြောစကားအရ သိရပါသည်။ ရယ်နေဟန်ပုံတော်ကို အံ့သြစွာ အထပ်ထပ် ကြည့်ရှုပြီးသောအခါ ဓာတ်ပုံနှစ်ပုံကို လူရွယ်အား ပြန်ပေးလိုက်၏။ နှုတ်ကမူ ဘာတစ်ခွန်းမျှ မပြောမိပါ။ လူရွယ်က–

"ဒီပုံတော်နဲ့ ပတ်သက်ပြီး အစ်ကို့ အထင်အမြင် သိချင်လို့ပါ"

"အစ်ကို့ရဲ့ အထင်အမြင်ကို မပြောခင် ဒီပုံတော်ကို ကြည့်ရှုဖူးမြော်နေစဉ် ငါ့ညီရဲ့ ရင်ထဲမှာ ဘယ်လို ခံစားရသလဲ ဆိုတာကို အစ်ကို့ကို အရင်ပြောပြပါလား"

"ဒီလိုပါ အစ်ကို၊ ကျွန်တော်တို့ ကြည်ညိုဖူးမြော်နေကျ ပုံတော်တွေက ပကတိ ငြိမ်းချမ်းတည်ကြည်ပြီး ကြည်ညိုဖွယ် ခံစားရပါတယ်။ ဒီရယ်နေဟန်ပုံတော်ကျတော့ ဖူးမြော်နေကျ ပုံတော် မဟုတ်လို့လား မသိဘူး။ ရင်ထဲမှာ ခံစားရတာက တစ်မျိုးပဲ။ ဘယ်လိုပြောရမှန်း မသိဘူး။ ဒါနဲ့ ဘုရားရှင် သက်တော်ထင်ရှား ရှိစဉ်တုန်းက ရယ်နေခဲ့ဖူးလား"

"အစ်ကို ဖတ်ဖူးသမျှ ဗုဒ္ဓစာပေထဲမှာတော့ ဘုရားရှင် ရယ်တော်မူတယ်လို့ တစ်လုံးတစ်ပါဒမျှ မပါဘူး။ လှိုက်လှိုက်လှဲလှဲ ပြုံးတယ်ဆိုတာတောင် ဗုဒ္ဓဝင်မှာ မဖတ်ဖူးဘူး။ ဘုရားရဟန္တာဆိုတာ ခံစားမှု ဝေဒနာတွေ က လွတ်မြောက်ပြီးဖြစ်ပါတယ်။ စိတ်ခံစားမှုနှင့် ကိလေသာဟူသမျှ ကင်းစင်ပြီး ဖြစ်ပါတယ်။ ဗုဒ္ဓဘာသာဝင်တိုင်းဟာ ဒီအချက်ကိုတော့ နားလည်ကြဖို့ လိုလိမ့်မယ်။ ဒီအချက်ကိုမှ နားမလည်ဘဲ ပုံတော်ကို အထူးအဆန်းဖြစ်အောင် ရယ်နေဟန် ထွင်းထုခဲ့တဲ့သူရော၊ ဒီပုံတော်ကို ဖြန့်ဖြူးရောင်းချသူတွေရောဟာ ဗုဒ္ဓမြတ်စွာရဲ့ အရဟံ ဂုဏ်တော်ကြီးကို နှလုံးမသွင်းတတ်သူ၊ အာရုံ မပြုတတ်သူတွေသာ ဖြစ်တော့မပေါ့။ နောက်တစ်ချက်က အမျိုးဘာသာ သာသနာကို တကယ် ချစ်မြတ်နိုးရင် တကယ် ကြည်ညိုရင် ဒီပုံတော်မျိုးကို ထုလုပ်မှာလည်း မဟုတ်ဘူး။ ဓာတ်ပုံရိုက်ပြီး ဖြန့်ဖြူးရောင်းချမှာလည်း မဟုတ်ဘူး။ ဘာကြောင့် ဒီလို ပြောရတာလဲဆိုတော့ ဒီပုံတော်ကို မြင်တဲ့ ဘာသာခြားတွေက တို့ဘုရားရှင်အပေါ်မှာ ဘယ်လို အာရုံပြုမိမလဲ။ အဲဒါ ကြပ်ကြပ် စဉ်းစားဖို့ လိုတယ်။ ကိုယ်ဆန်းထွင်တဲ့ လုပ်ရပ်က ကိုယ့်ဘာသာ သာသနာကို ဂုဏ်တက်စေမလား၊ ဂုဏ်ယုတ်စေမလား သတိကြီးကြီးထားပြီး မြော်မြင်ဆင်ခြင်ကြဖို့ လိုမယ်။ အေး– ဝယ်ယူပူဇော်တဲ့ လူတွေကလည်း တို့မြတ်ဗုဒ္ဓရဲ့ အရဟံ ဂုဏ်တော်ကြီးနဲ့ ဒီရယ်နေတဲ့ပုံတော် ညီညွတ်မှု ရှိ၊ မရှိကို စိစစ်သုံးသပ်တတ်တဲ့ ဘာသာရေး အသိအမြင်တော့ ရှိသင့်တာပေါ့"

“ပုံတော်နောက်မှာ အင်းကွက်ပါတာကကော အစ်ကို”

“အင်း၊ မန္တန် စတဲ့ လောကီပညာတွေကို ဗုဒ္ဓက ဆန့်ကျင်ရှုတ်ချတော်မူခဲ့ပြီး ဖြစ်တယ်ဆိုတာ ထေရဝါဒ ပိဋကတ်ကျမ်းစာတွေမှာ ထင်ထင်ရှားရှား ရှိပြီးသားပဲ။ ဘုရားရှင်ရဲ့ ပုံတော်နောက်ကျောမှာ ဘုရားရှင် နှစ်ခြိုက်တော်မမူတဲ့ အင်းကွက် ထည့်သွင်းတာဟာ ဘုရားရှင်ကို ကြည်ညိုတဲ့ အပြုအမူလား၊ မရိုသေတဲ့ အပြုအမူလား အင်မတန် ထင်ရှားနေပါတယ်”

“ဒါဖြင့် ဒီပုံတော်တွေကို အစ်ကို့ အယူအဆအရ ဘဝင်မကျဘူးပေါ့နော်”

“ကိုယ်ကိုးကွယ်တဲ့ ဘုရားရှင်ရဲ့ ပုံတော်ကို အတင့်တယ်ဆုံး အသပ္ပာယ်ဆုံး ပုံတော်ပဲ ဖြစ်လိုတာပေါ့။ အစ်ကိုသာ မဟုတ်ပါဘူး။ ဘုရားရှင်ရဲ့ အရဟံဂုဏ်တော်ကို ကြည်ညိုသူတိုင်း ဒီလိုပဲ သဘောရကြမှာပါ။ ဒါနဲ့ အကြောင်းတိုက်ဆိုင်တုန်း ငါ့ညီကို အဆန်းထွင် ထုလုပ်တဲ့ ပုံတော်နဲ့ ပတ်သက်ပြီး ဖြစ်ရပ်တစ်ခုကို ပြောပြချင်တယ်”

“တစ်ခါတုန်းက ဆူးလေစေတီတော် ဂေါပကအဖွဲ့ထံ ဘာသာခြား လူမျိုးခြား တစ်ဦးက ပုံတော်တစ်ပုံကိုလာပြီး လှူဒါန်းတယ်။ ပုံတော်က ဥဒေါင်းငှက်ရပ် ကျောပေါ်မှာ ထိုင်နေတော်မူတဲ့ ညဏ်တော် ၁၂ လက်မခန့် ရှိတဲ့ ဗုဒ္ဓပုံတော်မြတ်တစ်ဆူ။ အထူးအဆန်းဖြစ်နေတဲ့ ဒီပုံတော်ကို အများပြည်သူ အကြည်ညိုခံတဲ့ ဆူးလေစေတီတော်မှာ ထားအပ်၊ မထားအပ် ဆုံးမသြဝါဒ ပေးပါမယ့် အကြောင်းကို ဂေါပက အဖွဲ့က ဆူးလေစေတီတော်မြတ် သြဝါဒါစရိယ ဆရာတော်ကြီးများအား ပင့်ဖိတ်လျှောက်ထားခဲ့ရတယ်”

“အဲဒီသြဝါဒါစရိယ ဆရာတော်ကြီးတွေထဲမှာ ဘယ်ဆရာတော်ကြီးတွေ ပါလဲ”

“သြဝါဒါစရိယ ဆရာတော်ကြီးတွေကတော့ ကမ္ဘာ့ဗုဒ္ဓသာသနာပြု အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်သေဋ္ဌိလ၊ အဂ္ဂမဟာပဏ္ဍိ မူလပဋ္ဌာန်းဆရာတော် အရှင်နာရဒ၊ စင်ကာပူ ဆရာတော် ဦးဝိသာရ၊ ဘုံပျံဆရာတော် အရှင်ပညာသာမိ၊ ရန်ကုန် ဗဟန်း အောင်မြေဘုံကျော် ဆရာတော်နဲ့ သုတေသန သရုပ်ပြ အဘိဓာန်ကျမ်းပြု အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်သြဘာသာဘိဝံသစတဲ့ အကျော်အမော် ဆရာတော်ကြီးတွေချည်းပဲ”

“စိတ်ဝင်စားစရာ ကောင်းတယ်နော်။ ဆရာတော်ကြီးတွေက ဘယ်လို ဆုံးဖြတ်ခဲ့သလဲ”

“ကမ္ဘာ့ဗုဒ္ဓသာသနာပြု ဆရာတော်၊ မူလပဋ္ဌာန်းဆရာတော်၊ စင်ကာပူ ဆရာတော်၊ ဘုံပျံ ဆရာတော်ကြီးတွေက ဒီပုံတော်မျိုး မတွေ့ဖူးကြောင်း၊ သင့်လျော်မည် မထင်ကြောင်း သြဝါဒ ပေးတော်မူကြပါတယ်။ ဗဟန်းအောင်မြေဘုံကျောင်း ဆရာတော်ကတော့ ဆင်စီးသော ဆင်ခံဘုရားပုံတော်များ လက်ခံ ကိုးကွယ်နေကြပြီ ဖြစ်တဲ့အတွက် အခြားသတ္တဝါများအတွက်လည်း စဉ်းစားရမှာ ဖြစ်ကြောင်း တင်ပြပါတယ်။ နာမည်ကျော် သုတေသန သရုပ်ပြကျမ်းပြု ဆရာတော် အရှင်သြဘာသာဘိဝံသ အလှည့်ရောက်တဲ့အခါမှာတော့ ဆရာတော်ကြီးက ထေရဝါဒ ပိဋကတ်တော်များမှာ မြတ်စွာဘုရား ဒေသစာရီ ကြွချီတော်မူတဲ့အခါ ခြေကျင်ခရီးနှင့် ကောင်းကင်ခရီးဖြင့်သာ ကြွချီပါကြောင်း၊ ဒါကြောင့် ဒီဥဒေါင်းငှက်ရပ်မှာ ဗုဒ္ဓဘုရားရှင် ထိုင်နေတော်မူတဲ့ပုံကို

လက်မခံသင့်ကြောင်း၊ အကယ်လို့ ဒီပုံတော်ကို လက်ခံတည်ရှိထားလိုက်ပါက နောက်အခါ ဟင်္သာစီးတဲ့ပုံတွေ၊ မြင်းစီးပုံ၊ ကျွဲ၊ နွား၊ ဂဠုန်၊ နဂါးစီးတဲ့ ပုံတွေ ထွင်ပြီး စီးပွားရေးသမားများက ပြုလုပ်လာကြမည်ကို စိုးရိမ်မကင်း ဖြစ်မိပါကြောင်း တင်ပြ လျှောက်ထားတော်မူပါတယ်။ ဩဝါဒါစရိယ ဆရာတော်ကြီးအားလုံးက ဒီအဆိုကို လက်ခံပြီး ဥဒေါင်းစီးပုံတော်ကို ဥဒေါင်းပေါ်မှချ၍ ကိုးကွယ်ကြဖို့ ဆုံးဖြတ်တော်မူခဲ့ကြပါတယ်"

"စာပေပရိယတ္တိမှာ ထူးချွန်တော်မူတဲ့ ဆရာတော်ကြီးတွေရဲ့ အယူအဆ အဆုံးအဖြတ်တွေဟာ တကယ့်ကို နက်ရှိုင်းသိမ်မွေ့ပြီး မှတ်သားစရာ ကောင်းတာပဲနော်"

"ဒါပေါ့ ငါ့ညီ။စာပေပရိယတ္တိဟာ ဘာသာရေးမှာ အခြေခံပဲ။ ဘာသာရေးအခြေခံသဘောတရားတွေ၊ ဘာသာရေးအသိအမြင်တွေ မှန်မှန်ကန်ကန် သိရှိထားဖို့ဆိုရင် အဲဒီလို အကျော်အမော် ဆရာတော်ကြီးတွေ မှန်မှန်ကန်ကန် သိရှိထားဖို့ဆိုရင် အဲဒီလို အကျော်အမော် ဆရာတော်ကြီးတွေ ပြုစုထားတဲ့ ကျမ်းမြတ်တွေကိုပါ ဖတ်ရှုထားဖို့ လိုလိမ့်မယ်။ ဗုဒ္ဓဝါဒ အခြေခံသဘောတရားကို ပိုင်ပိုင်သိမြင်နားလည်ထားရင် အဆန်းထွင် သူတွေရဲ့ နောက်ကို လိုက်ပါမယ့်သူ မဖြစ်နိုင်တော့ဘူး။ အချုပ်ပြောရရင် ဂုဏ်တော်ကို အာရုံပြုပြီး ပုံတော်ကို ရှိခိုးမှ ပြုကြရတာ ဉာဏ်ပညာအလင်းရောင်နဲ့ ထာဝရတုမဲ့ ငြိမ်းချမ်းမှုကို ဖော်ဆောင်တော်မူတဲ့ ပုံတော်တွေကို ရှိခိုးပူဇော်မှသာ ဘုရားရှင်ရဲ့ ဘုန်းတော်အနန္တတွေအထိ အာရုံသက်ဝင် ဆင်ခြင်နိုင်မှာ ဖြစ်ပါတယ်။ ဘုရားရှင်ရဲ့ ဂုဏ်တော်အနန္တကို အလေးဂရုမပြုဘဲ မဆင်မခြင် အဆန်းထွင် ထုလုပ်ထားတဲ့ ပုံတော်တွေအပေါ်မှာ ငါ့ညီ သဘောထားတတ်ရောပေါ့။ အဆန်းတွေကို သတိထား။ အဆန်းတွေနောက် ကောက်ကောက်ပါ မလိုက်မိစေနဲ့"

■

## ပုဗ္ဗဏှသုတ်ထဲမှာ

လွန်ခဲ့သော တစ်လခန့်က မိတ်ဆွေတစ်ယောက်၏ အိမ်သို့ ရောက်ရာ ယတြာချေရန် အစီအမံများ ဆောင်ရွက်နေသည်ကို တွေ့ရှိရသည်။ နံနက်တိုင်း ပုဗ္ဗဏှသုတ်ကို ရွတ်ဆိုနေသော ထိုမိတ်ဆွေက ယတြာချေသော အလုပ်ကို လုပ်နေသည်မှာ ကျွန်တော့်အဖို့မူ များစွာ အံ့သြစရာ ဖြစ်နေပါတော့သည်။ သို့သော် ထိုနေ့ကမူ သူ့ကို ထိုကိစ္စနှင့် ပတ်သက်၍ ဘာမျှ မပြောဖြစ်ပါ။ ပြောရန် အချိန်အခါလည်း မသင့်ဟု ယူဆသောကြောင့် ဖြစ်ပါ၏။ မနေ့ကမူ သူ ကျွန်တော့်အိမ်သို့ အလည်လာသည်။

"သူငယ်ချင်း၊ ဟိုတစ်လောက အိမ်မှာ ယတြာချေနေတာ တွေ့ခဲ့ရတယ်။ ဘာကိစ္စနဲ့ ချေတာလဲ"

"ကိုယ့်ယောက်ဖတစ်ယောက် ရိုက်မှုဖြစ်လို့ အချုပ်ခံနေရတာ။ အဲဒါ ဗေဒင်မေးကြည့်တော့ ထောင်ကျကိန်း ရှိတယ်။ အဲဒါ ယတြာချေရမယ်၊ ကျိန်းသေ အမှုက လွတ်လိမ့်မယ်။ တကယ်လို့ မလွတ်တဲ့တိုင်အောင် သက်သာမယ်၊ ခြောက်လလောက်ပဲ ကျမယ်ဆိုလို့ ယတြာချေလိုက်ရတာ။ သူ့ကို ပေးရတာ ငါးရာကျော်လောက် ကုန်သွားတယ်"

"ဒါနဲ့ သူငယ်ချင်းရဲ့ ယောက်ဖအမှုက လွတ်သွားရောလား"

"ထောင်နှစ်နှစ် ကျသွားတယ်"

"အဲဒါကတော့ သူငယ်ချင်းညံ့လို့ ခံရတာပဲ။ မနက်တိုင်း ပုဗ္ဗဏှသုတ်ရွတ်နေတဲ့ သူက ယတြာချေတာ ငါးရာကျော်ဖိုး ကုန်ကျခံရတယ်လို့"

"ဟ– ယတြာချေတာနဲ့ ပုဗ္ဗဏှသုတ် ရွတ်တာ ဘာဆိုင်လို့လဲ"

"သူငယ်ချင်း အဲဒီသုတ်ကို ပါဠိတော်အတိုင်းပဲ ရွတ်ပြီး အနက်အဓိပ္ပာယ်တော့ သိအောင် မလေ့လာဘူးထင်တယ်"

"ဟင့်အင်း၊ ပရိတ်ရွတ်တာ အနက်အဓိပ္ပာယ် သိဖို့ လိုသေးသလား"

"လိုတာပေါ့ သူငယ်ချင်း၊ အနက်အဓိပ္ပာယ်ကို သိအောင် အားမထုတ်ခဲ့လို့ ပုဗ္ဗဏှသုတ် ရွတ်ပြီး ယတြာချေတဲ့အလုပ် လုပ်နေမိတာပေါ့။ ပုဗ္ဗဏှသုတ်မှာ (သုနက္ခတ္တံ သုမင်္ဂလံ၊ သုပ္ပဘာတံ သုဟုဋ္ဌိတံ။ သုခဏောသုမုဟုတ္တော စ၊ သုယိဋ္ဌံ ဗြဟ္မစာရိသု) ဆိုတဲ့ ဂါထာပါတယ် မဟုတ်လား။ အဲဒီ ဂါထာဟာ အင်္ဂုတ္တရပါဠိတော်ကလာတဲ့ ဘုရားဟော ဂါထာစစ်စစ်ပဲ အဲဒီ ဂါထာရယ် (ယံကိဉ္စိ ဝိတ္တံ) အစရှိဂါထာရယ်၊ အဲဒီ ဂါထာနှစ်ခုက ဘုရားဟောဂါထာတွေ။ ပုဗ္ဗဏှသုတ်မှာပါတဲ့ ကျန်တဲ့ဂါထာတွေက ရှေးဆရာတော်ကြီးများက စီစဉ်ထားတဲ့ ဂါထာတွေ ဖြစ်တယ်။ ဘုရားဟော မဟုတ်ဘူး။ ဒီတော့ သုနက္ခတ္တံ သုမင်္ဂလံ ဆိုတဲ့ ဂါထာဟာ ဒီပုဗ္ဗဏှသုတ်ရဲ့ အသက်ပဲ။ ဒီဂါထာရဲ့ အဓိပ္ပာယ်ကို သူငယ်ချင်း ကောင်းကောင်း သိသင့်တယ်"

"ငါ ယတြာချေတဲ့ ကိစ္စနဲ့ အဲဒီဂါထာရဲ့အနက်အဓိပ္ပာယ်က ဘယ်လို ဆက်စပ်နေလို့လဲ"

"သိပ်ဆက်စပ်တာပေါ့ကွာ။ အဲဒီဂါထာကို သုစရိုက်ကျင့်ရာ နေ့အခါကား ကောင်းသော နက္ခတ်၊

ကောင်းသော မုဟုတ်ချည်းသာ ဖြစ်သည်။ ထိုနေ့၌ အကျင့်ကောင်းရှိသူ ပုဂ္ဂိုလ်တို့၌ လှူရသော အလှူမှာ ကောင်းသော လှူဒါန်းပူဇော်ရခြင်း ဖြစ်သည်လို့ မြန်မာပြန်ဆိုကြတယ်"

" ငါကောင်းကောင်း နားမရှင်းသေးဘူး"

"ဒီလောက်နဲ့ သူငယ်ချင်း နားမရှင်းသေးဘူးဆိုတာ ကိုယ် သဘောပေါက်ပါတယ်။ အဲဒီ အနက်ပြန်ဆိုချက်ကို သပြေကန် ဆရာတော်ဘုရားကြီးက ပရိတ်ကြီး နိဿယသစ်မှာ ဖွင့်ဆို ရှင်းပြတာကို ဖတ်ပြမှ သူငယ်ချင်း သဘောပေါက်မှာပါ"

"အေးလေ မင်းပြောတာထက် ဆရာတော်ကြီးရေးတဲ့အတိုင်း ဖတ်ပြတော့ ပိုခိုင်လုံတာပေါ့"

ထိုင်နေရာမှ ထလျက် စာအုပ်ဗီရိုထဲရှိ သပြေကန် ဆရာတော်ကြီး၏ ပရိတ်ကြီးနိဿယစာအုပ်ကို ယူပြီး စာမျက်နှာ ၅၁၆ မှ စာပိုဒ်ကို ဖတ်ပြလိုက်ပါသည်။

"သုနက္ခတ္တံ သုမင်္ဂလံ၊ သုပ္ပဘာတံ၊ သုဟုဋ္ဌိတံ။ သုခဏော သုမုဟုတ္တော စ၊ သုယိဋ္ဌံ ဗြဟ္မစာရိသု"

(ယသ္မိံ ဒိဝသေ၊ အကြင်နေ့၌။ တယော သုစရိတဓမ္မေ၊ သုစရိုက်တရား သုံးပါးတို့ကို။ ပရိပူရေန္တိ၊ ဖြည့်ကျင့်ကြကုန်၏။ သော ဒိဝသော၊ ထိုနေ့သည်။) သုနက္ခတ္တံ ၊ နတ်အပေါင်း မကောင်းမရှိ အကောင်းအတိ သာတည်း။ သုမင်္ဂလံ၊ အမင်္ဂလာ အဘယ်အခါမရှိ၊ ကောင်းမြတ်သော မင်္ဂလာအတိသာတည်း။ သုပ္ပဘာတံ၊ အပြစ်ကင်းရှင်း ကောင်းသော မိုးလင်းရခြင်းပင်တည်း။ သုဟုဋ္ဌိတံ၊ သာယာသန့်ရှင်း ကောင်းသော အိပ်ရာမှ ထရခြင်းပင်တည်း။ သုခဏော၊ ကြုံလာဆိုက်ရကောင်းသော ခဏချည်းသာတည်း။ သုမုဟုတ္တော စ၊ မုဟုတ်တိုင်းမှာ အကောင်းချည်း သာတည်း။ (ယသ္မိံ ဒိဝသေ၊ ထိုသုစရိုက်ကျင့်ရာ နေ့အခါ၌။) ဗြဟ္မစာရိသု၊ မြတ်သောအကျင့်ကို ကျင့်လေ့ရှိသူ ထိုပုဂ္ဂိုလ်တို့၌။ ယိဋ္ဌံ၊ လှူအပ် ပူဇော်အပ်သော အလှူသည်။ သုယိဋ္ဌံ၊ အပြစ်ကင်း၍ သန့်ရှင်းကောင်းမြတ်သော ပူဇော်ရခြင်း ဖြစ်ပါပေ၏။

"ကဲ-သူငယ်ချင်း၊ ဒါက မူရင်းအနက် ပြန်ဆိုချက်ပဲ။ အဲဒီအနက်ပြန်ဆိုချက်ကိုပဲ ဆရာတော်ကြီးက ပိုမိုရှင်းလင်းစေလိုတဲ့ စေတနာနဲ့ အောက်ခြေမှတ်စု ထုတ်ပြတော်မူသေးတယ်။ အဲဒီစာပိုဒ်ကို ဆက်ဖတ်ပြမယ်"

"သုနက္ခတ္တံ၊ ကောင်းသော နက္ခတ်သည် လည်းကောင်း။ ပ။ သုမုဟုတ္တော၊ ကောင်းသော မုဟုတ်သည်လည်းကောင်း။ တေ၊ သင့်အား။ ဟောတု၊ ဖြစ်စေသတည်း၊ ဟု ဟောတုနှင့် ယှဉ်ကာ အာသီသအဖြစ် ပေးရိုးရှိခဲ့၏။ ၎င်းဂါထာလာရာ တိက အင်္ဂုတ္တရပါဠိ (၂၉၈)၊ ၎င်း အဋ္ဌကထာ (၂၄၄) အလို မကျတတ်။ ပါဠိ၌ 'ရဟန်းတို့ အကြင်သတ္တဝါတို့သည် နံနက်အခါ ကိုယ်ဖြင့် သုစရိုက်ကို ကျင့်ကြကုန်၏။ နှုတ်ဖြင့် သုစရိုက်ကို ကျင့်ကြကုန်၏။ ထိုသတ္တဝါတို့အား ကောင်းသော နံနက် ဖြစ်၏။ ထို့အတူ မွန်းတည့်၊ ညချမ်းအခါတို့၌ သုစရိုက်ကျင့်သူတို့အား ကောင်းသော မွန်းတည့်အခါ၊ ကောင်းသော ညချမ်းအခါဖြစ်ကြောင်း' စောတော်မူသည်။ ထို ပါဠိအရပင် အဋ္ဌကထာ အနက်ဖွင့်ရာ၌ "ယသ္မိံ ဒိဝသေတယော သုစရိတဓမ္မေ ပရိပူရေန္တိ၊ သော ဒိဝသော" ဟု ပါဌ်သေသထည့်ယှဉ်အနက် ပေးခဲ့သည်။ ဆိုလိုရင်းမှာ သုစရိုက်တရား ကျင့်သူတို့အား နက္ခတ်ကောင်း၊ မင်္ဂလာကောင်း၊ အခါကောင်း၊ ခဏကောင်း အားလုံးကောင်းချည်းဖြစ်၍ မကောင်းသော နက္ခတ် မင်္ဂလာအခါ မရှိ။

နက္ခတ်မင်္ဂလာ အခါကောင်းကြံ့ရန် ဓာတ်ရိုက်၊ ယတြာစသော ပြုပြင်မှု ပြုရန် မလို၊ သူတော်ကောင်းတရား ကျင့်ရန်သာ လိုသည်ဟု ဆိုလို၏"

"ဒီအပိုဒ်ကို နားထောင်လိုက်ရတော့ ငါသဘောပေါက်သလို ရှိလာပါပြီ။ အကျင့်ကောင်း ကျင့်သူအဖို့ ယတြာချေ၊ ဓာတ်ဆင်၊ ဓာတ်ရိုက်လုပ်ဖို့ မလိုတာတော့ ဟုတ်ပါပြီ။ ဒါသဘာဝလည်းကျပါတယ်။ ဒီအချက်ကတော့ ကမ္ဘာတစ်ဝန်းလုံးက ဒဿနိက ပညာရှင်တွေ၊ သိပ္ပံပညာရှင်တွေ၊ စဉ်းစားဉာဏ် ရှိသူတွေကိုယ်တိုင် လက်ခံကြမယ့် အချက်ပဲ။ ဒါပေမယ့် အပြစ်တစ်ခု လုပ်ပြီးတဲ့သူတွေအဖို့တော့ အပြစ်ဒဏ်က ခံသာအောင် ယတြာတွေ၊ ဓာတ်ဆင်၊ ဓာတ်ရိုက်တွေ လုပ်ဖို့ လိုလိမ့်မယ် ထင်တယ်"

"သူငယ်ချင်းကလည်း တစ်ခါခံရပြီးတာတောင် ယောင်တောင်တောင် ဖြစ်နေတုန်းပဲကိုး။ သူငယ်ချင်းရဲ့ ယောက်ဖ ယတြာချေလို့ ထောင်မကျဘဲ နေခဲ့သလား။ ပြစ်မှုထင်ရှားတော့ ထိုက်တန်တဲ့ ပြစ်ဒဏ် ခံသွားရတာပဲ မဟုတ်လား"

"မတရားမှုတွေ၊ အကုသိုလ်မှုတွေ၊ ဒုစရိုက်မှုတွေ လုပ်ချင်တိုင်းလုပ်ပြီး ယတြာချေ၊ ဓာတ်ဆင်၊ ဓာတ်ရိုက်တွေလုပ်၊ အင်းရွက်တွေ ပြာချသောက်ရုံနဲ့ ပြစ်ဒဏ်တွေ၊ ဆိုးကျိုးတွေက လွန်မြောက်မယ်ဆိုရင် လောကကြီး ပျက်စီးတာ ကြာပြီပေါ့ သူငယ်ချင်းရယ်"

"ဒီလောက် အစီအမံတွေက ဗုဒ္ဓအလိုတော်လည်း မကျ၊ သိပ္ပံနည်းလည်း မကျပါဘူး။ ကံ- ကံရဲ့အကျိုး၊ တစ်နည်း ကမ္မနိယာမတရားတွေကို ဘယ်တန်ခိုးရှင်ကမှ ကပြောင်းကပြန် လုပ်လို့မရဘူး။ ဘယ်လောကီ အစီအမံ တွေကမှ မစွမ်းဆောင်နိုင်ဘူး"

"ဒါတွေမှာ သက်ဝင်ယုံကြည်လွန်ပြီး ကံ- ကံ၏အကျိုးအပေါ် အလေးအနက် မထားရင် ဗုဒ္ဓဘာသာဝင်စစ်စစ် တစ်ယောက် ဖြစ်မှာ မဟုတ်တော့ဘူး။ အဲဒါကိုတော့ လေးလေးနက်နက် သတိထားဖို့ လိုလိမ့်မယ် သူငယ်ချင်း"

## သရဏဂုံနှင့် ကိုးကွယ်မှု ပြဿနာ

"ထွက်ရပ်ပေါက် လောကီဘိုးတော်များကို ဖြစ်စေ၊ မဟိန္ဒရာသူတော်စင်ရသေ့ကြီးကို ဖြစ်စေ၊ ကိုးကွယ်လျှင် သို့မဟုတ် ပူဇော် ကန်တော့လျှင် သရဏဂုံ ပျက်ပါသလား၊ ညှိုးပါသလား ဖြေကြားပေးပါ"

"စက်တင်ဘာလ (၁၉၉၃-ခုနှစ်) ထုတ် ဘာသာရေးမဂ္ဂဇင်းတစ်စောင်၏ အမေးအဖြေကဏ္ဍတွင် အထက်ပါမေးခွန်းနှင့် တာဝန်ခံ ဖြေကြားသူ ပညာရှင်၏ အဖြေကို ဖတ်ရပါသည်။ အကြိမ်ကြိမ်ဖတ်၊ အထပ်ထပ် ဆင်ခြင်စောကြောမိသည့်အခါ ပြန်လည် ဆွေးနွေးသင့်သော အချက်အချို့ ရှိသည့်အတွက် ဤဆောင်းပါးကို ရေးဖြစ်ပါသည်။

အမေးအဖြေကဏ္ဍကို တာဝန်ယူဖြေကြားသော ဆရာသည် ဓမ္မာစရိယဘွဲ့ရပြီး လေးစားအပ်သော ပညာရှင် ဖြစ်ပါသည်။ ရပ်ရှင်အောင်လံမဂ္ဂဇင်း၌ ရေးသားနေသော ဘာသာရေးဆောင်ပါးအညွှန်းမှာလည်း ထိုဆရာသမား၏ ဖြေကြားချက်အချို့ကို ကျွန်တော် နှစ်သက် သဘောကျသည့်အတွက် စာဖတ်သူများ ဖတ်ဖြစ်အောင် ညွှန်းဆို ဖော်ပြခဲ့ဖူးပါသည်။ ထိုပညာရှင် ဆရာသမားအပေါ် လေးစားကြည်ညိုရင်းစွဲစိတ်ရှိသော်လည်း အကြောင်းအရာအရ ယခု ဖြေကြားချက်အပေါ်မှာ ပြန်လည်ဆွေးနွေးသင့်သည်ထင်၍ ဤဆောင်းပါးကို ရေးလိုက်ရခြင်း ဖြစ်ပါသည်။

အထက်ပါ မေးခွန်းကို ဖြေကြားရာ၌ အမေး- အဖြေကဏ္ဍကို တာဝန်ယူထားသော ဆရာသမားက

"ဗုဒ္ဓဘာသာမှာ လောကီသရဏဂုံ၊ လောကုတ္တရာ သရဏဂုံ ဆိုပြီး နှစ်မျိုးရှိကြောင်း၊ လောကုတ္တရာ သရဏဂုံက သောတာပန်တွေရဲ့ သန္တာန်မှာ တည်တဲ့အတွက် ညှိုးနွမ်းခြင်း မရှိ၊ အမြဲသန့်ရှင်းနေကြောင်း၊ ပုထုဇဉ်သန္တာန်မှာ ဖြစ်ပေါ်တဲ့ လောကီသရဏဂုံကတော့ ပျက်တတ်၊ ညှိုးနွမ်းတတ်တဲ့ သဘောရှိကြောင်း၊ လောကီသရဏဂုံမှာလည်း သရဏဂုံလေးမျိုးရှိကြောင်း၊ ပြီးတော့ သရဏဂုံ ပျက်ခြင်း အကြောင်းတရားနှစ်ပါး၊ သရဂဏဂုံ ညှိုးနွမ်းနိုင်တဲ့ အခြင်းအရာများ စသည်ဖြင့် စာပေပရိယတ္တိမှာ ဓမ္မာစရိယအဆင့် ရှိသူပီပီ ဝေဝေဆာဆာ ပြည့်စုံစွာ တင်ပြဖြေဆိုသွားပါတယ်။ စာဖတ်သူတို့အဖို့ သရဏဂုံနှင့် ပတ်သက်၍ သိသင့်သိအပ်သည်များကို သိခွင့်ရသည့်အတွက် ဖြေကြားသူ ပညာရှင်ကြီးကို ကျေးဇူးတင်ရမှာပဲ ဖြစ်သည်။ သို့သော်-

"အခု တင်ပြခဲ့တဲ့ အဋ္ဌကထာ အဖွင့်တွေအရ ရတနာသုံးပါးကို တစ်လောကလုံးတွင် အမြတ်ဆုံးဟု ယူကာ လောကုတ္တရာအကျိုး၊ တမလွန်အကျိုး၊ လောကီပစ္စုပ္ပန်အကျိုး ဆိုတဲ့ အကျိုးသုံးမျိုးအတွက် ကိုးကွယ်ပြီး ထွက်ရပ်ပေါက် ဘိုးတော်များနဲ့ မဟိန္ဒရာ သူတော်စင်ရသေ့ကြီးတွေကို လောကီပစ္စုပ္ပန်အကျိုး တစ်မျိုးအတွက်သာ ရှိခိုးကိုးကွယ်သူ ဗုဒ္ဓဘာသာတွေမှာ မူလသရဏဂုံတွေမှာလည်း မပျက်နိုင်ပါ။ သရဏဂုံ ညှိုးနွမ်းမှုလည်း မဖြစ်နိုင်ပါ" ဟူသော ဖြေကြားချက်အပေါ်မှာမူ အကြိမ်ကြိမ် အထပ်ထပ် ဆင်ခြင်ဝေဖန် စိစစ်သုံးသပ် ကြည့်မိပါသည်။ ယင်းဖြေကြားချက်သည် သက်ဆိုင်ရာ ပညာရှင်၏ ရပ်တည်ချက်ကို ဖော်ပြနေပါသည်။ ထို့ပြင် ယင်းဖြေကြားချက်မှာ အဓိကကျသော အချက်လည်း ဖြစ်ပါသည်။

"ယခု တင်ပြခဲ့သည့် အဋ္ဌကထာအဖွင့်တွေအရ ဆိုပြီး အထောက်အထားပြုခဲ့သည့် အကြောင်းအရာများမှာ

အတတ်ပညာ သင်ကြားပြသပေးလို့ ဆရာဖြစ်ဖူးတဲ့ တိတ္ထိပုဂ္ဂိုလ်ကို ဆရာအဖြစ် အောက်မေ့ရှိခိုးရင်လည်း မူလ သရဏဂုံ မပျက်" ဆိုသည့် အကြောင်းအရာ ဖြစ်ပါသည်။

ဤနေရာ၌ အသုံးအနှုန်းကို သတိမူဖို့ လိုပါ၏။ အဋ္ဌကထာက ရှိခိုးသည်ဟုသာ သုံးနှုန်းပါ၏။ ကိုးကွယ်သည်ဟု မသုံးစွဲပါ။ မေးသူက ရှိခိုးလျှင်ဟု သုံးနှုန်းခဲ့သည် မဟုတ်ပါ။ ကိုးကွယ်လျှင် သို့မဟုတ် ပူဇော်ကန်တော့လျှင်ဟု သုံးနှုန်းခဲ့ခြင်း ဖြစ်ပါသည်။

သရဏဂုံ ဆောက်တည်ပြီး ဗုဒ္ဓဘာသာဝင်တစ်ဦးအနေဖြင့် ယခင်က ကိုးကွယ်ခဲ့သော တိတ္ထိတွေကို ဆက်လက် ကိုးကွယ်ဖို့ ဘုရားရှင် မညွှန်ကြားခဲ့ပါ။ ဆရာဖြစ်ခဲ့လျှင် ဆွေမျိုးတော်စပ်လျှင် ဆရာဖြစ်ခြင်း ဆွေမျိုးတော်စပ်ခြင်းဆိုသည့် အကြောင်းများကြောင့် (လူမှုကျင့်ဝတ်အရ) ရှိခိုးလျှင် သရဏဂုံ မပျက်ဘူးလားဟု ဆိုခြင်းပါ။ ကိုးကွယ်ခြင်းနှင့် လူမှုကျင့်ဝတ်အရ ရှိခိုးခြင်းမှာ အင်မတန် ကွဲပြားခြားနားပါ၏။

ကောင်းပြီ။ ယခု ထွက်ရပ်ပေါက် လောကီဘိုးတော်၊ မဟိန္ဒရာသူတော်စင် ရသေ့ကြီးများကို ကိုးကွယ်ရှိခိုး နေကြခြင်းသည်–

(၁) ယင်းပုဂ္ဂိုလ်များသည် မိမိတို့၏ ဆရာဖြစ်၍လော။

(၂) ယင်းပုဂ္ဂိုလ်များသည် မိမိတို့နှင့် ဆွေမျိုးတော်စပ်သူ ဖြစ်၍လော။

ယင်းပုဂ္ဂိုလ်ကြီးများကို ကိုးကွယ်နေသည့် ပုဂ္ဂိုလ်များသည် ယင်းပုဂ္ဂိုလ်ကြီး၏ တပည့်ဖြစ်ဖို့၊ ဆွေမျိုးတော်စပ်ဖို့ မဆိုထားဘိ။ ယင်းပုဂ္ဂိုလ်ကြီးများကို မြင်ဖူးပုံလည်း မရ။ ပုဂ္ဂိုလ်ကြီးတွေအကြောင်း ကောင်းကောင်း သိကြပုံလည်း မရ။ မဟိန္ဒရာ ရသေ့ကြီးဆိုလျှင် ဘယ်ဘာသာဝင်လဲ၊ ဘယ်ခေတ်က ပေါ်ပေါက်လာတာလဲ ဘယ်သူမှ မသိကြ။ ဆရာလည်း မဟုတ်။ ဆွေမျိုးလည်း မတော်စပ်၊ ဘယ်ဘာသာဝင်မှန်းလည်း မသိသော ထိုပုဂ္ဂိုလ်ကြီးများကို ရှိခိုးကိုးကွယ်သည့် ကိစ္စမှာ အထက်ပါ အဋ္ဌကထာအလိုနှင့် မကိုက်ညီသည်မှာ အမှန်ပါ။

ထို့ပြင်...

ဘုရားရှင်ကို (၁) လောကုတ္တရာအကျိုး၊ (၂) တမလွန်အကျိုး၊ (၃) လောကီပစ္စုပ္ပန်အကျိုးဆိုသည့် အကျိုးသုံးမျိုးအတွက် ကိုးကွယ်ပြီး ထွက်ရပ်ပေါက် ဘိုးတော်နှင့် မဟိန္ဒရာ ရသေ့ကြီးကို လောကီပစ္စုပ္ပန်အကျိုး အတွက်သာ ရှိခိုးရင်ဆိုသော အချက်ကိုလည်း သုံးသပ်ဆင်ခြင် ကြည့်စေလိုပါသည်။ ဤစာပိုဒ်ကို ဖတ်ကြည့်ပြီးသည့်အခါ အောက်ပါ အချက်များကို ဆင်ခြင်မိပါ၏။

(၁) ဗုဒ္ဓ၏ အဆုံးအမတော်များသည် လူသားတို့အတွက် လောကီအကျိုး၊ လောကုတ္တရာအကျိုး တစ်နည်းအားဖြင့် ပစ္စုပ္ပန်အကျိုး၊ တမလွန်အကျိုး နှစ်မျိုးစလုံးအတွက် ပြည့်စုံလုံလောက်ပြီးသော အဆုံးအမတော်များ ဖြစ်ပါသည်။

(၂) ဘုရားရှင်၏ အဆုံးအမတော်များသည် လောကီ အကျိုးစီးပွားအတွက် ပြည့်ပြည့်စုံစုံ လုံလုံလောက်လောက် လမ်းညွှန်မှု မပေးစွမ်းနိုင်သည့်အတွက် ဘိုးတော်နှင့် မဟိန္ဒရာရသေ့ကြီးကို လောကီအကျိုး

စီးပွားအတွက် ကိုးကွယ်နေပါသလား။ ဤအချက်သည် အင်မတန် အရေးကြီးပါ၏။ ဘုရားရှင်သည် လောကီပစ္စုပ္ပန် အကျိုးအတွက် လုံလုံလောက်လောက် လမ်းညွှန်မှု ပြုမထား၍ ဘိုးတော်နှင့် မဟိန္ဒရာကို ကိုးကွယ်နေကြခြင်းလား။ သေသေချာချာ ဆန်းစစ်သုံးသပ်ကြစေလိုပါသည်။

(၃) ဘိုးတော်နှင့် မဟိန္ဒရာရသေ့ကြီးကို လောကီအကျိုးစီးပွားအတွက် ကိုးကွယ်ရအောင်၊ လောကီအကျိုးစီးပွားတွေကို သမ္မာအာဇီဝတွေကို ထိုပုဂ္ဂိုလ်ကြီးတွေက ညွှန်ပြထား၍လား။ (ညွှန်ပြထားတာများရှိလျှင် သိချင်စမ်းပါဘိ။ ပြီးတော့ ဘုရားရှင် ဟောကြားတော် မူချက်များနှင့် နှိုင်းယှဉ်ကြည့်ချမ်းစမ်းပါဘိ။)

(၄) "နည်းလမ်းကိုတော့ ညွှန်ပြမထားပါဘူး။ ဒါပေမယ့် အဲဒီပုဂ္ဂိုလ်တွေက လောကီ အကျိုးစီးပွားအတွက် ဖန်ဆင်းပေးနိုင်တယ်။ မ,စ ပေးနိုင်တယ်။ ဒါကြောင့် ကိုးကွယ်တာပါ" ဟု ပြောလေမည်လား။ ယင်းသို့ဆိုလျှင်မူ အယူပျက်စီးပြီ။ သမ္မာဒိဋ္ဌိ မဟုတ်ဘူး။ မိစ္ဆာဒိဋ္ဌိ။ ကံကို မယုံတာ၊ ကမ္မသကတာ သမာဒိဋ္ဌိဉာဏ် ကင်းကွာတာ။ ကံ၏အကျိုးကို မယုံတာ။ ကံ– ကံ၏အကျိုးကို မယုံကြည်လျှင် ဗုဒ္ဓဘာသာဝင် မဟုတ်တော့ဘူး။ ရတနာသုံးပါးကို ကိုးကွယ်ရုံမျှနှင့် မလုံလောက်ဘူးထင်ပြီး (ဘုမသိ၊ ဘမသိ၊ ဆရာမတော်၊ ဆွေမျိုးမစပ်) ဘိုးတော်၊ မယ်တော်၊ မဟိန္ဒရာတွေကို ကိုးကွယ်ခြင်းသည် ဘယ်လိုနည်းနှင့်မျှ သရဏဂုံ ခိုင်မြဲသည့် လက္ခဏာ မဟုတ်ပါချေ။

ထိုမေးခွန်းကို မေးသော အမေးရှင်ကို စေတနာဖြင့် အကြံပြုလိုက်ပါသည်။ ထိုမေးခွန်းကို မြတ်မင်္ဂလာမဂ္ဂဇင်း အမေး– အဖြေကဏ္ဍမှာ တာဝန်ယူနေသော ဆရာတော် တိလောကသာရ (ရဝေထွန်း) နှင့် ဓမ္မရံသီ မဂ္ဂဇင်း အမေး– အဖြေကဏ္ဍမှာ တာဝန်ယူနေသော ဆရာဓမ္မပါလတို့ထံ မေးမြန်းစေချင်ပါသည်။ ကြည်ညိုဖွယ် ဆရာတော်နှစ်ပါး၏ မေးခွန်းအပေါ် သဘောထားအမြင်ကို သိကြရမှာ ဖြစ်ပါသည်။

## အဏုမြူကွန်ပျူတာခေတ်က ကျောက်ခေတ်လူသားများ

လူသား၏ သမိုင်းဦးအစသည် ကျောက်ခေတ်ကဟု ဆိုကြပါသည်။

ပဋိသန္ဓေစိတ်နှင့် အမှတ်သညာသိမှုလောက်သာ ရှိသေးသော ကျောက်ခေတ်လူသားများသည် ကျောက်လက်နက်များကို အသုံးပြုလျက် အသက်မွေးဝမ်းကျောင်း ပြုလုပ်ခဲ့ရရှာ၏။ သားကောင် ရှာဖွေ ဖမ်းဆီးရာ၌ သားကောင်ရသည့်အခါတွင် ရ၍ မရသည့်အခါ မရတတ်။ ရံဖန်ရံခါ သားကောင်လိုက်ရင်း မိမိတို့၏ အသက်ခန္ဓာကို စွန့်လွှတ်ခဲ့ရသည့် အဖြစ်မျိုးနှင့်လည်း ကြုံကြိုက်တတ်၏။

ထိုအခါမျိုးတွင် တွေးခေါ်မှု အသိပညာဟူ၍ မည်မည်ရရ မရှိရှာသေးသော ကျောက်ခေတ်လူသားများသည် သားကောင်မရခြင်း၏ အကြောင်းရင်းခံကိုလည်းကောင်း၊ မိမိတို့ မျိုးနွယ်ဝင်များ သားကောင်လိုက်ရင်း အသက်ဆုံးရှုံးရခြင်း၏ အကြောင်းရင်းခံကိုလည်းကောင်း သဘာဝကျကျ၊ ယုတ္တိရှိရှိ၊ မှန်မှန်ကန်ကန် သုံးသပ် စိစစ်နိုင်ခြင်း မရှိကြ။ ပြဿနာ၏ အရင်းခံ အကြောင်းတရားကို လည်းကောင်း၊ မှန်ကန်သော အဖြေကို လည်းကောင်း လက်တွေ့ကျကျ မရှာဖွေတတ်။

ထိုအခါ သားကောင်မရခြင်း၊ မိမိတို့ အမျိုးနွယ်ဝင်များ (သားကောင်ကြောင့်) ပျက်စီးခြင်းတို့မှာ တောကြောင့်၊ တောင်ကြောင့်၊ မြစ်ချောင်းအင်းအိုင်ကြောင့်ဟု အယူမှား၊ အမြင်မှား၊ အစွဲမှားကြလေ၏။ ထိုအခါ ကျောက်ခေတ်လူသားတို့သည်–

တောင်ကိုလည်း ကိုးကွယ်၏။

တောကိုလည်း ကိုးကွယ်၏။

မြစ်ချောင်းအင်းအိုင်ကိုလည်း ကိုးကွယ်၏။

လူ့သမိုင်းဘီးသည် တဖြည်းဖြည်း လိမ့်၍ လာသည်။ လူသားမျိုးနွယ်ဝင်တို့သည် ကျောက်လက်နက်ကိုသာ ကိုင်စွဲရာမှ မီးနှင့် ဘာသာစကား၊ လက်နက်နှင့် ကိရိယာတန်ဆာပလာများကို ကိုင်တွယ်ခဲ့၏။ စိုက်ပျိုး စားသောက်တတ်လာကြသည်။ သဘာဝအရိုင်းပြင်ကြီး၏ ပေးစာကမ်းစာကိုသာ လက်ဝေခံစားသောက်ခဲ့ရာ မိမိဘာသာ ကိုယ်စွမ်းကိုယ်စဖြင့် တဖြည်းဖြည်း စိုက်ပျိုးထုတ်လုပ်လာခဲ့ကြသည်။ ယင်းသို့ အသက်မွေးဝမ်းကျောင်း မှုများ တိုးတက်လာသကဲ့သို့ ကိုးကွယ်ရာကိုလည်း တဖြည်းဖြည်း အဆင့်မြင့်လာခဲ့ကြသည်။

တောကိုးကွယ်၊ တောင်ကိုးကွယ်၊ သစ်ပင်ကိုးကွယ်၊ မြစ်ချောင်းအင်းအိုင်တွေကို ကိုးကွယ်ရာမှာ တောင်ကိုစောင့်သောနတ်၊ တောကိုစောင့်သောနတ်၊ သစ်ပင်ကို စောင့်သောနတ်၊ မြစ်ချောင်းအင်းအိုင်တွေကို စောင့်သောနတ် ရှိသည်ဟု ယူဆလာကြသည်။ တောစောင့်နတ်၊ တောင်စောင့်နတ်၊ သစ်ပင်စောင့်နတ်များကို ကိုးကွယ်လာကြပြန်သည်။ အသိဉာဏ်ဖြင့် ကိုးကွယ်ခြင်းကား မဟုတ်ပါ။ အကြောက်တရားအပေါ် အခြေခံသော ကိုးကွယ်ခြင်းမျှသာ ဖြစ်ပါ၏။ ယင်းကိုးကွယ်ခြင်း၌ သဘောတရား မရှိ၊ စည်းကမ်းမရှိ၊ လုပ်ထုံး လုပ်နည်း ကျင့်ဝတ်လည်း မရှိ။

လူ့သမိုင်းစဉ်သည် ရှေ့သို့ မှန်မှန် ချီတက်လာခဲ့သည်။ သဘောတရား၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်း မရှိသော၊ အကြောက်တရားသက်သက် အရင်းခံသော တောကိုးကွယ်၊ တောင်ကိုးကွယ်ခဲ့ရာမှ သဘောတရား စည်းကမ်းကျင့်စဉ်များဖြင့် အခိုင်အခံ့ တည်ဆောက်ထားသော ကိုးကွယ်ရာ ဘာသာတရားများ ပေါ်ပေါက်လာသည်။ အဓိက ဘာသာရပ်ကြီးများမှာ ဗုဒ္ဓဘာသာ၊ ဟိန္ဒူဘာသာ၊ ခရစ်ယာန်ဘာသာ၊ အစ္စလာမ်ဘာသာ။

ဗုဒ္ဓသည် သူ့ခေတ်သူ့အခါတွင် အကြီးမြတ်ဆုံးသော အတွေးအခေါ်တော်လှန်ရေးကြီးကို ဆင်နွှဲခဲ့၏။ စစ်မှန်သော ကိုးကွယ်မှုဆိုင်ရာ အခြေခံ သဘောတရားများကို ချမှတ်တော်မူခဲ့၏။ ကိုးကွယ်သင့် ကိုးကွယ်ထိုက်၊ ရှိခိုးသင့် ရှိခိုးထိုက်၊ ပူဇော်သင့် ပူဇော်ထိုက်သော ပုဂ္ဂိုလ်များသည် အဘယ်သို့သော ပုဂ္ဂိုလ်များ ဖြစ်သည်ဟူ၍ လည်းကောင်း၊ ကိုးကွယ်ခံဂုဏ်ရည်ဟူသည် အဘယ်အရာနည်းဟူ၍ လည်းကောင်း ရှင်းလင်းပြတ်သားစွာ ညွှန်ပြတော်မူခဲ့ပါ၏။

ဗုဒ္ဓသည် ဖန်ဆင်းရှင် (Creator)၊ ကယ်တင်ရှင် (Salvor) ကို လက်မခံပါ။ လူသားတို့အား ဖန်ဆင်းခံရသူ (Creature) ဟူ၍ လည်း ယူဆတော်မမူပါ။ ဗုဒ္ဓကိုယ်တော်တိုင်ကပင် ကယ်တင်ရှင် (Salvor) မဟုတ်ပါ၊ ဖန်ဆင်းရှင် (Creator) လည်း မဟုတ်ပါ။ လူသားတို့၏ ဘဝလမ်းမှန်ကို ညွှန်ပြသူ (The guide of the right way of life) ဖြစ်ပါသည်။ အမြတ်ဆုံး ချမ်းသာကို လိုသော် ဗုဒ္ဓညွှန်ပြသော လမ်းအတိုင်း လုံ့လပြုလျက် လျှောက်လှမ်းရပေလိမ့်မည်။ မည်သည့် ပုဂ္ဂိုလ်ထံတွင်မှ ဆုတောင်း၍ မရ၊ လက်ဖြန့်တောင်းခံ၍ မရပေ။

ဗုဒ္ဓသည် လူ့သမိုင်းတစ်လျှောက် အသိဉာဏ် နုန့်နဲ့သူ လူသားတို့ ပြုမူခဲ့သော တောင်ကိုးကွယ်၊ တောကိုးကွယ်၊ သစ်ပင်ကိုးကွယ်၊ တောစောင့်နတ်ကိုးကွယ်၊ တောင်စောင့်နတ်ကိုးကွယ်၊ နေ လ နက္ခတ်တာရာ ကိုးကွယ်ခြင်းတို့ကို ဘေးဖြစ်စေသော ကိုးကွယ်မှုများဟုသာ ရှုမြင်တော်မူခဲ့ပါသည်။ အောက်တန်းကျသော၊ ယုတ်ညံ့သော ယင်းကိုးကွယ်ရာ အမှားများကိုလည်း ဗုဒ္ဓသည် ရှုတ်ချတော်မူခဲ့ပါသည်။

ဗုဒ္ဓသည် ဘီစီ ၆၂၃ တွင် ပွင့်ထွန်းပေါ်ပေါက်တော်မူခဲ့ရာ ဗုဒ္ဓပွင့်တော်မူခဲ့သည်မှာ နှစ်ပေါင်း ၂၆၀၀ ကျော်ခဲ့ပေပြီ။ တောကိုးကွယ်၊ တောင်ကိုးကွယ်၊ နတ်ကိုးကွယ် စသည့် ကိုးကွယ်ခြင်းများကို ယုတ်ညံ့သော၊ ဘေးဖြစ်စေသော ကိုးကွယ်ရာအမှားများအဖြစ် ဗုဒ္ဓထုတ်ဖော် ပြောကြားခဲ့သည်မှာ လွန်ခဲ့သော နှစ်ပေါင်း ၂၅၀၀ ခန့်ကတည်းက ဖြစ်ပါသည်။ ကိုးကွယ်ရာ ဘာသာတရားဘက်က ဤသို့ အစစ်အမှန်ကို ရရှိခဲ့သော လူသားသည် အခြားဝိဇ္ဇာသိပ္ပံ အတတ်ပညာများဘက်တွင်လည်း အံ့မခန်း တိုးတက်ခဲ့ပေသည်။

တစ်ချိန်က သဘာဝအရိုင်း၏ အစစ်ဆေးခံ၊ အရွေးချယ်ခံ၊ အကြောင့်ကြခံ ဘဝမှာသာ ကျင်လည်ခဲ့ရသော လူသားသည် ယနေ့သော် သဘာဝကို လိုသလို ခိုင်းစေလျက်ပင် ရှိကြချေပြီ။ သဘာဝအရိုင်း၏ ကျေးကျွန်ဘဝမှ လွတ်မြောက်၍ အရှင်သခင်ဘဝရောက်ခဲ့ပေပြီ။ လူ့အနွယ်ဝင်များက သဘာဝအရိုင်းထက်ပင် လက်စောင်း ထက်ခဲ့ပေပြီ။ သဘာဝသိပ္ပံပညာရပ်များသည်လည်း အတားအဆီး၊ အချုပ်အချယ် မရှိမူလျက် ရင်သပ်အံ့မောဖွယ် ခန့်ပုံတိုးတက်ခဲ့ပေပြီ။ ကျောက်ခေတ်၊ ကြေးခေတ်၊ သံခေတ်၊ စက်ခေတ်မှသည် ၂၀ ရာစုနှစ်များအတွင်း

လူ့အဖွဲ့ကြီးသည် အဏုမြူနှင့် ကွန်ပျူတာစက် ဦးနှောက်ခေတ်ကြီးများကို ကျော်လွှားဖြတ်သန်းလျက် ရှိပေပြီ။ ရေကြော၊ မြေကြောကို (အသံထက်မြန်သော ယာဉ်များဖြင့်) ထင်သလို ကျုံ့နိုင် ချဲ့နိုင်ခဲ့ပေပြီ။ မိုးခေါင်သော ဒေသတွင်း မိုးတုကို ရွာစေနိုင်စွမ်း ရှိခဲ့ပေပြီ။ မြန်မာဒဏ္ဍာရီလာ ရှင်မထီး ဘိုးဘိုးအောင်တို့ မရောက်ရှိခဲ့သော လကမ္ဘာပေါ်တွင်ပင် ၂၀ ရာစု လူသားတို့သည် ခြေချလျက် ရှိပေပြီ။ နက္ခတ္တဗေဒ၊ သင်္ချာဗေဒ၊ ဓာတုဗေဒ၊ ရူပဗေဒ၊ ဇီဝဗေဒ၊ လူမှုဗေဒနှင့် ဆေးသိပ္ပံပညာရပ်များသည်လည်း အံ့မခန်း ဖွံ့ဖြိုးတိုးတက်ခဲ့ပေပြီ။

ဤသို့ ဝိဇ္ဇာ သိပ္ပံ အတတ်ပညာရပ်များ၌ အံ့မခန်းစွာ မယုံနိုင်စရာ တိုးတက်လျက်ရှိသော ၂၀ ရာစုနှစ်အတွင်း လူဖြစ် ကြီးပြင်းပြီး ဗုဒ္ဓ၏ အဆုံးအမကိုလည်း ခံယူပါသည်ဆိုသော ဗုဒ္ဓဘာသာဝင်များထဲမှ အချို့သည် (မိမိတို့ ဘုရားရှင်၏ မျက်နှာတော်ကိုမှ မထောက်ညှာမူလျက်) တောကိုလည်း ကိုးကွယ်ဆဲ၊ တောင်ကိုလည်း ကိုးကွယ်ဆဲ၊ တောစောင့်နတ် တောင်စောင့်နတ်များကိုလည်း ကိုးကွယ်ဆဲ။ ထိုမျှနှင့်ပင် မတင်းတိမ်ကြသူများက ပြည်ပမှ ဘိုးတော် အမ်းကုန်း၊ ကွမ်ယင်မယ်တော် စသည်တို့ကိုပါ ကိုးကွယ်လျက် ရှိကြကုန်သည်။ အံ့သြဖွယ်လည်း ဖြစ်၍ ကရုဏာသက်ဖွယ်လည်း ကောင်းပေစွ။ ဤသို့သော ပုဂ္ဂိုလ်များ ဤနေ့ ဤအခါတွင်ပင် ရှိနေသေးကြောင်း ချမ်းမြေ့ရိပ်သာ ဆရာတော် (အရှင်ဇနကာဘိဝံသ) က ဤသို့ သတိပေး ညွှန်ပြတော်မူခဲ့ပါသည်။

"ဒါဖြင့်ရင် အဲဒီ တောတွေ၊ တောင်တွေ ကိုးကွယ်တာ၊ တောစောင့်နတ် တောင်စောင့်နတ် ကိုးကွယ်တာဟာ အခု သမိုင်းတင်ပြီးလို့ ယဉ်ကျေးမှု အဆင့်အတန်း ထိပ်တန်းအထိလောက် မြင့်တက်နေတယ်ဆိုတဲ့ ဒီအချိန်မှာကော အဲဒီ Animism ပျောက်သွားပြီလား။ ဘုန်းကြီးတို့ မြန်မာပြည်အောက်ပိုင်း ရန်ကုန်မြို့တော်မှာလိုပဲ သစ်ပင်ကြီးတွေကို ကိုးကွယ်ရာ၊ သစ်ပင်စောင့်တဲ့ နတ်တွေကို ကိုးကွယ်နေတာ အခုတိုင် ရှိသေးတယ်။

"ဒီတော့ ဘုန်းကြီးတို့ ပရိသတ် စဉ်းစားကြည့်ပါ။ အဲဒါတွေကို ကြည့်ခြင်းအားဖြင့် ကိုးကွယ်မှုနဲ့ ပတ်သက်လို့ လူသားရဲ့ အသိဉာဏ် ဖွံ့ဖြိုးလာပြီလို့ ဆိုနိုင်မလား။ (မဆိုနိုင်သေးပါဘူး ဘုရား)။ မဆိုနိုင်သေးဘူး မဟုတ်လား။ (မှန်ပါ့ ဘုရား)။

သမိုင်းမတင်မီ (Primitive) ခေတ်က အခြေအနေမှာပဲ ရှိနေသေးတယ်။ သမိုင်းမတင်မီခေတ်၊ လူပေါ်စခေတ်က ကိုးကွယ်မှုအခြေအနေအတိုင်းပဲ ရှိနေကြသေးတယ်။ တချို့ဟာ တိုးတက်လာသောလည်း တချို့ဟာ မတိုးတက်သေးဘူး။ ကျန်နေသေးတယ်"

ယနေ့ လူသားအချို့၏ ကိုးကွယ်မှုအဆင့်သည် နိမ့်ကျလျက်ပင် ရှိသေးကြောင်း၊ ကိုးကွယ်ရာ အစစ်အမှန် ပေါ်ပေါက်ခဲ့ပြီးဖြစ်သော ဤခေတ်ကြီးမှာပင် ကိုးကွယ်ရာ အမှားအမျိုးမျိုး ရောယှက်လျက် ရှိသေးကြောင်းကိုလည်း သဲကုန်းဆရာတော် အရှင်ဉာဏိဿရက ဤသို့ကရုဏာဖြင့် သတိပေးတော်မူခဲ့ပါသည်။

"ဒါနဲ့ ပတ်သက်လို့ ဒီရန်ကုန်-ပြည် ကားလမ်းဘေးက အင်းမအနီးမှာ ရေကျွန်းတောဆိုတဲ့ တောကြီးတစ်တောဟာ ကြီးကျယ်တယ်။ ကျွန်းပင်အကိုင်းလေးများ မချိုးလိုက်နဲ့ အကုန်လုံး သေမယ်။ ကြီးကျယ်လိုက်တာ။ ရေကျွန်းတော၊ ရေကျွန်းတောနဲ့ ဘယ်သူက စပြီး ဘယ်လို အန္တရာယ် ကြုံခဲ့တယ်တော့

မသိဘူး။ နောက်လူတွေ ဒီကျွန်းတောကို ဖြတ်တဲ့အခါ ရှိခိုးသွားရတာတော့ သေချာတယ်။ ထောက်ကြံ့ ဟိုဘက်နားက သစ်ပင်ကြီးကို မပြောဘူးနော် ဟုတ်လား။ ကိုးကွယ်ရာတွေ ပေါလွန်းလို့ များတယ် ဟုတ်လား"

"ဒီတော့ ဘုန်းကြီးတို့က ဒီကနေ့ သာသနာတော်သန့်ရှင်းရေးကို နိုင်ငံတော်အစိုးရနဲ့ ဂိုဏ်းပေါင်းစုံ ဆရာတော် သံဃာတော်များက အားကြိုးမာန်တက် ဆောင်ရွက်ကြတယ်။ ဘုန်းကြီးတို့ ဒကာ၊ ဒကာမတွေရဲ့ ကိုးကွယ်ရာ သန့်ရှင်းမှု ဘယ်လောက်လိုသလဲဆိုတာ ဘုန်းကြီးတို့ ပရိသတ်များ ကိုယ်တိုင် သိကြမှာပါ"

"ဒီကနေ့ ဗုဒ္ဓ၊ ဓမ္မ၊ သံဃလို့ ခေါ်တဲ့ ကိုးကွယ်ရာ အစစ်အမှန် ပေါ်ပေါက်နေတဲ့ ခေတ်ကြီးမှာ အဲဒီလို ကိုးကွယ်မှုတွေဟာ အများကြီး ရောယှက်လျက်ပင် ရှိပါသေးတယ် ဆိုတာကို ဘုန်းကြီးတို့ ပရိသတ်သိရှိစေဖို့..."

လူ့သမိုင်းဘီးကြီး စတင်၍ လှိမ့်ထွက်လာစဉ်ကတည်းက လူသားတို့၏ မွေးရာပါအဖြစ် ပါလာခဲ့သော တောကိုးကွယ်၊ တောင်ကိုးကွယ် စသော ကိုးကွယ်ရာအမှားများကို ယနေ့ အဏုမြူ ကွန်ပျူတာခေတ်သို့တိုင် ဖက်တွယ်လျက်ရှိသူများမှာ ဘာကိုမှ စောဒက မတက်ဝံ့သော ကျေးကျွန်စိတ်ဓာတ် ကိန်းအောင်းနေသူများလည်း ဖြစ်၏။ ကိုယ့်ခြေထောက်ပေါ် ကိုယ်မရပ်နိုင်၊ ကိုယ့်ဦးနှောက်ကို ကိုယ် အားမကိုးနိုင်၊ ကိုယ့်ကိုကိုယ် မယုံကြည်နိုင်သူများလည်း ဖြစ်၏။ ဆင်ခြင်မှု ကင်းမဲ့ ဝေဖန်ခြင်းချို့တဲ့လျက် ပြဋ္ဌာန်းရှင် လူသားအဖြစ်မှ မိမိကိုယ်ကို ပြဋ္ဌာန်းခံ လူသားအဖြစ်သို့ သက်ဆင်းနေသူများလည်း ဖြစ်၏။

ဗုဒ္ဓ ရှုမြင်တော်မူသကဲ့သို့ လူသား၏ စွမ်းအားနှင့် လူသား၏ အလားအလာပေါ်တွင်လည်း အမှန်အတိုင်း ရှုမြင်နိုင်ခြင်း မရှိသူများ ဖြစ်ပါ၏။

လွန်ခဲ့သော နှစ်ပေါင်း ၂၆၀၀ ကျော်ကတည်းက မြတ်ဗုဒ္ဓ ညွှန်ပြတော်မူခဲ့သော စစ်မှန်သည့် ကိုးကွယ်မှုဆိုင်ရာ အယူအဆများကို လျစ်လျူရှု မျက်ကွယ်ပြုနေသူများလည်း ဖြစ်ပါ၏။

မြတ်ဗုဒ္ဓ၏ အလိုတော်နှင့် မဟာကရုဏာတော်ကို အလေးအနက် ဂရုမပြုတတ်သူများလည်း ဖြစ်ပါ၏။

ဘေးဖြစ်စေတတ်သော ကိုးကွယ်ရာ အမှားတည်းဟူသော နှောင်ကြိုးများကို ဗုဒ္ဓနည်းကျ၊ ဗုဒ္ဓအလိုတော်ကျ ရဲရဲရင့်ရင့်၊ ပြတ်ပြတ်သားသား ဖြတ်တောက်နိုင်ကြပါစေ။

■

## ကမ္မဝါဒသာလျှင်

(၁)

၁။ မိမိကိုယ်တိုင် မကောင်းမှု ဒုစရိုက်တရားကို အားထုတ်ပြုလုပ်အပ်၏။ ထိုမကောင်းမှု ဒုစရိုက်တရားကို ပြုလုပ်သော မိမိကိုယ်တိုင်ပင်လျှင် အပါယ်စခန်း သွားမြဲလမ်း၌ ပင်ပန်းနွမ်းနယ်ရ၏။

၂။ မိမိကိုယ်တိုင် မကောင်းသော အကုသိုလ်တရားကို မပြုလုပ်အပ်ပေ။ ပြုအပ်သော ကောင်းမှုကုသိုလ်တရားကိုသာလျှင် ပြုလုပ်အားထုတ်အပ်ပါ၏။ ထိုမကောင်းမှုကို မပြုလုပ်ဘဲ ကောင်းမှုကုသိုလ်တရားကိုသာ ပြုလုပ်အားထုတ်သော မိမိကိုယ်တိုင်သာလျှင် လူ၊ နတ်၊ နိဗ္ဗာန် သုံးတန်သုခ ကောင်းစွာ ရလျက် စင်ကြယ်သန့်ရှင်းရပါပေ၏။

၃။ ကုသိုလ်ကံတရားဟု ဆိုအပ်သော စင်ကြယ်ခြင်းသည်လည်းကောင်း၊ အကုသိုလ်ကံတရားဟု ဆိုအပ်သော မစင်ကြယ်ခြင်းသည် လည်းကောင်း၊ သူတစ်ပါးတို့နှင့် မဆိုင်၊ ကိုယ်ပိုင်ဖြစ်သော အသီးအခြားအင်အားသာလျှင် ဖြစ်၏။ တစ်ပါးသော ပုဂ္ဂိုလ်သည် တစ်ပါးသော ပုဂ္ဂိုလ်ကို စင်ကြယ် သန့်ရှင်းအောင် မသုတ်သင်နိုင်ချေ။

ကံ–ကံ၏အကျိုးကို အကျဉ်းချုပ်ဖော်ပြထားသော အထက်ပါ စာပိုဒ်ကို အပြန်အလှန် စဉ်းစားကြည့်ပါ။ ဝေဖန် သုံးသပ်ကြည့်ပါ။ စိစစ်စောကြောကြည့်ပါ။ ဤကမ္မဝါဒလောက် တရားမျှတသော မှန်ကန်တည့်မတ်သော အယူဟူ၍ ရှိနိုင်ပါသေးသလော။ ဤဝါဒလောက် လောကကို စောင့်ရှောက်သော၊ အလှဆင်သော အယူဟူ၍ ရှိနိုင်ပါသေးသလော။ ဤဝါဒလောက် လူသားအား ကိုယ့်ကြမ္မာ ကိုယ်ဖန်တီးခွင့် ပေးထားသော အယူဟူ၍ ရှိနိုင်ပါသေးသလော။

(၂)

ကောင်းမှုသုစရိုက်ပြုလျှင် ဘဝတွင် ကောင်းကျိုးအထွေထွေ ဖူးပွင့်ဝေဆာလာမည် ဟူသော ဘဘောတရားကို လက်ခံကျင့်သုံးလိုက်သည်နှင့် လူ့လောက လှပလာပါမည်။ ကျင့်သုံးသူ၏ ဘဝလည်း စိုပြည်ငြိမ်းချမ်းလာပါမည်။

လူသားတစ်ဦးသည် ကောင်းမှုပြုလျှင် ပထမဆုံး အကျိုးတရားကား သူ့ဘဝကို စောင့်ရှောက်ခြင်းဖြစ်၏။ ဒုတိယအကျိုးတရားကား နေထိုင်သူ ကျင်လည်ရာ လူ့အသိုင်းအဝိုင်းအား စောင့်ရှောက်ခြင်းဖြစ်၏။ ထိုသို့ ဖြစ်ခြင်းသည် တန်ခိုးရှင်၏ အစွမ်းကြောင့် မဟုတ်၊ ဂါထာမန္တန် အင်းချုပ်တို့၏ အစွမ်းကြောင့် မဟုတ်၊ အကျင့်အကြောင်းကြောင့် အကျိုးဖြစ်ပေါ်လာခြင်း ဖြစ်၏။ သူပြုသော တရားက သူ့ကို စောင့်ရှောက်ခြင်း ဖြစ်၏။ ကယ်တင်ခြင်းဖြစ်၏။ သဘာဝလည်း ကျ၏။ အသင့် ယုတ္တိ ညီညွတ်၏။ ဤသဘောတရားကို မည်သည့်လူမှုရေးပညာရှင်၊ ဒဿနပညာရှင်၊ စိတ်ပညာရှင်၊ သိပ္ပံပညာရှင်တို့ကမှလည်း ကန့်ကွက်ကြမည်မဟုတ်၊ ငြင်းပယ်ကြမည် မဟုတ်၊ ဆန့်ကျင်ကြမည် မဟုတ်ပါ။

တရားကို စောင့်သူအား တရားက ပြန်စောင့်ခြင်းသည် စိတ်ကူးယဉ် အယူအဆ မဟုတ်၊ အနုမာန မှန်းဆချက် မဟုတ်၊ လက်တွေ့ စမ်းသပ်၍ ရသော အရာဖြစ်၏။ အစမ်းသပ် အစစ်ဆေးခံသော အရာ ဖြစ်၏။ မှတ်ကျောက် ပညာရှင် အသီးသီး၏ စူးစမ်း စိစစ်စောကြောမှုကို **လာလှည့်ကြည့်လှည့်ပါ** ဟု စိန်ခေါ် ဖိတ်ခေါ်နိုင်သော အရာ ဖြစ်၏။

လူသားတစ်ဦးသည် မကောင်းမှု ဒုစရိုက် အညစ်အကြေးတို့ဖြင့် စွန်းပေလိမ်းကျံနေပါအံ့။ ယင်းအပြုအမူသည် သူ့ဘဝကို ဖျက်ဆီးရာ ပျက်စီးကြောင်း ဖြစ်၏။ သူကျင်လည်ရာ ဝန်းကျင်ကိုလည်း အနှောင့်အယှက်ပေးရာပေးကြောင်း ဖြစ်၏။ ထိုသို့ ဖြစ်ခြင်းသည် ထာဝရဘုရားသခင်၏ ပြစ်ဒဏ်ပေးခြင်း မဟုတ်၊ တန်ခိုးရှင် တစ်ဦးဦးက စီရင်ချက် ချခြင်း မဟုတ်၊ ကြောင်းကျိုးအားလျော်စွာ သူ့သဘာဝအရ၊ သူ့နိယာမအရ၊ သူ့စည်းမျဉ်း ဥပဒေအရ ဖြစ်ပေါ်လာခြင်း ဖြစ်၏။

တရားကို မစောင့်ရှောက်သူအား တရားက ပြန်၍ စောင့်ရှောက်လိမ့်မည်မဟုတ်။ ဤသည်မှာ လက်တွေ့စမ်းသပ်၍ ရသောအရာဖြစ်၏။ မှတ်ကျောက် အတင်ခံနိုင်သော အရာဖြစ်၏။ အဘယ်မည်သော တန်ခိုးရှင်၊ ပညာရှင်တို့က ဤသဘောတရားကို မမှန်ကန်ဟူ၍ ငြင်းဆို ထောင်ထားနိုင်ပါသနည်း။

(၃)

ကောင်းသော အပြုအမူ ဖြစ်စေ၊ ဆိုးသော အပြုအမူဖြစ်စေ၊ အပြုအမူဟူသမျှ၏ အရေးပါသော အခြေခံကား စေတနာဖြစ်ပါ၏။ စေတနာဟူသည် နာမ်တရားတို့ကို ဆိုင်ရာ အမှုကိစ္စတို့၌ အညီအညွတ် ထထကြွကြွတို့ဖြင့် ဆောင်ရွက်ရန် နှိုးဆော်တိုက်တွန်းခြင်းဖြစ်ပါ၏။ မီးဓာတ်သည် ရေမြေတောတောင် နွယ်မြက် သစ်ပင်တို့အတွက် အရေးကြီးသကဲ့သို့ စေတနာဟူသော ကံဓာတ်သည် လူသားတို့အတွက် အရေးကြီးပါ၏။

မိမိ၏ နှလုံးသားအတွင်းမှ စေတနာ၏ စွမ်းအင်အာနိသင်ကို ယုံကြည်မှသာ ဗုဒ္ဓ အဆုံးအမကို လိုက်နာသော ဗုဒ္ဓဘာသာဝင်ကောင်း စစ်စစ် ဖြစ်ပါလိမ့်မည်။

မိမိ၏ အတွင်းသန္တာန်၌ ထွန်းပသော စေတနာကို အားကိုးပါ။ အမှီသဟဲ ပြုပါ။ မိမိ၏ စေတနာကိုမှ ယုံကြည်ရမှန်း၊ အားကိုးရမှန်း၊ အမှီသဟဲ ပြုရမှန်း မသိဘဲ အဆောင်လက်ဖွဲ့၊ အင်းချပ်၊ ဗေဒင်၊ နက္ခတ်၊ လက္ခဏာ စသည်များအပေါ်တွင် ယုံကြည်အားထား အမှီသဟဲ ပြုခြင်းသည် မြတ်ဗုဒ္ဓ၏ ကမ္မဝါဒနှင့် ဆန့်ကျင်ခြင်းပင် ဖြစ်ပါ၏။

ဤသည်မှာ ပစ္စုပ္ပန်ဘဝအတွက်လည်း အကျိုးမရှိ၊ နောင် သံသရာအတွက်လည်း အကျိုးမရှိ။

(၄)

ဗုဒ္ဓဓမ္မကို အနတ္တဝါဒဟု ဆိုကြ၏။ ဝိဘဇ္ဇဝါဒ ဟုလည်း ဆိုကြ၏။ ကမ္မဝါဒဟုလည်း ဆိုကြ၏။ အားလုံး မှန်သည်ချည်း ဖြစ်ပါ၏။ မြတ်ဗုဒ္ဓသည် လူ့တန်ဖိုး ပိုင်ဆိုင်ရာ ဘဝနိယာမတစ်ခုကို ထုတ်ဖော်ခဲ့၏။ ယင်းကား ကမ္မနိယာမ ဖြစ်ပါ၏။ လူသည် လက်ရှိ မိမိ၏ ဘဝရုပ်တုကို ထုဆစ်သော ပန်းပုဆရာ ဖြစ်၏။ မိမိ၏ တန်ဖိုး၊ မိမိ၏ ဂုဏ်ဒြပ်၊ မိမိ၏ ချမ်းသာဆင်းရဲ၊ မိမိ ရင်ဆိုင်နေရသော ဘဝတစ်ခုလုံးကို မိမိဘာသာ ရွေးချယ်ဆုံးဖြတ် လက်ခံဖန်တီးထားခြင်း ဖြစ်ပါသည်။ အဘယ်သို့သော တန်ခိုးရှင်နှင့်ဣဒ္ဓိပါဒ်ရှင်များက ဖန်တီးထားခြင်း မဟုတ်ပါ။

မြတ်ဗုဒ္ဓ၏ ကမ္မဝါဒမှာ လာလှည့် ရှုလှည့်ဟု ရဲရဲတင်းတင်း ဖိတ်ခေါ်ပြီး မျက်ဝါးထင်ထင် လူတိုင်း သိမြင်နိုင်အောင် ပြောပြနိုင်သည့်ဝါဒ ဖြစ်ပါသည်။ လူသားတိုင်း အညီအမျှ ဧကန်ဧက သိမြင်နားလည်ခွင့် ပေးထားသော ဝါဒ ဖြစ်ပါသည်။

(၅)

ဆန်နှင့် ထမင်းသည် တစ်ဆက်တည်း ဖြစ်နေပါသည်။ မျှစ်နှင့်ဝါးသည် တစ်စပ်တည်း ဖြစ်နေပါသည်။ ထိုနည်းအတူ ကံနှင့်ဘဝသည်လည်း တစ်ဆက်တည်း တစ်စပ်တည်း ဖြစ်နေပါသည်။ ကံက တခြား၊ ဘဝက တခြား မဟုတ်ပါ။

ကောင်းသော ကံက ကောင်းသောဘဝကို ဖော်ဆောင်မည်၊ ဆိုးသော ကံက ဆိုးသောဘဝကို ဖော်ဆောင်မည်။ မကောင်းသော အပြုအမူမှလည်း ကောင်းသော အကျိုးတရားများ ဖြစ်ပွားမလာနိုင်ပါ။ အပြုအမူကတခြား၊ အကျိုးဆက်ကတခြား ဖြစ်အောင် ဖန်တီးနိုင်သော တန်ခိုးရှင်လည်း မရှိပါ။ ဆိုပါစို့- လူတစ်ဦးသည် လူသတ်မှုကို ကျူးလွန်ခဲ့ပါအံ့။ ထိုသူသည် ပါဏာတိပါတာကံ၏ အကျိုးဆက်ကို မလွဲမသွေ ခံရပေလိမ့်မည်။ ပါဏာတိပါတာကံ၏ ဆိုးကျိုးရလဒ်ကို ပျက်ပြယ်စေရန် ယတြာချေ၍ မရနိုင်၊ အင်းချပ်များကလည်း မတတ်နိုင်၊ ဂါထာ မန္တန်ရွတ်၍လည်း မရနိုင်၊ ဘိုးတော် ဘွားတော်များကလည်း မစွမ်းနိုင်။

အကုသိုလ် ဒုစရိုက်များမှ သီးပွင့်လာသော ဆိုးကျိုးရလဒ်ကို မည်သည့် လောကီအစီအမံ များကလည်းကောင်း၊ လောကီပညာရှင်၊ သိဒ္ဓိပညာရှင်၊ တန်ခိုးရှင် ဆိုသူများက လည်းကောင်း ပျက်ပြယ်အောင် ဆောင်ရွက်၍ မရနိုင်ပါ။ ထိုသို့သော ရစတမ်းဆိုပါလျှင် ဤကမ္ဘာလောကကြီး ပျက်စီးသွားပေလိမ့်မည်။ ကမ္မနိယာမသည် ကမ္ဘာကြီးတည့်တံ့စေရန် ထိန်းချုပ်ထားသော သဘောတရား ဖြစ်ပါ၏

(၆)

ကိုယ့်ကြမ္မာကိုယ် ဖန်တီးခွင့်ပေးထားသော ကမ္မနိယာမ သဘောတရားသည် လူသားအင်အား ရှင်သန်သော အားမာန်များကို ပေးစွမ်း၏။ လုပသော မျှော်လင့်ချက်များကို အပ်နှင်း၏။ မိမိဘဝကို မိမိစိတ်ကြိုက်ဖန်တီးရာတွင် အဘယ်ပုဂ္ဂိုလ်၏ ဟန့်တား နှောင့်ယှက်မှု၊ စိုးမိုး ခြယ်လှယ်မှုကို စိုးရွံ့စရာ မလို။ ဖန်တီးရှင်ဟူ၍ မရှိ။ ကယ်တင်ရှင်လည်း မရှိ။

မြတ်ဗုဒ္ဓ၏ ကမ္မဝါဒသည် တည့်မတ်၏။ မှန်ကန်၏။ တောင့်တင်း၏။ ခိုင်မာ၏။ ကမ္မဝါဒ၌ အချွတ်အချော်မရှိ၊ အတိမ်းအစောင်းမရှိ၊ အပိုအလိုမရှိ။ ထိုဝါဒကို မြဲမြဲစွဲစွဲ ယုံကြည်ခြင်း အရင်းခံလျက် လူသားတိုင်း သုစရိုက်မှုများ၌သာ မွေ့လျော်လာပါအံ့။ လူ့ဘောင်လောက ချမ်းမြေ့ပါလိမ့်မည်၊ ငြိမ်းချမ်းပါလိမ့်မည်၊ စည်ပင်သာယာပါလိမ့်မည်။

ကောတုဟလမင်္ဂလာ အယူများကား တည့်မတ်ခြင်း မရှိ၊ မှန်ကန်ခြင်း မရှိ။ အချွတ်အချော် ရှိနိုင်သည်။ အတိမ်းအစောင်း ရှိနိုင်သည်။ အပိုအလိုရှိနိုင်သည်။ ယင်းအယူဝါဒများ၌ လူသားသည် ပြဋ္ဌာန်းခံ ဖြစ်၏။ ကျေးကျွန်ဖြစ်၏။ ယင်းအယူဝါဒများသည် လူသား၏ အပြုအမူကို ဦးစားမပေး။ လူသား ကိုယ်ကျင့်သိက္ခာကို တန်ဖိုးမထား။ လူသားကို ဂြိုဟ်၊ နက္ခတ်၊ တာရာတို့၏ အဖန်အတီးခံအဖြစ် သဘောထား၏။ အတိတ် နိမိတ်၊ အိပ်မက်လာဘ်နေ၊ နတ်နေ၊ စက်နေ၊ နဂါးလှည့်၊ ရက်ရာဇာ၊ ပြဿဒါးတို့၏ အခြယ်အလှယ်ခံ အဖြစ် မှတ်ယူသည်။ လူ့ဂုဏ်ရည်၊ လူ့တန်ဖိုး၊ လူ့သိက္ခာ၊ လူ့အားမာန်တို့ကို အသိအမှတ် မပြု။

ထိုထိုသော ကောတုဟမင်္ဂလာအယူတို့၌ အရိုးစွဲ အသည်းခိုက်မတက် ယုံကြည်ခြင်းသည် မိမိ၏ နှလုံးသားကို မယုံကြည်ခြင်း ဖြစ်၏။ မိမိ၏ စေတနာကို မယုံကြည်ခြင်း ဖြစ်၏။ မိမိ၏ ကိုယ်ကျင့်သိက္ခာကို မယုံကြည်ခြင်း ဖြစ်၏။ မိမိသည်သာ မိမိ၏ အားကိုးရာ၊ အမှီသဟဲပြုရာဟု မယုံကြည်နိုင်တော့သော ပုဂ္ဂိုလ်များသည် အားကိုးရာ၊ အမှီသဟဲပြုရာကို သွေးရူးသွေးတန်း ကမန်းကတန်း ရှာဖွေကြရာမှ လွဲမှားသော မိစ္ဆာအယူနွံအတွင်း သက်ဆင်းမိကြခြင်း ဖြစ်၏။ ထိုသို့သော လူမျိုး များပြားလာလျှင် လူ့ဘောင်လောဘ အကျည်းတန်လာပါလိမ့်မည်၊ အရုပ်ဆိုးလာပါလိမ့်မည်၊ မှန်တိုင်း ထန်လာပါလိမ့်မည်။

(၇)

ကံ–ကံ၏ အကျိုးအပေါ် နှစ်နှစ်ကာကာ ခိုင်ခိုင်မာမာ စွဲစွဲမြဲမြဲ သက်ဝင်ယုံကြည်ခြင်းသည် ဗုဒ္ဓဘာသာဝင်တစ်ယောက်အတွက် ရှေးဦးလိုအပ်ချက် ဖြစ်ပါ၏။

ကံ–ကံ၏ အကျိုးကို ယုံကြည်ခြင်းသည် ဗုဒ္ဓဘာသာဝင်၏ အသက်ဝိညာဉ်ဟုပင် ဆိုချင်ပါ၏။ ဤယုံကြည်မှု ခိုင်မာလျှင် ဗုဒ္ဓဘာသာဝင်အဖြစ်လည်း ခိုင်မာမည်။ ဤယုံကြည်မှု စွဲမြဲလျှင် ဗုဒ္ဓဘာသာဝင်

ရတနာသုံးတန်နှင့် ကံ–ကံ၏ အကျိုးအပေါ် ၎င်းတို့ စိုက်ကျောက်ချသည့်ပမာ မယိုင်မလဲ ခိုင်ခိုင်မြဲမြဲ ယုံကြည်မှုသာလျှင် ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဖြစ်ပါသည်။

ပုထုဇဉ်ဓမ္မတာ လောကဓံတရားတို့နှင့် ဆုံရာတွင် အကောင်းလောကဓံနှင့် ကြုံရသည်လည်း ရှိမည်၊ အဆိုးလောကဓံနှင့် ကြုံရသည်လည်း ရှိမည်။ မည်သို့သော လောကဓံနှင့် ကြုံရသည်ဖြစ်စေ ကံ–ကံ၏အကျိုးအပေါ် ယုံကြည်မှု မှေးမှိန်မသွားစေရန် လိုပါသည်။ ခဏတာကြုံရသည့် ဆင်းရဲနွမ်းပါးမှုဒဏ်ကို သည်းမခံနိုင်ဘဲ ကံ–ကံ၏အကျိုးအပေါ် ယုံကြည်မှုကို စွန့်လွှတ်ခြင်းမျိုး မပြုမိရန် လိုပါ၏။ တစ်ခဏတာ အဖြစ်ထက် သံသရာတစ်လျှောက်ကို မျှော်ခေါ်ကြည့်ဖို့ လိုပါသည်။

ကံ–ကံ၏အကျိုးကို ယုံကြည်ခြင်းသည် ယုံကြည်သူကိုလည်း စောင့်ရှောက်၏။ လောကကိုလည်း စောင့်ရှောက်၏။

ဤကမ္မဝါဒသည် မြတ်နိုးဖွယ် ဖြစ်၏။ ချစ်ခင်ဖွယ် ဖြစ်၏။ အမှန်အမြတ် ပြုဖွယ် ဖြစ်၏။ ဤအယူကို မိမိ၏ အတွင်းသန္တာန်၌ ပျိုးထောင်အပ်၏။ မွေးမြူစောင့်ရှောက်အပ်၏။

ဤအယူကို ညှိုးနွမ်းစေ၊ သိမ်ငယ်စေ၊ ပျက်စီးစေသော လောကီအယူအဆ၊ အစွဲအလမ်းတို့ လွှမ်းမိုးကြီးစိုးလာမှုဟူသမျှကို ဆန့်ကျင်အပ်၏။

ကမ္မနိယာမနှင့် ဆန့်ကျင်သော အကျိုးမဲ့ အစွဲအလမ်းများ၊ လောကီအယူမှားများအား ရှင်သန်ခွင့်၊ ကြီးထွားခွင့် မပေးခြင်းသည် လူသားတို့ ဘဝကို စောင့်ရှောက်ခြင်း ဖြစ်၏။ လောကကို စောင့်ရှောက်ခြင်းလည်း ဖြစ်၏။

## စေတနာဗေဒင်

"စေတနာဆိုးရင် ကံဆိုးတာပါပဲ။ စေတနာကောင်းရင် ကံကောင်းတာပါပဲ။ ကံကောင်းဖို့ ဘာမျှအခက်အခဲ မရှိဘူး။ ငါ့ကံ ကောင်းသလား၊ မကောင်းဘူးလားဆိုတာကို ဗေဒင်မတွက်နဲ့ သိတယ်။ လက္ခဏာ မမေးနဲ့ သိတယ်။ ကံကောင်းသလား၊ မကောင်းသလား ဆိုတာကို ကိုယ့်စေတနာကို ကိုယ့်ဉာဏ်နဲ့ ကိုယ့်ဟာကိုယ် တွက်ကြည့်ရင် မသိဘူးလား။ စေတနာဆိုးကြရင် ကံဆိုးကြတာပါပဲ။ စေတနာကောင်းကြရင် ကံကောင်းကြတာပါပဲ။ စေတနာကို ကံလို့ ခေါ်ကြတာ။ ဟုတ်ဖူးလား"

"ကိုယ့်စေတနာ ကိုယ်တွက်မှ သိတာ။ သူများတွက်လို့ ကိုယ့်စေတနာကို သိပါ့မလား။ မသိဘူး။ အေးဗျာ၊ အဲဒါ ကိုယ့်စေတနာ ကိုယ့်ဟာကိုယ်တွက်ရင် သိနိုင်လျက်နဲ့ ဟိုလူသွားမေးရ၊ ဒီလူသွားမေးရနဲ့ ဘယ့်နှယ်ကြောင့် သူများသွားသွားပြီး ကိုယ့်စေတနာကို မေးနေရတာလဲ။ ကံကောင်း ကံဆိုး သူများ မမေးနဲ့။ ကိုယ့်ကိုယ်ကိုယ်မေး။ ဘုန်းကြီးတို့ ပရိသတ်များ ကိုးကွယ်မှု အဆင့်အတန်းမြင့်ဖို့ ဟုတ်လား၊ အပြင်ဘက်မှာ အကူအညီ မရှာရဘူး။ မိမိမှာ အကူအညီတွေ အပြည့်အစုံ ရှိပါတယ်"

***(သဲကုန်း အရှင်ဉာဏိဿရဆရာတော်)***

ထေရဝါဒ ဗုဒ္ဓဘာသာဝင်စစ်စစ်သည် နတ်၊ ဂိုဏ်း၊ ဝိဇ္ဇာ၊ ဗေဒင်၊ ယတြာ၊ လက္ခဏာ၊ အိပ်မက်တိတ္တံ့ စသော အယူအစွဲ မရှိရပေ။ ယင်းအရာများကို စွဲယူချေသော် အညံ့စား ဗုဒ္ဓဘာသာဝင်များသာ ဖြစ်ကြောင်း မြတ်ဗုဒ္ဓသည် (အင်္ဂုတ္တရ ပါဠိတော်၊ တတိယ၊ စာမျက်နှာ ၁၈၁) တွင် ဟောကြားတော်မူခဲ့ပြီး ဖြစ်ပါသည်။

ဗုဒ္ဓဘာသာဝင် ဖြစ်ပါလျက် ဗုဒ္ဓအဆုံးအမတော်များကို သိရှိအောင် အားထုတ်ခြင်း မပြုကြသူများသည် ဗေဒင် လက္ခဏာ စသည်တို့ကို အားကိုးတတ်ကြ၏။ ရတနာသုံးပါးနှင့် ကံ-ကံ၏အကျိုးအပေါ်၌ တည်ကြည်ခိုင်ခံ့သော သဒ္ဓါတရား အားနည်းသူတို့သည် ကောတုဟလမင်္ဂလာများ၏ လောင်းရိပ်တွင် ကျရောက်လျက်ရှိနေသည်မှာ ဝမ်းနည်းဖွယ်ရာပင် ဖြစ်ပါ၏။

ရတနာသုံးပါးနှင့် ကံ-ကံ၏အကျိုးအပေါ် နှစ်နှစ်ကာကာ စွဲစွဲမြဲမြဲ ယုံကြည်မှု မရှိသူများသည် မိမိကိုယ် မိမိလည်း ယုံကြည်မှု မရှိတတ်ကြ။ မိမိ၏ စေတနာ၊ ကံ၊ ဉာဏ်၊ ဝီရိယတို့အပေါ် ယုံကြည်မှုအားနည်းသည့်အတွက် မိမိတို့၏ အနာဂတ်အပေါ်တွင်လည်း စိတ်ချယုံကြည်မှု မရှိကြ။ ထိုအခါ ကာယကံရှင်ဖြစ်သော မိမိသည်ပင် သေချာရေရာစွာ မသိနိုင်သော အနာဂတ်ကာလအတွက် လူစိမ်း သူစိမ်းများဖြစ်သော ဗေဒင်လက္ခဏာဆရာများ သိနိုင်မည်ဟု ထင်မှတ်ကာ အားကိုးရှာကြလေ၏။

စင်စစ်သော် ပစ္စုပ္ပန်၌ ခြေစုံရပ်လျက် ပစ္စုပ္ပန်အပေါ် သစ္စာဖောက်ကြခြင်းလည်း ဖြစ်ပါ၏။ လက်တွေ့ ပိုင်ဆိုင်လျက်ရှိသော ပစ္စုပ္ပန်ကာလကို တန်ဖိုးမထားတတ်ကြ။ ဗုဒ္ဓနည်းကျ အသုံးချရကောင်းမှန်း မသိကြ။ အနာဂတ်ကာလဟူသည် ပစ္စုပ္ပန်လေ့ကားထစ်များမှ ဖြတ်သန်းသွားရသည်ကိုလည်း သတိမမူမိကြ။ အနာဂတ်

ကာလတွင် မိမိတို့၏ ဘဝ မည်သို့ ဖြစ်လာမည်ကို ကြိုတင်သိမြင်နိုင်ရန် အလို့ငှာ ဗေဒင်၊ လက္ခဏာဆရာများထံ မေးမြန်းကြသည်။

စင်စစ်သော် ထိုသူများသည် ဗုဒ္ဓဝါဒ အဆီအနှစ်များကို မသိရှိမှုမက လောကီဗဟုသုတလည်း နည်းပါးရှာသူများ ဖြစ်ပါ၏။ ကမ္ဘာ့လက္ခဏာပညာရပ် နယ်ပယ်တွင် အကျော်ကြားဆုံးဖြစ်သော လက္ခဏာဆရာကြီး ကိုင်ရို၏ ကြေကွဲဖွယ် ဘဝနိဂုံး အဆုံးသတ်ပုံကိုပင် သိရှိထားဟန် မတူ။ ထို့အတူ လောကီပညာရပ်များနှင့် အတုမရှိဟုဆိုသော အင်္ဂလိပ် ဆရာတော် ခင်ကြီးပျော်၏ နာမည်ကြီးသော်လည်း အသက်မရှည်ခဲ့ပုံကိုလည်း ကြားဖူးနားဝပင် ရှိထားဟန် မတူ။ လောကီပညာရပ်များနှင့် အကျော်အစော ကြီးမားသော ထိုပုဂ္ဂိုလ် ကျော်ကြီးများသည် သူတို့၏ အနာဂတ်ကိုပင် ကြိုတင် မသိမမြင်ခဲ့သည့်အတွက် ကြေကွဲဖွယ် ဖြစ်ရပ်များကို ကြိုတင်ဟန့်တားနိုင်စွမ်း မရှိခဲ့ပေ။

လူတို့၏ ကံသည် ရပ်တန့်၍ မနေပေ။ အချိန်နှင့်အမျှ အပြုအမူအသစ်များ (ကံသစ်များ) ဖြစ်ပွားလျက်ရှိရာ ထိုကံသစ်များကပင်လျှင် ထိုသူ၏ အနာဂတ်ကာလ ဘဝရပ်လုံးကို တဖြည်းဖြည်း ဖော်ဆောင်သွားခြင်းသာ ဖြစ်ပါသည်။

လူ့ဘဝ၌ အကောင်းလောကဓံ ရှိသလို အဆိုးလောကဓံလည်း ရှိချေရာ လူသား မှန်သမျှ အနည်းနှင့် အများဆိုသလို အဆိုးလောကဓံများလည်း ကြုံတွေ့ရတတ်သည်။ မည်သည့်အဆိုးလောကဓံနှင့် ဆုံတွေ့သည်ဖြစ်စေ၊ ယင်းအဆိုးလောကဓံသည် ဘဝတစ်ခုလုံးနှင့် မသက်ဆိုင်ပေ။ မည်သည့်ဖြစ်ရပ်မှ ထာဝရတည်မြဲနေမှု မရှိရကား မအောင်မြင်မှု၊ ဆုံးရှုံးမှုတို့သည်လည်း ရေရှည်တည်မြဲ မနေပေ။ ယင်းအရာများကို လူသား၏ စိတ်ကောင်း၊ စေတသိက်ကောင်းများ၊ ကံ၊ ဉာဏ်၊ ဝီရိယများဖြင့် ချေဖျက်တော်လှန်ပစ်နိုင်စွမ်း ရှိပေသည်။

လူသားသည် အသက်ရှင်နေသမျှ ကာလပတ်လုံး၊ ဘဝရှိနေသမျှကာလပတ်လုံး၊ စိတ်ကောင်း စေတနာကောင်းများကို အရင်းခံလျက် အားထုတ်ခြင်း၊ ကြိုးစားခြင်းများဖြင့် ငြိမ်းအေးပြေလွင်သော အနာဂတ်ကာလကို တည်ဆောက်နိုင်သည်။ အဆိုးလောကဓံနှင့် ကြုံတွေ့ခိုက် ခြေကုန် လက်ပန်းကျတာ ဗေဒင်၊ လက္ခဏာ၊ ဘိုးတော်၊ နတ်ကတော်ထံ သွားရောက်ပြီး မိမိ၏ အနာဂတ်ကို မေးမြန်းခြင်းမှာ တလွဲဆံပင်ကောင်းခြင်းသာ ဖြစ်သည်။

လောကဓံဆိုး၏ အထိုးအနှက်ကို ခံရချိန်တွင် ရတနာသုံးပါးကို ပိုမိုကြည်ညိုခြင်း၊ မိမိ၏ စိတ်ရင်း စေတနာရင်းများကို ရိုးရိုးသားသား ပြန်လည်စစ်ဆေးခြင်း၊ မိမိ၏ လုံ့လပညာနှင့် လုပ်ရပ်များကို ဝေဖန် ဆန်းစစ်ခြင်းများသည်သာ မှန်ကန်သော နည်းလမ်း ဖြစ်သည်။

စေတနာဟူသော ဝေါဟာရကို အများသူငါ သုံးစွဲလျက် ရှိသည်။ စေတနာကို ကံဟူ၍ ခေါ်ကြောင်းကိုလည်း ဘာသာရေးဗဟုသုတ အတန်အသင့် ရှိကြသူများပင် သိရှိကြပါ၏။

သို့သော် အနာဂတ်ကာလ မိမိဘဝ၏ ပုံသဏ္ဌာန်ကို တည်ဆောက်သည့်အရာမှာ မိမိ၏ စေတနာသာ ဖြစ်ကြောင်းကိုမူ အလေးအနက် သတိထင်ထင် ဆင်ခြင်သူ နည်းပါးလှပါ၏။

ရောမဘုရင် ပညာရှိ မာကပ်အောရိလ်ယဒ်က 'One life is what our Thought make it' (ဘဝကို အတွေးဖန်တီးသည်) ဟု ပြောခဲ့ဖူး၏။ ထေရဝါဒ ဗုဒ္ဓဘာသာ ရှုထောင့်ကမူ ဒဘာသကို စေတနာ ဖန်တီးသည်ဒ ဟု ဆိုရမည် ဖြစ်သည်။

အတွေးဟူသည် စေတနာမှ မွေးဖွားလာလေရာ အနက်အဓိပ္ပာယ်ချင်း မခြားနားလှပေ။ စေတနာလှလျှင် အတွေးလှပါသည်။ စေတနာဆိုးလျှင် အတွေးဆိုးပါသည်။ စေတနာသည် အပြုအမူဟူသမျှကို ဦးစီးဦးကိုင် ပြုပါသည်။ ရှေ့ဆောင်ရှေ့ရွက်ပြုပါသည်။ စေ့ဆော်ခြင်း၊ အားစိုက်ခြင်း၊ စီမံခန့်ခွဲခြင်းတို့သည် စေတနာ၏ သတ္တိများ ဖြစ်ပါ၏။

စေတနာတွင် စေတနာကောင်းလည်း ရှိ၏။ စေတနာဆိုးလည်း ရှိ၏။ စေတနာကောင်း၏ သတ္တိနှစ်ခုမှာ မကောင်းကျိုးများကို ဖယ်ရှားခြင်းနှင့် ကောင်းကျိုးများကို ဖြစ်စေခြင်းတို့ ဖြစ်ပါသည်။ စေတနာဆိုးတွင်လည်း သတ္တိနှစ်ခု ရှိပါ၏။ မကောင်းကျိုးများကို ဖြစ်စေခြင်းနှင့် ကောင်းကျိုးများကို ဖျက်ဆီးခြင်းတို့ ဖြစ်သည်။

မိမိဘဝတွင် မကောင်းကျိုးများ ဆုံကြုံနေရလျှင် မိမိ၏ စေတနာဆိုးကျိုးများကို ရိုးရိုးသားသား ရှာဖွေဆန်းစစ်ဖို့ လိုပါမည်။ အကယ်တန္တပစ္စုပ္ပန်တွင် စေတနာကောင်းထားပါလျက် မကောင်းကျိုးများနှင့် ကြုံဆုံနေလျှင် အတိတ်ကာလက မိမိ၏ နှလုံးသားတွင် ထွန်းပခဲ့သော စေတနာဆိုး၏ အသီးအပွင့်ဟုသာ တထစ်ချ ယုံကြည်စေချင်ပါသည်။ ဘယ်သူမပြု မိမိမှုသာ ဖြစ်ရာ ကြုံရသော အဖြစ်အပျက်တိုင်းတွင် မိမိ၏ စေတနာကို ဝေဖန်သုံးသပ်ခြင်းသာ ပြုရပေလိမ့်မည်။

မိမိ၏ အတွင်းသန္တာန်၌ သဒ္ဓါ၊ ဉာဏ်၊ ဝီရိယတို့ ဝင်လာသောအခါ စေတနာကောင်းဖြစ်လာသည်။ လောဘ၊ ဒေါသ၊ မောဟတို့ ဝင်လာသောအခါ စေတနာဆိုးဖြစ်လာသည်။ ဤသည်ကို သတိနှင့် စောင့်ကြည့်လျှင် မည်မျှ မှန်ကန်ကြောင်း သိနိုင်သည်။

ခဏတိုင်း ခဏတိုင်းတွင် နှလုံးသား၌ ထွန်းပသော စေတနာကပင် ဘဝရုပ်လုံးကို ဖော်ဆောင်ခြင်းဖြစ်ရာ စေတနာဆိုးတို့ နိုးထလာမှန်းသိလျှင်သိချင်း နှိမ်နင်းပယ်သတ်နိုင်သော အလေ့အထကို တဖြည်းဖြည်း တစ်စတစ်စ ပျိုးထောင်တည်ဆောက်ရန် လိုအပ်ပါသည်။ စေတနာဆိုးဟူသည် ကံမည်သော်လည်း ကိုယ်ပိုင်ဥစ္စာအဖြစ် မသိမ်းဆည်းအပ်သော စေတနာဆိုးကို နှလုံးသားထဲ၌ မွေးမြူလက်ခံနေလျှင် ထိုသူ၏ အနာဂတ်ကာလသည် မည်သည့်နည်းနှင့်မျှ ငြိမ်းအေးပြေလွင် ဖြူစင်ချောမောတော့မည် မဟုတ်ပေ။ ဗေဒင်၊ လက္ခဏာ မေးသည်ထက် ပို၍ သေချာသော စေတနာဗေဒင်ပါတည်း။

ကိုယ်ပိုင်ဥစ္စာအဖြစ် သိမ်းဆည်းအပ်သော စေတနာကောင်းကို အစဉ် ထာဝရ မြတ်မြတ်နိုးနိုး တန်ဖိုးထား မွေးမြူလျက်ရှိသော သူတစ်ဦး၏ အနာဂတ်ကာလအတွက် စိုးရိမ်ကြောင့်ကြရန် မလိုသကဲ့သို့ ဗေဒင်လက္ခဏာ မေးရန်လည်း လိုပါဦးမည်လား။

ခန္ဓာကိုယ်တွင်း၌ ဖြစ်ပွားသော ရောဂါဝေဒနာတို့ကို ကြောက်ရွံ့သလောက် မိမိ၏ အဇ္ဈတ္တသန္တာန်၌ ဖြစ်ပွားသော စေတနာဆိုးတို့ကို ကြောက်ရွံ့ရကောင်းမှန်း မသိသော လူသားများ အများအပြား ရှိပါသည်။ အနာရောဂါဝေဒနာဆိုးတို့သည် တစ်ဘဝတာကိုသာ ဆုံးရှုံးစေနိုင်သော်လည်း စေတနာဆိုးကား (ပြင်းထန်ကြီးမားလွန်းလျှင်) သံသရာတစ်လျှောက်လုံး ဒုက္ခပေးနိုင်စွမ်း ရှိသည်ကို အထူးသတိပြုသင့်ပေ၏။

"စေတနာဆိုးတဲ့ ကံတရားတစ်ခုကို ပယ်ပစ်လိုက်တာနဲ့ပဲ ဉာဏ်တွေ၊ ဝီရိယတွေ၊ သဒ္ဓါတွေ အလုပ်မဖြစ်ကြတော့ စေတနာတစ်ခုလုံးကို ဖယ်ထုတ်ပစ်လိုက်ရင် ကံမဖြစ်တော့ဘူး။ တစ်နည်းဆိုရင်တော့ စေတနာဆိုးတဲ့ ကံကို လက်မခံရင် ဉာဏ်တွေ ဝီရိယတွေ ဟိုဘက်က သဒ္ဓါတွေ ပညာတွေ အသုံးမဝင်တော့ဘူး"

စေတနာသည် မည်မျှ အရေးပါကြောင်း သဲကုန်း ဆရာတော် အရှင်ဉာဏိဿရ အရှင်သူမြတ်က အထက်ပါအတိုင်း ဆုံးမတော်မူခဲ့သည်မှာ များစွာ နှလုံးသွင်း ဆင်ခြင်စရာ ဖြစ်သည်။

မိမိ၏နှလုံးသား၌ တည်မီသော စေတနာ၏ စွမ်းရည်သတ္တိကို မယုံကြည်လျှင် ဗုဒ္ဓဘာသာဝင်စစ်စစ် မဖြစ်နိုင်ပေ။ မိမိ၏ စေတနာကို မယုံကြည်လျှင် အားမကိုးလျှင် နိယတမိစ္ဆာဒိဋ္ဌိ ဖြစ်ပါသည်။ စေတနာ၏ စွမ်းရည်သတ္တိကို မယုံကြည်ခြင်း၊ အားမကိုးခြင်း၊ စေတနာကောင်း မထားခြင်းသည် မိမိဘဝ၌ မလိုလားအပ်သော ဆိုးကျိုးများကို ဖိတ်ခေါ်နေခြင်းပင် ဖြစ်၏။

မိမိ၏ နှလုံးသားထဲ၌ရှိသော စေတနာ၏ ပုံသဏ္ဌာန်သွင်ပြင်ကို ဗေဒင်၊ လက္ခဏာဆရာတို့ထက် မိမိသာ အသိဆုံး ဖြစ်သည်။ ဗေဒင်မေးနေမည့်အစား မိမိ၏ စေတနာကိုသာ ရိုးရိုးသားသား ဆန်းစစ်စောင့်ကြည့်ဖို့ လိုပါသည်။

မည်သည့်အခါမျှ မမှားနိုင်သော စေတနာဗေဒင်တွက်နည်းကား မရှုပ်ထွေး မခက်ခဲပါ။ မိမိသည် ကိုယ်ပိုင်ဥစ္စာအဖြစ် သိမ်းဆည်းထားရမည့် စေတနာကောင်းများကို နှလုံးသား၌ မွေးမြူထားသည်လား။ ကိုယ်ပိုင်ဥစ္စာအဖြစ် မစုဆောင်းသင့်သော စေတနာဆိုးများကို နှလုံးသား၌ သိမ်းပိုက်ထားသည်လား။ ယင်းတွက်နည်း နှစ်နည်းဖြင့် မိမိ၏ အနာဂတ်ကာလကို ခန့်မှန်းနိုင်းဆနိုင်ပေလိမ့်မည်။

## ပြဿဒါး၊ ရက်ရာဇာ

“ရဟန်းတော်များ၏ ပညာတည်းဟူသော အလင်းရောင်သည် ဒကာ၊ ဒကာမများ၏ အမှောင်ထုကို ခွင်းမိသောအခါ အမှားကြာ၍ အမှန်ဖြစ်နေကြသော ပြဿဒါး၊ ရက်ရာဇာ၊ ဝါရမိတ္တု၊ နဂါးလှည့်၊ မြေခံ၊ ကိုးနဝင်း၊ အင်း၊ အိုင်၊ လက်ဖွဲ့၊ ခါးလှည့်၊ မန္တန် စသော အမှားများသည် ဘာမျှ အဓိပ္ပာယ်မရှိသော အရာများဟု ထင်ရှား ပြတ်သားလာကြပေလိမ့်မည်။ လူတစ်ယောက်အား သူတော်ကောင်း ဟုတ် မဟုတ် ချိန်ထိုးသောအခါ ကိုယ်ချင်းစာတရား၊ မေတ္တာဓာတ် ရှိ မရှိအားဖြင့် ချိန်ထိုးရသကဲ့သို့ ထို့အတူပင် အသိဉာဏ် ရှိ မရှိကို ချိန်ထိုးသောအခါ ယုတ္တိကင်းမဲ့၍ အဓိပ္ပာယ်မရှိသော အရာများကို ယုံ မယုံအားဖြင့်လည်း ချိန်ထိုးရပေမည်”

***(အရှင်ပညိန္ဒာဘိဝံသ၊ ပဌမကျော်၊ ဓမ္မာစရိယ၊ ဘီအေ)***

ဗုဒ္ဓဘာသာဝင်များသည် မိမိတို့ကိုယ်ကို သမ္မာဒိဋ္ဌိများဟု ခံယူထားကြပါ၏။ သမ္မာဒိဋ္ဌိဟူသည် မဖော်မပြန် မှန်ကန်ဖြောင့်မတ်ဖြူစင် သန့်ရှင်း၍ အပြစ်ကင်းသော အယူစွဲ၊ အလုပ်အကျင့်ကို ခေါ်ဆိုပါသည်။

သမ္မာဒိဋ္ဌိတွင် (၁) ကမ္မသကတာသမ္မာဒိဋ္ဌိ၊ (၂) ဝိပဿနာသမ္မာဒိဋ္ဌိ၊ (၃) မဂ္ဂသမ္မာဒိဋ္ဌိ၊ (၄) ဖလသမ္မာဒိဋ္ဌိ၊ (၅) ပစ္စဝေက္ခဏာသမ္မာဒိဋ္ဌိ ဟူ၍ ငါးမျိုးရှိပါသည်။ ယင်းငါးမျိုးတွင် ကမ္မသကတာသမ္မာဒိဋ္ဌိသည် အခြေခံ အုတ်မြစ်ဖြစ်ပါသည်။ ယင်းအခြေခံအုတ်မြစ်အပေါ်တွင် ထို့ထက်အဆင့်မြင့်သော သမ္မာဒိဋ္ဌိလေးမျိုးကို အဆင့်ဆင့် တည်ဆောက်သွားနိုင်ပါသည်။ ဗုဒ္ဓဘာသာဝင်တစ်ဦးအနေဖြင့် မိမိကိုယ်ကို သမ္မာဒိဋ္ဌိ ဟု ခံယူလိုသော် အနိမ့်ဆုံးအဆင့်အားဖြင့် ကမ္မသကတာသမ္မာဒိဋ္ဌိ၌ သက်ဝင်ဖို့ လိုပေမည်။ ယင်းသမ္မာဒိဋ္ဌိ၌မျှ နက်နက်ရှိုင်းရှိုင်း စွဲစွဲမြဲမြဲ ယုံကြည်သက်ဝင်မှု မရှိလျှင် မည်သည့်နည်းနှင့်မျှ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဖြစ်လာလိမ့်မည် မဟုတ်ပါ။

ကမ္မသကတာသမ္မာဒိဋ္ဌိဟူသည် မိမိပြုလုပ်သော စေတနာကောင်းကံ၊ မကောင်းကံ၏ အကြောင်းလိုက် ထိုက်တန်သလောက် ဖြစ်ပေါ်ခံစားသည်ဟူ၍ ယုံကြည်ခြင်း ဖြစ်ပါ၏။ မိမိ၏ အလုပ် (ကံ) နှင့် ကံကြောင့်ရသော လုပ်ခခေါ်သည့် ကံ၏အကျိုးကို ယုံကြည်ခြင်း ဖြစ်ပါ၏။

ကောင်းသော အမှုလုပ်လျှင် ကောင်းကျိုးချမ်းသာ ရရှိပြီး မကောင်းမှုလုပ်လျှင် မကောင်းကျိုး ဆင်းရဲဒုက္ခ ရရှိမည်ဟု မုချယုံကြည်ခြင်းပင် ဖြစ်ပါ၏။ လူသား၏ ကံကြမ္မာကို ထိုလူ၏ အလုပ်၊ အကျင့်စရိုက်ကသာ ဖန်တီး၍ အခြား မည်သည့်အရာကမျှ မဖန်တီးနိုင်ဟုလည်း ခိုင်ခိုင်မြဲမြဲ စွဲစွဲနစ်နစ် ယုံကြည်သက်ဝင်ရခြင်းပင် ဖြစ်ပါ၏။

ဗုဒ္ဓဘာသာဝင်တစ်ဦးအနေဖြင့် ဤကမ္မသကတာသမ္မာဒိဋ္ဌိနှင့် ဆန့်ကျင်သော အယူအစွဲတို့၌ မွေ့လျော် သက်ဝင်နေမိခြင်း ရှိ မရှိ မိမိကိုယ်ကို ဝေဖန်စိစစ်ရန် များစွာလိုအပ်ပါသည်။

ဗြာဟ္မဏတို့၏ ဝေဒကျမ်းလာ ပြဿဒါး၊ ရက်ရာဇာ၊ ဝါရမိတ္တု၊ နဂါးလှည့်စသော အယူများသည် ကမ္မသကတာသမ္မာဒိဋ္ဌိနှင့် ဆန့်ကျင်သော အယူမှား၊ အစွဲမှားများဖြစ်၍ ယင်းအယူစွဲများ၌ ယုံကြည်သူသည်

ဗုဒ္ဓဘာသာဝင်တို့၏ အခြေခံဖြစ်သော ကမ္မသကတာသမ္မာဒိဋ္ဌိတွင် သက်ဝင်မှုမရှိလျှင် အဘယ်မှာလျှင် ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဖြစ်လာပါမည်နည်း။

နမ္မားဆရာတော်ကြီး အရှင်ဉာဏက 'သစ္စာသုံးခိုင် နိဗ္ဗာန်တိုင် တရားတော်' တွင် ရက်ရာဇာ၊ ပြဿဒါးတို့နှင့် ပတ်သက်၍ ပြက်ပြက်ထင်ထင် ရှင်းရှင်းလင်းလင်း ဝေဖန်ခွဲခြား စိစစ်တော်မူခဲ့သည်။ ရက်ရာဇာ၊ ပြဿဒါး အယူစွဲ၍ အလွဲမွေ့လျော် သက်ဝင်သူများ ဆင်ခြင်သံဝေဂ ရစိမ့်သောငှာ ကောက်နုတ်တင်ပြအပ်ပါသည်။

**တနင်္ဂနွေ၊ တနင်္လာဆိုတာ**

"မောင်စိန်ရေ၊ တနင်္ဂနွေ၊ တနင်္လာဆိုတာ ပူသလား အေးသလား"

"သဘောတရား မရှိပါဘူး ဘုရား"

"သဘောတရား မရှိရင် ပညတ်ပေါ့။ အဟုတ်ရှိ မဟုတ်ဘူးပေါ့ကွဲ့"

"မှန်ပါ့၊ ပညတ်ပါဘုရား"

"အဲဒီ အဟုတ်ရှိ မဟုတ်တဲ့ ပညတ်ကို အဟုတ်ရှိထင်ပြီး ပြဿဒါးကို ကြောက်ရ၊ ရက်ရာဇာကို အားကိုးရနှင့် ပုထုဇဉ်တွေမှာ မောပြီး ဒုက္ခ ဖြစ်နေကြတယ် မဟုတ်လား"

"မှန်ပါ့၊ ဒုက္ခဖြစ်နေကြပါတယ်ဘုရား"

**ပြဿဒါး**

"ပြဿဒါးနေ့မှာ ထန်းလျက်ခဲကို စားရင် မချိုဘူးလား"

"ချိုပါတယ်ဘုရား"

"ကုသိုလ်လုပ်ရင် ကုသိုလ် မဖြစ်ဘူးလား"

"ဖြစ်ပါတယ်ဘုရား"

"ကုသိုလ်ကံသည် အကျိုးပေးခွင့်ရသောလည်း ပြဿဒါးနေ့မှာ အကျိုးမပေးသေးဘဲ ဆိုင်းငံ့နေတယ်လို့ ဘုရားဟောသလား"

"မဟောပါဘုရား"

"ဒီလိုဆိုရင် ကံကောင်းထောက်ပံ့နေသောသူသည် ပြဿဒါးနေ့မှာ အိမ်တိုင် ထူခြင်းစောကြောင့် မကောင်းကျိုးကို ရဦးမှာလား"

"မရပါဘုရား"

"ဒီလိုဆိုရင် ကံကောင်းထောက်ပံ့နေသူသည် အကုသိုလ်ကိုသာ ကြောက်ရမယ် မဟုတ်လား"

"မှန်ပါ့ဘုရား"

“အဲဒါကြောင့် အကုသိုလ်ကို မကြောက်ဘဲ ပြဿဒါးကို ကြောက်လျှင် ဗြာဟ္မဏဘာသာ၊ ပြဿဒါးကို မကြောက် အကုသိုလ်ကိုကြောက်မှ ဗုဒ္ဓဘာသာလို့ မှတ်ကွဲ့”

“မှန်ပါ့ဘုရား”

## ရက်ရာဇာ

“ရက်ရာဇာတစ်နေ့မှာ ငရုတ်သီးစားရင် မစပ်ဘူးလား”

“စပ်ပါတယ် ဘုရား”

“ရက်ရာဇာနေ့မှာ လုပ်သော အကုသိုလ်သည် မကောင်းကျိုးကို မပေးဘဲ နေပါ့မလား”

“မနေပါဘူး ဘုရား”

“ကံမကောင်းသောသူသည် ရက်ရာဇာနေ့မှာ အိမ်တိုင်ထူခြင်းကြောင့် ချမ်းသာပါ့မလား”

“မချမ်းသာပါဘုရား”

“မောင်စိန်တို့ရွာ အိမ်ခြေ ဘယ်လောက်ရှိလဲ”

“တစ်ရာ ရှိပါတယ်ဘုရား”

“၄င်း အိမ်ခြေတစ်ရာမှာ ရက်မရွေးဘဲ ဆောက်တဲ့အိမ် ပါရဲ့လား”

“မပါပါ ဘုရား”

“ရက်ရွေးပြီး ဆောက်တဲ့ အိမ်တွေသည် ချမ်းသာတဲ့အိမ်တွေချည်းပဲလား”

“မွဲသောအိမ်တွေသာ များပါတယ်ဘုရား”

“ဒီလိုဆိုရင် ရက်ကောင်းတွေက ကောင်းကျိုးပေးနိုင်သလား”

“မပေးနိုင်ပါဘုရား”

“ရက်မရွေးဘဲ မင်္ဂလာဆောင်တဲ့ လင်မယား ရှိရဲ့လား”

“မရှိပါဘုရား”

“လင်မယားတိုင်း မကွဲမကွာနှင့် ချမ်းသာတာချည်းပဲလား”

“မဟုတ်ပါဘုရား”

“ရက်ကောင်းတွေကို အားကိုးရတာ အလကားပေါ့”

“ အလကားပါဘုရား”

“ကုသိုလ်ကို အားကိုးမှ ဗုဒ္ဓဘာသာကွဲ့ မောင်စိန်ရဲ့”

“မှန်ပါ့ဘုရား”

စင်စစ်သော် လူသားတစ်ဦး၏ ဘဝလောကခံဟူသည် ထိုလူသား၏ စိတ်သန္တာန် ဖြစ်ပေါ်သော စေတနာ အလျောက် ခံစားရသည့် တုံ့ပြန်မှုသာလျှင် ဖြစ်ပါ၏။

ကောင်းသော လောကခံတရားများသည် လူသား၏ စိတ်အစဉ်တွင် ဖြစ်ထွန်းသည့် မေတ္တာ၊ စေတနာ၊ ကရုဏာ၊ မုဒိတာတရားများ၏ ထုထည်ပမာဏနှင့် လျော်ညီထိုက်တန်စွာ ခံစားရသည့် အကျိုးရလဒ်ဖြစ်ပါ၏။ ဤကမ္မနိယာမကို ကပြောင်းကပြန် တော်လှန်နိုင်သော တန်ခိုးဣဒ္ဓိပါဒ်ရှင်ဟူ၍ ဤဘဒ္ဒကမ္ဘာ၌ မရှိ။ ရက်ရာဇာ၊ ပြဿဒါး၊ ဝါရမိတ္တုတို့က စွမ်းနိုင်သော အရာလည်း မဟုတ်။ ကိလေသာတန်းလန်း အာသဝေါတရားများက ထွေးလုံးရစ်ပတ်နေသော ဗြာဟ္မဏပုဏ္ဏားတို့၏ ရက်ရာဇာ၊ ပြဿဒါးဟူသော အယူသည် ကမ္မနိယာမနှင့် ဆန့်ကျင်ခြားနားနေသော အယူမှား၊ အစွဲမှားသာ ဖြစ်ပါ၏။ ယင်းရက်ရာဇာ၊ ပြဿဒါး၊ အယူမှား၊ အစွဲမှားတွင် သက်ဝင်ယုံကြည်နေသူများအနေဖြင့် အမှားကို ပြင်ဆင်နိုင်စေရန် စေတနာဖြင့် အောက်ပါ စာပိုဒ်ကို လက်ဆောင်ပါးအပ်ပါသည်။

"အမှားအမှန်ကို တိကျစွာ သိရန် ခဲယဉ်း၏။ အမှားအမှန်ကို စိစစ်ခဲ၏။ အမှားအမှန်ကို ဝေဖန်ပိုင်းခြား၍ ပြောခဲ၏။ အမှားကို ပယ်၍ အမှန်ကို ပြုလုပ်ခဲ၏။ ထိုခဲယဉ်းခြင်း လေးမျိုးတို့မှ လွတ်မြောက်အောင် အထူးအားထုတ်သင့်၏"

*(အရှင်သေဋ္ဌိလာဘိဝံသ ဆရာတော်ဘုရားကြီး)*

■

# နှလုံးသားဥယျာဉ်

(၁)

လူသားတိုင်း ပိုင်ဆိုင်သော သီးသန့် ဥယျာဉ်ကလေးတစ်ခု ရှိပါသည်။ အဇ္ဈတ္တဥယျာဉ် သို့မဟုတ် နှလုံးသားဥယျာဉ်ဟု ခေါ်ဆိုနိုင်လိမ့်မည်ထင်ပါသည်။ မည်မျှ ဆင်းရဲသည်ဆိုစေ၊ ပညာမဲ့သည်ဆိုစေ သည်ဥယျာဉ်ကိုတော့ ပိုင်ဆိုင်နိုင်စွမ်းရှိကြသည်သာ ဖြစ်ပါ၏။

ရုပ်ဓာတ်၊ နာမ်ဓာတ်တို့၏ ဖွဲ့စည်းတည်ရာ လူသားအဖြစ် လူသားဘဝကို ရယူပိုင်ဆိုင်ပြီဆိုကတည်းက နှလုံးသားဥယျာဉ်က ဒွန်တွဲပါလာစမြဲပါ။

(၂)

လူသားတိုင်းတွင် မွေးရာပါ အခွင့်အရေး၊ မွေးရာပါ ရပိုင်ခွင့်အနေနှင့် ရရှိပိုင်ဆိုင်ထားသော နှလုံးသားဥယျာဉ်ကလေးအပေါ် အသိအမှတ်ပြုခြင်း၊ တန်ဖိုးထားခြင်းမှာမူ လူသားတစ်ဦးနှင့်တစ်ဦး မတူညီကြပေ။ သည်ဥယျာဉ်ကလေးအပေါ်မှာ ချစ်တတ်၊ မြတ်နိုးတတ်၊ တွယ်တာတတ်သူတွေ ရှိသလို ပေယျာလကန် ဥပေက္ခာပြု လျစ်လျူရှုသူတွေလည်း ရှိရဲ့။ သည်ဥယျာဉ်ကလေးကို ပျိုးထောင်သူ၊ မွမ်းမံသူ၊ ယုယုယယ စောင့်ရှောက်တတ်သူတွေ ရှိသလို ပေါင်း၊ မြက်၊ ဆူးခက်၊ ချုံပုတ် ရှုပ်ချင်သလိုရှုပ် ပစ်စလက်ခက် ထားသူတွေလည်း ရှိရဲ့။

ဘဝတည်မြဲရေးအတွက် အပြင် ဗဟိဒ္ဓဆိုင်ရာတွေမှာ အားထုတ်ကြိုးပမ်း လှုပ်ရှားမှုတွေနှင့်သာ ထွေးလုံးရစ်ပတ်နေကြရသော လူသားတွေအဖို့ သည်ဥယျာဉ်ကလေးကို အမှုမဲ့ အမှတ်မဲ့ နေကြသော အချိန်ကာလတွေသာ များပါသည်။ အမြင်၊ အကြား၊ အထိ၊ အတွေ့တွေနှင့်သာ အလွယ်တကူ ဆက်ဆံ၍ရသော ဗဟိဒ္ဓကိစ္စတွေအပေါ်မှာ ဂရုပြု အာရုံစိုက်သလောက် အတွင်းအဇ္ဈတ္တထဲကိုတော့ ထဲထဲဝင်ဝင် ဆင်ခြင်ဝင်ရောက်မှု နည်းပါးလှပါ၏။

(၃)

နှလုံးသားဥယျာဉ်ကို ရောင်စုံပန်းများ၊ သင်းပျံ့သော ရနံ့ကို ထုတ်လွှင့်သော ပန်းပင်များဖြင့် လှလှပပ ဝေဝေဆာဆာ သင်းသင်းပျံ့ပျံ့ မြတ်နိုးဖွယ်၊ တွယ်တာဖွယ်၊ တန်ဖိုးထားဖွယ် တည်ဆောက်၍ ရသည်။ မွမ်းမံ၍ ရသည်။ ပြုစုပျိုးထောင်၍ ရသည်။ ထို့အတူ ဆူးပင်ရိုင်းများ၊ ပေါင်းပင်များ၊ မြက်ရိုင်းရှည်များ၊ ကြီးမားသော ချုံနွယ်ပိတ်ပေါင်းများဖြင့်လည်း အကျည်းတန်တန် အမြင်ရိုင်းရိုင်း ရှုပ်ရှုပ်ထွေးထွေး တည်ဆောက်၍ရသည်။

မည်သည့်ဥယျာဉ်မျိုးကို တည်ဆောက်မည်ဆိုသည်မှာ ဥယျာဉ်မှူး၏ အဆုံးအဖြတ်ပေါ်တွင်သာ တည်မှီ၏။ သူ့ဆန္ဒ၊ သူ့သဘောထားအပေါ်တွင်သာ တည်မှီ၏။ မည်သူကမျှ မည်သို့သော ဥယျာဉ်မျိုး တည်ဆောက်စေဟု အမိန့်ပေး၍ မရ။ အတင်းအကျပ်စေခိုင်း၍ မရ။

လူသားတို့၏ အတွင်းအစ္ဈတ္တမည်သော နှလုံးသားဥယျာဉ်ကား ပုဂ္ဂိုလ်တစ်ဦးချင်းနှင့် ဆိုင်သော သီးသန့် ကမ္ဘာလေးသာ ဖြစ်၏။ ဤသီးသန့်ကမ္ဘာငယ်လေး လှပစိုပြည်ရေးအတွက် အတ္တာဟိ အတ္တနောနာထော မိမိကိုယ်ကိုသာ အားကိုးရပေလိမ့်မည်။

(၄)

လူသားတစ်ဦး၏ဘဝကို ပြင်ပအနေအထားများ၊ တန်ခိုးဣဒ္ဓိပါဒ်ရှင်ဟု ဆိုသူများ၊ လောကီ အစီအရင်များက ဖန်တီးသည် မဟုတ်။ ထိုသူ၏ နှလုံးသားအတွင်းရှိ အတွေးအကြံများ၊ စေတနာများကသည် ဖန်တီးခြင်းဖြစ်၏။ အတွေးအကြံများ၊ စိတ်၊ စေတသိက်၊ စေတနာများက စရိုက် လက္ခဏာများကို ဖွဲ့စည်းတည်ဆောက်ပေးရာ ထိုစရိုက်လက္ခဏာများကပင် ဘဝတစ်ခုလုံး ပုံဖော်ဖန်တီးသွားခြင်း ဖြစ်၏။ မိမိ ရင်ဆိုင်တွေ့ကြုံရသည့် ပတ်ဝန်းကျင် အနေအထား အကောင်းအဆိုး၊ လောကဓံတရား အကောင်းအဆိုးဟူသမျှတို့ဉည် မိမိ၏ အတွေးအကြံ၊ စိတ်ဓာတ်၊ စရိုက်များနှင့် လျော်ညီစွာသာ ပေါ်ပေါက်လာရစမြဲဖြစ်၏။

(၅)

နှလုံးသားဥယျာဉ်အတွင်း မည်သည့် အပင်များကို စိုက်ပျိုးရှင်သန်ခွင့် ပေးမည်နည်း။ ဤသည်လျှင် ဘဝကို အဆုံးအဖြတ်ပေးသော အရာဖြစ်ပါ၏။ မေတ္တာ၊ ကရုဏာ၊ မုဒိတာ စသော ပန်းပင်လှလှကလေးများကို စိုက်ပျိုးမည်လော။ လောဘ၊ ဒေါသ၊ မောဟ၊ ဣဿာ၊ မစ္ဆရိယ၊ မာယာသာဌေယျ စသော ဆူးပင်၊ ပေါင်းမြက်၊ ချုံပုတ်များကို ရှင်သန်ခွင့်ပေးမည်လော။ မိမိ၏ နှလုံးသားဥယျာဉ်အတွင်း ရှင်သန်ကြီးထွားသော အပင်မှန်သမျှ ရိတ်သိမ်းရမည့်သူမှာ မိမိသာလျှင် ဖြစ်၏။

မိမိ၏ နှလုံးသားဥယျာဉ်အတွင်း ရှင်သန်ဖွံ့ဖြိုးသော အပင်များမှ သီးပွင့်လာသမျှကို နူးညံ့သည်ဖြစ်စေ၊ ကြမ်းရှသည်ဖြစ်စေ၊ မွှေးပျံ့သည်ဖြစ်စေ၊ နံစော်သည်ဖြစ်စေ၊ ချိုမြသည်ဖြစ်စေ၊ ခါးသက်သည်ဖြစ်စေ၊ လှပသည်ဖြစ်စေ၊ အမြင်ရိုင်းသည်ဖြစ်စေ (ကမ္မနိယာ သဘောအရ) ရှောင်လွှဲတိမ်းဖယ်၍ မရပေ။ မိမိကိုယ်တိုင်သည်ပင် တာဝန်ခံ ခူးဆွတ်ရိတ်သိမ်းမှု ပြုရပေမည်။

မိမိ၏နှလုံးသားဥယျာဉ်မှ အကောင်းဖြစ်စေ၊ အဆိုးဖြစ်စေ ယင်းနှင့် ပတ်သက်၍ တာဝန်ခံရမည့်သူ၊ သက်ဆိုင်သည့်သူမှာ ဥယျာဉ်မှူးဖြစ်သော မိမိသာ။ မည်သည့် ထာဝရဘုရားရှင်၊ တန်ခိုးဣဒ္ဓိပါဒ်ရှင်၊ ဝိဇ္ဇာ၊ ဘိုးတော်၊ နတ်ကတော်တို့နှင့်မျှ မပတ်သက် မသက်ဆိုင်။ ပဒိုင်းပင်မှသြဇာသီး သီးလာရန် မည်သည့် တန်ခိုးရှင်မျှ မတတ်နိုင်။ ပဒိုင်းသီးကို အလို မရှိသော် မိမိ၏ နှလုံးသားဥယျာဉ်တွင် ပဒိုင်းပင်ကို မစိုက်ပျိုးမိရန်သာ လိုပါသည်။

(၆)

မိမိ၏ နှလုံးသားဥယျာဉ်ထဲ၌ မည်သည့်အပင်မျိုးကို စိုက်ပျိုးထားမိသနည်း။ ရှင်သန်ကြီးထွားခွင့် ပေးထားမိသနည်း။ မိမိ၏ နှလုံးသားအတွင်း ချွတ်ယွင်းမှုများ၊ အားနည်းမှုများ၊ တင်းမာခက်တရော်မှုများ၊ အကျည်းတန်မှုများ ကမောက်ကမဖြစ်မှုများကို စေ့စေ့စောင်စောင် သုံးသပ်ရှာဖွေရမည်သာ ဖြစ်၏။

ပုထုဇဉ်ဖြစ်သောကြောင့် 'အနာအဆာ လုံးဝကင်းမဲ့သော နှလုံးသား' ဟူ၍ မရှိနိုင်ပါ။ စေတနာဆိုး၊ စေတသိက်ဆိုး၊ အတွေးဆိုး၊ အကြံဆိုး၊ အယူဆိုးတို့ကား အနည်းနှင့်အများ ရှိမည်သာ ဖြစ်၏။ ယင်းစေတနာဆိုး၊ စေတသိက်ဆိုး၊ အတွေးအကြံဆိုးတို့ နှလုံးသားဥယျာဉ်အတွင်းမှ နည်းတန်သလောက် နည်းအောင်၊ ပါးတန်သလောက် ပါးအောင် ပထမဦးစွာ မြင်အောင် ရှာရပါမည်။ တွေ့အောင် ကြည့်ရပါမည်။ မြင်အောင်ရှာ၊ တွေ့အောင်ကြည့်ရာတွင် ဗုဒ္ဓအလိုတော်ကျ ဗုဒ္ဓနည်းကိုသာ အားကိုးအားထား ပြုရပေလိမ့်မည်။ ပြီးနောက် နှလုံးသားဥယျာဉ်အတွင်းမှ အမှိုက်သရိုက်များကို ဗုဒ္ဓနည်းကျ စရဏ၊ သမထ၊ ဝိပဿနာတို့ဖြင့်သာ လှည်းကျင်း ရှင်းလင်းရပေမည်။

စိတ်ဆိုး၊ စေတနာဆိုး၊ စေတသိက်ဆိုး၊ အတွေးဆိုး၊ အကြံဆိုးများ နှလုံးသားအတွင်း ဝင်ရောက်မလာရန် သတိရှိရှိ ဖွဲကောင်းကောင်းဖြင့် ပြင်းပြင်းထန်ထန် တွန်းလှန်ခုခံခြင်းသည် ဘဝ၏ အကောင်းဆုံး ကာကွယ်ရေး ဥပဒေသကြီးတစ်ရပ်ဖြစ်ပါ၏။ အကောင်းဆုံးသော အရံအတားလည်း ဖြစ်ပါ၏။ ဤအရံအတားမျိုးကို မည်သည့်မန္တန်၊ မည်သည့်ဂါထာ၊ မည်သည့်အင်းချပ်၊ မည်သည့် လောကီအစီအမံတို့မျှ မစွမ်းဆောင်နိုင်ပေ။

အဇ္ဈတ္တအရံအတားသည် အရံအတားစစ် ဖြစ်၍ အားကိုးစရာ အမှန် ဖြစ်၏။ ခိုင်ခံ့အားကောင်း၏။ အရွတ်အဖတ်၊ အစီအရင်စသော ဗဟိဒ္ဓအရံအတားများကား အဇ္ဈတ္တအရံအတားလောက် အားကိုး၍ မရနိုင်။ ခိုင်ခံ့ခြင်းလည်း မရှိ။ လက်တွေ့လည်း မကျ။ သေချာရေရာခြင်းလည်း မရှိ။ ဗုဒ္ဓအလိုတော်ကျလည်း မဟုတ်ပါချေ။

(၇)

လူ့သက်တမ်းဟူသည် ခဏတာကာလတိုတိုကလေးမျှသာ ဖြစ်ပါ၏။ သက်ရှင်နေရသမျှ ခဏတာကာလငယ်ကလေးမှာ မိမိ၏ နှလုံးသားကို အသန့်စင်ဆုံး၊ အကြည်လင်ဆုံး ထားနိုင်မှ လူ့ဘဝ အရတော်ပေလိမ့်မည်။ နှလုံးသားကို ညစ်နွမ်းစေ၊ ပူပန်စေခဲ့သည့် အတိတ်ဖြစ်ရပ်များ အနည်းနှင့်အများ လူတိုင်းကိုယ်စီ ရှိစမြဲပါ။

ပြီးဆုံးခဲ့၊ ကုန်လွန်ခဲ့၊ ကျော်ဖြတ်ခဲ့ပြီဖြစ်သော ရင်နာဖွယ်၊ ဆွေးမြည့်ဖွယ်၊ နာကြည်းဖွယ်၊ ခံခက်ဖွယ် ဝေဒနာဟောင်းများကို နှလုံးသားဥယျာဉ်အတွင်း ဘယ်သောအခါမျှ အဝင်မခံနှင့်တော့။ ထားခဲ့ပါ၊ချန်ခဲ့ပါ။ ထာဝရမေ့ပစ်လိုက်ပါ။ အတိတ်မှာပဲ ပြာကျသည်အထိ ဖုတ်ကြည်းသင်္ဂြိုဟ်ခဲ့ပါ။ အတိတ်ပြာမှုန် တစ်မှုန်ကလေးကိုမျှ

ဆင်ခြင်မိသည်နှင့်အမျှ (ချက်ချင်း) လှည်းကျင်းရှင်းလင်းပစ်လိုက်ပါ။ ပစ္စုပ္ပန် နှလုံးသားဥယျာဉ်မှာ အတိတ်ဝေဒနာဆိုးတွေကို မည်သည့်နည်းနှင့်မျှ နေရာမပေးမိပါစေနှင့်။

အတိတ်ဝေဒနာဆိုးတွေကို ပစ္စုပ္ပန် နှလုံးသားထဲမှာ တစ်ကျော့တစ်ဖန် ခြေချရပ်တည်ခွင့် ပေးနေသမျှ ပစ္စုပ္ပန် နှလုံးသားသည် တိမ်သလာတွေနှင့် မှိုင်းမှုန်အုံ့ပျလာမည်သာ ဖြစ်ပါသည်။ နှလုံးသားဥယျာဉ်ကလေး အမြဲကြည်လင် သာယာနေစေဖို့ အတိတ်ဝေဒနာဆိုးတွေကို သတိတမံ ဉာဏ်မြေကတုတ်ဖြင့် တားဆီးထိန်းချုပ်ရပေလိမ့်မည်။

(၈)

ဘဝရပ်တည်ရေးအတွက် လှုပ်ရှားရုန်းကန်နေရသဖြင့် အသေးအဖွဲ စိတ်အနှောင့်အယှက်ကလေးများနှင့် နိစ္စဓူဝဆိုသလို ကြုံတွေ့နိုင်ပါသည်။ ဆက်ဆံရသော လူပုဂ္ဂိုလ်များ၊ ဆောင်ရွက်ရသော လုပ်ငန်းများနှင့် ပတ်သက်၍ အဆင်မပြေမှု၊ မချောမွေ့မှု၊ အဖုအထစ်ဖြစ်ရမှု၊ ကသိကအောက်ဖြစ်ရမှုများကား အနည်းနှင့်အများ ရှောင်လွှဲ၍ မရနိုင်။ မလွှဲသာ မတိမ်းသာ ဆုံတွေ့ရတတ်သည့် အသေးအဖွဲ စိတ်အနှောင့်အယှက်ကလေးများ၏ ဒဏ်ကို ခံနိုင်ရည်ရှိအောင် စိတ်ကို လေ့ကျင့်ထားဖို့ လိုပါသည်။

အသေးအဖွဲ အနှောက်အယှက်ကလေးများက နှလုံးသားအတွင်းသို့ ဒေါသငယ်များကို ပစ်သွင်းတတ်ပါသည်။ ဤဒေါသငယ်များကို (အမှုမဲ့ အမှတ်မဲ့) ဝင်ခွင့်ပေးလိုက်ခြင်းသည် ကောင်းသော စိတ်အစဉ်အတွင် အနည်အမှုန်တို့ကို ထစေလိမ့်မည်။ ခဏတာ အနှောက်အယှက်ကလေးများ၊ အဆင်မပြေမှုများက ပေါက်ဖွားလာသော ဒေါသငယ်များ နှလုံးသားဥယျာဉ်အတွင်း မျိုးစေ့အဖြစ် ရောက်ရှိစေခြင်းကို ခွင့်မပြုလိုက်ပါနှင့်။

(၉)

အိပ်စက်ခြင်းမှ နိုးထလာသည်နှင့် တစ်ပြိုင်နက် ဒီတစ်နေ့တာကာလအတွင်း စိတ်ကို အကြည်လင်ဆုံး၊ အသန့်ရှင်းဆုံးထားရှိမည် ဟူ၍ အဓိဋ္ဌာန်ပြုပါ။ ပြီးသော် ဘုရားရှိခိုး ဝတ်ပြုပါ။ သည်တစ်နေ့တာ ကာလအတွင်း မိမိ၏နှလုံးသားကို မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာများဖြင့် နူးညံ့သိမ်မွေ့ညင်သာစေရမည်။ စိတ်နှလုံးကို နောက်ကျုစေသော ဖြစ်ရပ်များနှင့် မမျှော်လင့်ဘဲ ကြုံတွေ့လာရပါက နှလုံးသားကို ဒဏ်ရာရသည့်တိုင် အထိအခိုက်မခံဟု ဆုံးဖြတ်ချက် ခိုင်ခိုင်မာမာ ချမှတ်ထားပါ။

မိမိနှင့် ဆက်ဆံထိတွေ့ရသူများအား မိမိ၏ နူးညံ့မှု၊ သိမ်မွေ့မှု၊ ပျော့ပျောင်းမှု၊ ချစ်ခင်မှု၊ စေတနာထားမှုများကိုသာ (စွမ်းနိုင်သမျှ) ပေးကမ်းမည်။ ခက်ထန်မှု၊ ကြမ်းတမ်းမှု၊ စဉ်းလဲမှု၊ စေတနာခေါင်းပါးမှုတို့ကို လုံးဝ မပေးဟု ဖွဲဖွဲနစ်နစ် အဓိဋ္ဌာန်ပြုပါ။ တစ်နေ့တာကာလအတွင်း ပြုသမျှ ကာယကံ၊ ဝစီကံတို့အပေါ် ဤအဓိဋ္ဌာန် လွှမ်းမိုးနေပါစေ၊ ဩဇာညောင်းနေပါစေ။

(၁၀)

အိပ်စက် အနားမယူမီ မိမိ၏ နှလုံးသားဥယျာဉ်ကို အချိန်အတန်ငယ်မျှ ရယူလျက် စစ်ဆေးကြည့်ပါ။ တစ်နေ့တာကာလအတွင်း နှလုံးသားဥယျာဉ်ထဲသို့ အဘယ်မျိုးစေ့တို့ ကြဲချမိသနည်း။ မေတ္တာ၊ ကရုဏာ၊ မုဒိတာမျိုးစေ့ ဘယ်နှစေ့ ကြဲချမိသနည်း။ အမုန်း၊ အမျက်၊ စိတ်ဆိုး၊ စိတ်ပျက်၊ ဣဿာ၊ မစ္ဆရိယမျိုးစေ့များ ကြဲချလေသလား။ နံနက်အိပ်ရာထမှ ညအိပ်ယာဝင်ချိန်ထိ တစ်နေ့တာ ကာလငယ်လေးအတွင်း ဖြစ်ပွားခဲ့သော နှလုံးသားဖြစ်စဉ်ကို ပြန်လည်ဝေဖန်ပါ။ ဆန်းစစ် သုံးသပ်ပါ။ နှလုံးသားကို ညစ်ထေးစေ၊ ပူပန်စေခဲ့သော အဖြစ်များကို ကြုံတွေ့ခဲ့သော် ယင်းဝေဒနာကို ထာဝရ မေ့ပစ်လိုက်တော့။ နှင်ထုတ်လိုက်တော့။

တစ်နေ့တာ ကာလငယ်အတွင်း နှလုံးသားဥယျာဉ်ထဲ ဝေ့ဝဲကျလာသော စိတ်ညစ်ညူးဖွယ်၊ ခံပြင်းဖွယ်၊ ဒေါသဖြစ်ဖွယ်များကို (ညအိပ်ရာဝင်ချိန်တွင်) လှည်းကျင်းသုတ်သင်လိုက်ပါ။ မျိုးစေ့ အဖြစ်မခံပါနှင့်။ နှလုံးသားဥယျာဉ်အတွင်း ရှင်သန်ကြီးပြင်းခွင့် မပေးပါနှင့်။ တစ်နေ့တာ စိတ်ဝေဒနာ အမှိုက်သရိုက်များကို တစ်နေ့တာအတွင်းပင် လှည်းကျင်းရှင်းလင်း စွန့်ပစ်လိုက်ပါ။ ထိုအခါ ရင်တွင်းတင်းမာမှုများ လျော့ပါး ပြေစင်သွားပေလိမ့်မည်။ ပြီးမှ လွတ်လပ်ပေါ့ပါးသော၊ သန့်ရှင်းကြည်စင်သော စိတ်ဖြင့် အိပ်စက်အနားယူပါ။ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်သွားပါလိမ့်မည်။ ကယောက်ကယက် ခြောက်အိပ်မက်များ လုံးဝ မက်လိမ့်မည် မဟုတ်ပါ။ ရင်တွင်းငြိမ်းချမ်းမှုနှင့် ခန္ဓာကိုယ် အနားယူမှုတို့ ပူးပေါင်းဖွဲ့စည်းခြင်း၏ ရလာဒ်ကား နောက်တစ်နေ့ နံနက်ခင်းတွင် ကြည်ကြည်လင်လင် ရွှင်ရွှင်ပျပျ ပေါ့ပါးသွက်လက်စွာ အိပ်ရာမှ နိုးထလာခြင်းပင် ဖြစ်ပါ၏။

(၁၁)

နှလုံးသားဥယျာဉ်မည်သော မိမိ၏ အတွင်းအဇ္ဈတ္တကို မွန်မွန်မြတ်မြတ် တန်ဖိုးထားတတ်ပါစေ။ မှန်မှန်ကန်ကန် ချစ်တတ်ပါစေ။ လောကတစ်ခုလုံးရှိ ရုပ်ဝတ္ထုပစ္စည်းတို့ထက်ပို၍ တန်ဖိုးထားတတ်ပါစေ။ ရုပ်ကို ပြင်ကြခြင်းသည် ပြုသင့်သော အမှုဖြစ်ပါ၏။ ရုပ်ခန္ဓာကို သန့်ရှင်းလှပအောင်၊ ကျန်းမာအောင် ပြုသင့်သည် မှန်ပါ၏။ ထို့ထက် အတွင်းအဇ္ဈတ္တသန့်ရှင်းအောင်၊ စင်ကြယ်အောင်၊ ကျန်းမာအောင် ပို၍ ပြုသင့်လှပါ၏။

အတွင်းစိတ် ငြိမ်းချမ်းလျှင် ဘဝလည်း ငြိမ်းချမ်းပါလိမ့်မည်။ အတွင်းစိတ် ပူလောင်လျှင် ဘဝလည်း ပူလောင်ပါလိမ့်မည်။ အတွင်းစိတ် ပူလောင်မှုကြောင့် ဖြစ်ထွန်းပေါ်ပေါက်လာသည့် ရလာဒ်ဆိုးကို မည်သည့် အင်း၊ မန္တန်၊ ယတြာ၊ လောကီ အစီအမံတို့ကမျှ တားဆီး၍ မရနိုင်။

မိမိ၏ အတွင်းသန္တာန်ရှိ စိတ်ကောင်း၊ စေတသိက်ကောင်းတွေကို အားကိုးရကောင်းမှန်း၊ အမှီသဟဲ ပြုရကောင်းမှန်း သိပါစေ။ သိသည့်အတိုင်း မိမိ၏ နှလုံးသားဥယျာဉ်ကို စောင့်ရှောက်ပါ၊ ထိန်းသိမ်းပါ၊ စောင့်ကြည့်ပါ။ ယင်းသို့ မိမိ၏ နှလုံးသားကို စောင့်ကြည့်ခြင်း၊ ထိန်းသိမ်းခြင်း၊ စောင့်ရှောက်ခြင်း ပြုရာတွင်

ထေရဝါဒ ပိဋကတ်တော်လာ မြတ်ဗုဒ္ဓ၏ အဆုံးအမတော်များ၏ လမ်းညွှန်မှုကို ရာနှုန်းပြည့် ခံယူကြရမည် ဖြစ်ပါ၏။

## နုတ်ပယ်ခြင်းနှင့် ဖြည့်စွက်ခြင်း

ရုတ်ခြည်းပင် အံ့သြခြင်း၊ တုန်လှုပ်ခြင်းများက စိတ်အစဉ်တစ်ခုလုံးတွင် လွှမ်းခြုံသွားသည်။ မိမိ၏ အမြင်အာရုံကိုပင် မယုံချင်၊ ချိတ်ဆွဲထားသော စာတန်းကို သေချာစိမ့်သောငှာ ထပ်မံ၍ ကြည့်မိသည်။ မိမိ၏ အမြင်အာရုံကား မှုန်ဝါးဝေသီခြင်း မရှိကြောင်း သေချာသွားပါ၏။ ချိတ်ဆွဲထားသော စာတန်းကား ထေရဝါဒဗုဒ္ဓဘာသာဝင် တစ်ဦးအဖို့ စိတ်နှလုံးမချမ်းမြေ့စရာပါ။ လှုပ်ရှားနေသော စိတ်အစဉ်ကို တည်ငြိမ်အောင် ထိန်းသိမ်းလျက် ဈေးဆိုင်ခန်းတွင် ချိတ်ဆွဲထားသော စာတန်းကို တတိယအကြိမ်မြောက် ထပ်မံ ဖတ်ကြည့်လိုက်သော်

**"ဉုံ ဥစ္စာ စရဏ သမ္ပန္နော"**

ဗုဒ္ဓဘာသာဝင်တိုင်းသည် ဘုရားဝတ်ပြု ရှိခိုးစဉ်တိုင်း ရတနာသုံးပါး ဂုဏ်တော်များကို အာရုံပြု ရွတ်ဆိုကြပါသည်။ ဘုရားဂုဏ်တော်ကိုးပါးတွင် တတိယမြောက် ဂုဏ်တော်သည် ဝိဇ္ဇာစရဏ သမ္ပန္နော ဖြစ်ကြောင်း ဗုဒ္ဓဘာသာဝင် သူတော်စင်တိုင်း သိရှိပြီး ဖြစ်ပါ၏

ဗုဒ္ဓဘာသာဝင်တို့၏ အိမ်တွင် အရဟံဟူသော ဗုဒ္ဓဂုဏ်တော်စာတန်းကို ချိတ်ဆွဲခဲ့သော အစဉ်အလာ ရှိခဲ့ပါသည်။ ဘုရားရှင်၏ ဂုဏ်တော်ကို အမြဲသတိရ နှလုံးသွင်းကြည်ညိုစိမ့်သောငှာ ဝိဇ္ဇာစရဏ သမ္ပန္နော ဟု ချိတ်ဆွဲထားရှိသော် ဗုဒ္ဓဘာသာဝင်တိုင်းက ပီတိဖြစ်စွာ အကြိမ်ကြိမ် သာဓုခေါ်ရမည်ဖြစ်၏။ သို့သော် ဘုရားရှင်၏ ဂုဏ်တော်အတိုင်း မဟုတ်မူဘဲ ဝိဇ္ဇာဟူသော ဝေါဟာရစား ဥစ္စာဟူ၍ ပြောင်းလဲရေးသားရုံမျှမက ရှေးက ဘာသာခြားတို့၏ စကားလုံး ဖြစ်သော ဉုံခံလျက် 'ဉုံ ဥစ္စာ စရဏ သမ္ပန္နော' ဟု အများမြင်သာသော ဈေးဆိုင်ခန်းတွင် ချိတ်ဆွဲထားသည်မှာမူ ဗုဒ္ဓဘာသာဝင်တစ်ဦးအဖို့ အံ့သြဖွယ်လည်းဖြစ်၊ တုန်လှုပ်ဖွယ်လည်း ဖြစ်၊ ဝမ်းနည်းဖွယ်လည်း ဖြစ်ပါဘိ။

ဝိဇ္ဇာစရဏ သမ္ပန္နောဂုဏ်တော်သည် 'ဝိဇ္ဇာတရား၊ စရဏတရားနှင့် ပြည့်စုံတော်မူ၏' ဟူသော အနက်ကို ပြပါသည်။ ဝိဇ္ဇာဟူသည် ဝိဇ္ဇာသုံးပါး၊ ဝိဇ္ဇာရှစ်ပါးကို ဆိုလိုပြီး စရဏဟူသည် စရဏတရား ၁၅ ပါးကို ဆိုလိုပါသည်။

ဤတွင် ဝိဇ္ဇာနှင့်စရဏသည် ဒွန်တွဲအပ်သော အစုံတရားနှစ်ပါးဖြစ်သည်ကို သတိမူကြဖို့ လိုပါသည်။ ဝိဇ္ဇာဟူသော အသိဉာဏ် ရှိလင့်ကစား စရဏဟူသော အကျင့်တရားနှင့် မပြည့်စုံလျှင် နိဗ္ဗာန်သို့ မရောက်နိုင်ပါ။ စရဏအကျင့်ရှိပြီး ဝိဇ္ဇာဟူသော အသိဉာဏ်မရှိလျှင်လည်း လမ်းမှန်သို့ ရောက်နိုင်လိမ့်မည် မဟုတ်ပါ။ မြတ်ဗုဒ္ဓကား အထွတ်အထိပ်ဖြစ်သော ဝိဇ္ဇာဉာဏ်၊ စရဏအကျင့်နှင့် ပြည့်စုံတော်မူပါ၏။ အရာရာကို အသိဉာဏ်ဖြင့် အမှန်ကို ကျင့်ကြံအားထုတ်မှသာ ထမြောက်နိုင်ပါ၏။

လောကုတ္တရာ အဆန်လမ်းအတွက် ဒွန်တွဲထားအပ်သော အခု တရားနှစ်ပါးဖြစ်သည့် ဝိဇ္ဇာနှင့် စရဏမှ ခွဲထုတ်ခဲ့သော်...

**"ဦး ဥစ္စာ စရဏ သမ္ဘန္ဓော"**

ဦး= ဟိန္ဒူတို့၏ ကိုးကွယ်ရာ ဗိဿနိုး၊ သျှီဝ၊ ဗြဟ္မာဟူသော နတ်မင်းကြီး။

ဥစ္စာ/ အုတ်စာ/ န– ရေ ငွေ ရတနာ၊ ပစ္စည်းအသုံးအဆောင်။ နစ– တစ်စုံတစ်ခုကို အမည်မဖော်ထုတ်ဘဲ ညွှန်ပြလိုသည့်အခါတွင် သုံးသည့် စကားလုံး။ (ပါ၊ ဥစ္စ) ***မြန်မာအဘိဓာန် (စာမျက်နှာ– ၄၄၁)***

စရဏ= အကျင့်တရာ

သမ္ဘန္ဓော= ပြည့်စုံခြင်း

ဤစာတန်းကို အဘယ်သို့ အဓိပ္ပာယ် ဖွင့်ကြမည်နည်း။ ဟိန္ဒူနတ်မင်းကြီး သုံးပါးတို့သည် ရေ ငွေ ပစ္စည်း အသုံးအဆောင်နှင့် ကိုယ်ကျင့်တရားတို့ဖြင့် ပြည့်စုံကြပါ၏ ဟု ပြန်ဆိုမည်လား။ လောကီ စည်းစိမ်ချမ်းသာ ဓနဥစ္စာနှင့် ကိုယ်ကျင့်တရားတို့ကို ပေးစွမ်းတော်မူပါဟု နတ်မင်းကြီး သုံးပါးထံ ဆုတောင်းခြင်းဟု ပြန်ဆိုမည်လား။ မည်သို့ပင် အဓိပ္ပာယ် ပြန်ဆိုစေ ထေရဝါဒ ဗုဒ္ဓဘာသာနှင့်ကား ပြဒါးတစ်လမ်း သံတစ်လမ်းတည်း။

ဝိဇ္ဇာနေရာတွင် ဥစ္စာကို အစားထိုးခြင်းကား နစ်နစ်နဲနဲ ရေးရလျှင် အောက်တန်းကျပါဘိခြင်း။ လောကုတ္တရာ အဆန်လမ်းမှသည် လောကီအစုန်လမ်းသို့ မောဟကြီးစွာ ဦးတည်ခြင်းဟု ဆိုနိုင်ပါမည်။ နိဗ္ဗာန်အထက်လမ်းမှ သံသရာအဆင်းလမ်းသို့ ပညာမဲ့စွာ တွန်းပို့ပေးခြင်းလည်း ဖြစ်ပါသည်။ ချမ်းသာစစ်သို့ ပို့ဆောင်မည့် အသိဉာဏ်ကို နေရာမပေးမူလျက် ချမ်းသာတုများသာ ပေးစွမ်းသည့် ဥစ္စာကို ရှေ့တန်းတင်ခြင်းသည် အဘယ်အဓိပ္ပာယ်ကို ဆောင်လေသနည်း။ ဘာသာရေး အသိဉာဏ် ရှိသူတိုင်း နားလည် သဘောပေါက်နိုင်ပါလိမ့်မည်။

ဤစာတန်းကို ချိတ်ဆွဲထားသော ဆိုင်ရှင်သည် သူ့သဘောဖြင့်သူ တီထွင်ရေးသားချိတ်ဆွဲခြင်း မဖြစ်နိုင်ပါ။ ဂိုဏ်းဆရာတစ်ဦးဦးက သော်လည်းကောင်း၊ ဘိုးတော်တစ်ဦးဦးကသော်လည်းကောင်း၊ ဖေဒင်ဘုန်းကြီး မန္တန်ဘုန်းကြီး တစ်ပါးပါးကသော်လည်းကောင်း အဆောင်ခိုင်းထားသော စာတန်းဖြစ်မည်မှာ သေချာပါသည်။

ထေရဝါဒ ကိုယ်ခံအား နည်းပါးသောကြောင့် ဂိုဏ်းဆရာ ဘိုးတော်၊ ဖေဒင်ဘုန်းကြီး၊ အင်းဘုန်းကြီး၊ မန္တန်ဘုန်းကြီးတို့ကို ကိုးကွယ်ကြ၏။ ထိုပုဂ္ဂိုလ်များ၏ လွဲမှားသော လမ်းညွှန်မှုများကို လိုက်နာ ကျင့်ဆောင်ခြင်းကြောင့် ထေရဝါဒ ကိုယ်ခံအားမှာ မူလထက်ပင် ကျဆင်းသွားတော့သည်။ ဆရာမှား၍ သားသေ ဆိုသည့် စကားရှိ၏။ ယခုမူ ဆရာမှား၍ မိမိနှင့် မိမိ၏ မိသားစုပါ သံသရာအစုန်လမ်းသို့ စုန်းစုန်းနစ် ဆွဲချမည့် အဆောင်စာတန်းကို ဦးထိပ်ပန်ဆင်မိလျက်သား ဖြစ်နေ၏။ ငွေကုန်ကြေးကျ ခံ၍ ခမ်းနားသေသပ်စွာ ထွင်းထု ချိတ်ဆွဲထားသော ဤစာတန်းကို လမ်းသွားလမ်းလာများက တွေ့မြင်ဖတ်ရှုပြီး အမှားကို အမှန်ထင်လျက် တုပကာ ဤစာတန်း (ဤဂါထာ) ကို ရွတ်ဆိုသူ အဘယ်မျှ ရှိလေဦးမည်နည်း။ ရင်မောဖွယ် ကောင်းပေစွ။

ဘုရားရှင်က သတ္တဝါဝေနေယျတို့၏ အကျိုးစီးပွားအလို့ငှာ ကိုယ်တော်စား အမွေ ပေးသနားတော်မူခဲ့သော တရားဒေသနာတော်များမှာ ပိဋကတ်တော်အားဖြင့် သုံးပုံ၊ နိကာယ်အားဖြင့် ငါးရပ်၊ ဓမ္မခန္ဓာအားဖြင့် ရှစ်သောင်းလေးထောင် ရှိပါသည်။ ဤမျှ မြားမြောင်လှသော ဗုဒ္ဓ၏ တရားဓမ္မ၊ ဗုဒ္ဓ၏ ပါဝစနများသည် ကျင့်ကြံစရာ၊ ရွတ်ဖတ်စရာချည်းသာ ဖြစ်ပါ၏။

ဉပမာ ဗုဒ္ဓဂုဏ်တော်တစ်ခုခုကို အာရုံပြုလိုသဖြင့် အိမ်၊ ဆိုင်ခန်းတို့တွင် ရေးသားချိတ်ဆွဲထားလိုသော် အရဟံ ဘဂဝါ စသည်။

မိမိကိုယ်ကို အားကိုချင်စိတ်ကို ထာဝရ သတိပေးနေစေလိုလျှင် အတ္တာဟိ အတ္တနော နာထော

ကိုယ်ကျင့်တရားကို အမြဲကျင့်သုံးစောင့်ထိန်းလိုစိတ်ကို နှိုးဆော်စေလိုလျှင် 'ဓမ္မော ဟဝေရက္ခတိ ဓမ္မာစာရီ' စသည် စသည်။

ဗုဒ္ဓဘာသာဝင်များအဖို့ အိမ်တွင်၊ ဈေးဆိုင်ခန်းတွင် ချိတ်ဆွဲရန် စာတန်းများကို တီထွင်ရေးသားရန် မလိုပါ။

အခြားအခြားသော ဘာသာများမှ ဂါထာများကိုလည်း ယူငင်ချိတ်ဆွဲရန် မလိုပါ။ (ဉပမာ– ဥုံ မဏိပဒ္မေဟုံ)

အခြားအခြားသော ဘာသာတို့မှ စကားလုံးများနှင့် ဗုဒ္ဓ၏ ပါဝစနများကို ယှဉ်တွဲ သုံးစွဲရန် မသင့်လျော်ပါ။ (ဉပမာ– ဥုံ ဣတိပိ ပိဋကတ္တယံ၊ ဩောင်း– နမော၊ မေတ္တာနံ)

ဘုရားရှင်၏ ပိဋကတ်တော်လာ ဗုဒ္ဓပါဝစနများတွင် ယခုကဲ့သို့ ဖြည့်စွက်ခြင်း၊ နုတ်ပယ်ခြင်းများ ပြုလုပ်လျက် အဆောင်ဂါထာအဖြစ် ချိတ်ဆွဲခြင်းကား အကုသိုလ်မှုလော၊ ကုသိုလ်မှုလော။ လွဲမှားသော ဆရာသမားတို့၏ လမ်းညွှန်မှုကြောင့် ရိုးရိုးသားသား မှားယွင်းမိသူများအနေဖြင့် ပြင်ရန် အချိန် မနှောင်းသေးပါ။

တန္တရ၊ မန္တရ၊ ယန္တရဝါဒကို ကိုင်စွဲလျက်ရှိသော အဆိုးရှိသူ ပုဂ္ဂိုလ်တို့သည် ဘုရားရှင် ဟောကြားတော်မူသော ဗုဒ္ဓပါဝစနများကို စကားလုံးများ ပြောင်းလဲလျက် ဖြည့်စွက်ခြင်း၊ နုတ်ပယ်ခြင်းများ ပြုလျက် လောကီစီးပွား တိုးတက်ရေး အဆောင်ဂါထာအဖြစ် တီထွင်လျက်ရှိကြောင်း အထက်ပါ 'ဥုံ ဥစ္စာ စရဏ သမ္ပန္နော' စာတန်းအရ သတိပြုမိပါသည်။

အမျိုး ဘာသာ သာသနာကို စောင့်ရှောက်ထိန်းသိမ်းရမည်မှာ လူသား၏ မပြုမနေရသော မွေးရာပါ တာဝန်ကြီးတစ်ရပ် ဖြစ်ပါ၏။ ဗုဒ္ဓဘာသာဝင်တစ်ဦးအနေဖြင့် ဗုဒ္ဓဒေသနာတော်များကို အလိုဆိုးရှိသူတို့၏ လိုသလို နုတ်ပယ်ခြင်းပြုမှုတို့မှ ကာကွယ်ခြင်းသည် မြင့်မြတ်သော တာဝန်ကို ထမ်းဆောင်ခြင်းပင် ဖြစ်ပါသတည်း။

## အမျှတ္တရန်သူ

"တစ်ခါ တစ်ခါ စဉ်းစားကြည့်ရင် ကံတရားဟာ တစ်ကမ္ဘာလုံးမှာရှိတဲ့ လူတွေ တစ်ယောက်နဲ့တစ်ယောက် မတူအောင် စီမံထားတယ်။ တူတဲ့နေရာ တူပေမယ့် မတူတဲ့အရာတွေက အများကြီး ရှိတယ်။ ဒါကြောင့် ဘုရားရှင်က 'ကမ္မ သတ္တေ ဝိဘဇ္ဇတိ' လို့ ဟောတော်မူတာပဲ။ မိမိကိုယ်ကို မကောင်းအောင်လုပ်တာလည်း ဘယ်သူလဲ၊ မိမိအလုပ်ကိစ္စ မိမိကံကပဲ။ ဘေးရန် အန္တရာယ်တွေ ဖြစ်အောင် ဘယ်သူလုပ်သလဲ၊ မိမိကံက လုပ်တာပဲ။ ဥပမာ ဧရာဝတီမြစ်ကြီး ရှိတယ်။ ဒီမြစ်ကြီးက ကုန်းပေါ်နေတဲ့သူကို ရေနစ်အောင် မလုပ်နိုင်ပါဘူး။ မြစ်ထဲ ဆင်းတဲ့သူကိုသာ ရေနစ်စေနိုင်တယ်။ ဒီအတိုင်းပဲ ဘေးရန် အန္တရာယ် မရှိပေမယ့်လည်း အလုပ်ကောင်းလုပ်သူ၊ ကံကောင်းရှိသူ၊ ဘေးရန် အန္တရာယ် မဖြစ်နိုင်ပါဘူး။ ကံကောင်းမရှိသူသာ ဘေးရန် ဖြစ်နိုင်တယ်။ ဒါကြောင့် မကောင်းကျိုးကို ဖြစ်စေတတ်တဲ့ မိမိရဲ့ ကံညံ့ ကံယုတ်များကိုသာ ကြောက်စရာ လိုတယ်။ ဘေးရန် အန္တရာယ်တွေ ကြောက်စရာ မလိုပါဘူး။ ဂြိုဟ်ကြီးရှစ်လုံး ပူးပူး မပူးပူး ဇာတိ၊ ဇရာ၊ မရဏ စတဲ့ ဘေးရန်တွေ သတ္တဝါတိုင်း တွေ့နေကြရတယ်။ သံသရာကျင်လည်ခိုက်မှာ မကောင်းမှုကံ ပါလာလို့ ကပ်ကြီးသုံးပါး တွေ့ကြရ၊ သံသရာ ဒုက္ခ ခံကြရတယ်။ ဘေးရန်တွေက မိမိမှာ လာဖြစ်တာမဟုတ်ပါဘူး။ ကိုယ့်ရဲ့ မကောင်းတဲ့စိတ်ကြောင့် မကောင်းကျိုးတွေ ဖြစ်ရတာ။ အမှန်ကတော့ ကိုယ့်ရဲ့ စိတ်ပါပဲ"

ကျေးဇူးတော်ရှင် သက်တော်ရှည် အဘိဓဇမဟာရဋ္ဌဂုရု စံကင်းဆရာတော်ဘုရားကြီး၏ အထက်ပါ ဩဝါဒတော်ကို အလေးအနက် နှလုံးသွင်းဆင်ခြင်ရင်း ကျွန်တော်၏ စိတ်အစဉ်၌ ဘေးရန်အန္တရာယ်ကို ဖြစ်ပွားစေသော ရန်သူများကို သတိပြုမိလာပါသည်။

လူ့အဖွဲ့အစည်းအတွင်း ကျင်လည်နေထိုင်သောလူသည် မိမိ ထိတွေ့ဆက်ဆံရသူများနှင့် ပတ်သက်သော ချစ်ခြင်း၊ မုန်းခြင်းအပေါ် အကြောင်းပြုလျက် ချစ်သူရှိသလို မုန်းသူလည်း ရှိတတ်ပေသည်။ မိတ်ဆွေရှိသလို ရန်သူလည်း ရှိတတ်ပေသည်။ လူသားအချင်းချင်း လူမှုရေး၊ စီးပွားရေး၊ ပေါင်းသင်းဆက်ဆံရေး အဆင်မပြေ မချောမွေ့မှုမှ တင်းမာစွာပေါ်ပေါက်လာသော ရန်သူမှာ စင်စစ်သော် ပြင်ပဗဟိဒ္ဓရန်သူမျှသာ ဖြစ်ပါသည်။ လူများစုအနေဖြင့် ပြင်ပရန်သူကို သိလွယ် မြင်လွယ်သလို ရှောင်ရှားနိုင်အောင်လည်း အလေးမူ ဂရုပြုတတ်ပါ၏

ပြင်ပရန်သူ ဆိုရာတွင် လူပုဂ္ဂိုလ်ချင်း ထိတွေ့ဆက်ဆံရာမှ ထွက်ပေါ်လာသည့် အမုန်း၊ အမျက်တရားအပေါ် အခြေခံလျက် ဖြစ်တည်လာသော ရန်သူများရှိသကဲ့သို့ ခိုးသား၊ ဓားပြစသော ရာဇဝတ်မှုကို လက်မရွံ့သော ရန်သူများလည်း ရှိပါသည်။

မည်သည့် ပြင်ပရန်သူ ဖြစ်စေ၊ တရားဥပဒေ၏ စီမံကွပ်ကဲ ထိန်းကျောင်းမှု အောက်တွင် တည်ရှိနေသဖြင့်လည်းကောင်း၊ အစုအဝေးဖြင့် နေထိုင်ကြသည့် လူ့အသိုက်အဝန်းဖြစ်၍ လည်းကောင်း လွယ်လွယ်ကူကူ ဒုက္ခပေး၍မှု မရတတ်ပေ။ အခြေအနေ အချိန်အခါ ကာလဒေသပေးမှု အနေအထားပေါ်တွင် ပြင်ပရန်သူ လှုပ်ရှား၍ ရတတ်ပေသည်။ ထိုပြင်ပရန်သူက ဒုက္ခပေး၍ ရနိုင်သော အခြေအနေ၊ အခွင့်အခါအောက်တွင် မကျရောက်အောင်

စင်စစ်မူ ဗဟိဒ္ဓရန်သူထက် ကြောက်စရာကောင်းသော ရန်သူများရှိနေသည်ကို သတိမူမိကြသူ နည်းပါးနေသေးသည်ဟု ထင်မြင်ပါသည်။ ထိုရန်သူများက လူ၏ စိတ်တွင်းသို့ အချိန်နှင့်အမျှ အခွင့်အရေးရလျှင် ရသလို ဝင်ရောက်တတ်သော အတွင်း အဇ္ဈတ္တရန်သူများ ဖြစ်ပါသည်။ ထိုအတွင်းရန်သူသည် အပြင်ရန်သူထက် ပိုမို၍ ကြောက်မက်ဖွယ် ကောင်း၏။

ပြင်ပရန်သူက တစ်ဘဝတာ၌သာ ဒုက္ခပေးနိုင်စွမ်း ရှိသော်လည်း အတွင်းရန်သူကား သံသရာတစ်လျှောက်လုံး ဒုက္ခပေးနိုင်စွမ်းရှိ၏။ ပြင်ပရန်သူက သိလွယ်၊ မြင်လွယ်သော်လည်း အတွင်းရန်သူက သိလွယ် မြင်လွယ်မှု မရှိ။ ပြင်ပရန်သူက အချိန်နှင့်အမျှ ဒုက္ခပေး၍ မရနိုင်သော်လည်း အတွင်းရန်သူက အချိန်နှင့်အမျှ ဒုက္ခပေးနိုင်စွမ်းရှိ၏။ ပြင်ပရန်သူက အကောင်အထည် ရုပ်ဒြပ်ရှိသည်။ အသွင်သဏ္ဍာန် ကြမ်းတမ်းခက်ထန်သည်။ အတွင်းရန်သူက အကောင်အထည် ရုပ်ဒြပ်မရှိ။ အသွင်သဏ္ဍာန်သိမ်မွေ့သည်။ လျှို့ဝှက်သည်။ ပညာမျက်စိ မရှိလျှင် ရန်သူဟုပင် မထင်ရသော ဖွဲမီးလို တငွေ့ငွေ့ လောင်ကျွမ်းနေတတ်၏။ အချိန်မီ မငြိမ်းသတ်နိုင်လျှင် ဘဝတစ်ခုလုံး ပြာဖုံးအထိ ဖြစ်အောင် ဝါမျိုနိုင်စွမ်း ရှိချေ၏။

လူသားသည် နာမ်ဓာတ်၊ ရုပ်ဓာတ် အဆောက်အဦ ဖြစ်ပါသည်။ တစ်နည်းအားဖြင့် စိတ်နှင့် ရုပ်တို့ ဖွဲ့စည်းဖြစ်တည်ရာ ဖြစ်ပါ၏။ ထိုနှစ်မျိုးတွင် စိတ်က ရုပ်ကို ဦးဆောင်ပါသည်။ စိတ်က ရုပ်၏ အကြီးအမှူးဖြစ်ပါသည်။ အားကောင်းထက်သန်သော စိတ်သည် အပြုအမူတို့ကို မွေးဖွားစေပါ၏။ ကာယကံ၊ ဝစီကံတို့ကို ဖြစ်ထွန်းစေပါ၏။ အပြုအမူက ဘဝကို တည်ဆောက်ပါသည်။

လူသားတစ်ဦးချင်းစီ၏ ဘဝရုပ်တုကို ထုဆစ်သော ပန်းပုဆရာမှာ လူသား၏ ကံသုံးပါး အပြုအမူသာ ဖြစ်ပါ၏။ ကံသုံးပါးတွင်လည်း မနောကံသည် ကာယကံ၊ ဝစီကံတို့၏ ပဲ့ကိုင်ဖြစ်လေရာ မနောကံခံ ရိုးသားဖို့ ကြီးမြတ်ဖို့ သန့်စင်ဖို့ လှပဖို့ လိုပါသည်။ မနောကံ ဖြူစင်လှပကြီးမြတ်နေစေရန်မှာ စိတ်အတွင်းသို့ အညစ်အကြေး အရှုပ်အထွေးများကို သယ်ဆောင်လာမည့် အဇ္ဈတ္တရန်သူများ ဝင်ရောက်ခွင့်မပေးဖို့ လိုပါမည်။

စိတ်ဓာတ်ကို သိမ်နုပ်စေ၊ ညှိုးဖျင်းစေ၊ ညစ်ကြေးစေနိုင်သော အရာများထက် လူသားကို ဒုက္ခပေးနိုင်စွမ်းရှိသော ရန်သူဟူ၍ မရှိချေ။

ထေရဝါဒ ဗုဒ္ဓဘာသာဝင် ဖြစ်သောကြောင့် ကျွန်တော်တို့ အလွန်ကံကောင်းသည်ဟု ဆိုပါရစေ။ အတုမဲ့ လမ်းညွှန်ဆရာကြီး ဖြစ်တော်မူသော မဟာကရုဏာတော်ရှင် မြတ်ဗုဒ္ဓသည် ပုထုဇဉ်မျက်စိဖြင့် မြင်နိုင်စွမ်း မရှိသော အတွင်းရန်သူကြီး ၁၄ ဦးကို ထုတ်ဖော်ညွှန်ပြတော်မူခဲ့ပါ၏။ ယင်းအတွင်း ရန်သူကြီးများသည် လောက၌ ကြောက်မက်ဖွယ် အကောင်းဆုံး ရန်သူကြီးများလည်း ဖြစ်ပါ၏။ လူသား၏ အဇ္ဈတ္တ၌ ထိုရန်သူကြီးများကို အကြင်မျှလောက် စိုးမိုးလွှမ်းရားခွင့်ပေးပါအံ့။ အကြင်မျှပင် လူသား၏ ဘဝ၌ အဆိုးလောကခံ ဂယက်များ ဆူပွက်ပေလိမ့်မည်။ ထိုလူသား၏ အတွင်း အဇ္ဈတ္တရန်သူကြီးများကို ဗုဒ္ဓရှင်တော်မြတ်က အကုသိုလ် စေတသိက်ဟူ၍လည်းကောင်း၊ စိတ်ဓာတ်၏ မစင်ကြယ်မှုအင်္ဂါများဟူ၍ လည်းကောင်း အဘိဓမ္မာ ဒေသနာတော်တွင် ဟောကြားတော်မူခဲ့ပါ၏။

လူသားတို့၏ ကြောက်မက်ဖွယ်အကောင်းဆုံးရန်သူကြီး ၁၄ ဦးမှာ–

၁။လောဘ (သာယာတပ်မက်ခြင်း)၊ တဏှာဟုလည်းကောင်း၊ အဘိဇ္ဈာဟု လည်းကောင်း၊ ကာမဟု လည်းကောင်း၊ ရာဂဟုလည်းကောင်း ခေါ်၏။

၂။ဒေါသ (အမျက်ထွက်ခြင်း) ပဋိဃ ဟု လည်းကောင်း၊ ဗျာပါဒဟု လည်းကောင်း ခေါ်၏။

၃။မောဟ (တွေဝေခြင်း) အဝိဇ္ဇာ ဟုလည်းကောင်း၊ အညာဏဟု လည်းကောင်း၊ အဒဿနဟု လည်းကောင်း ခေါ်၏။

၄။ဒိဋ္ဌိ (အယူမှားခြင်း၊ အမြင်မှားခြင်း)

၅။မာန (အထင်လွဲမှားကာ ထောင်လွှားမြင့်မောက်ခြင်း)

၆။ဣဿာ (ငြူစူခြင်း) သူတစ်ပါး စီးပွားဥစ္စာရရှိသည်ကိုလည်းကောင်း၊ ရမည်ကိုသော်လည်းကောင်း အလိုမရှိ။ ရနေကြောင်း ကြားရလျှင် စိတ်ဆင်းရဲ ဖြစ်၏။ မုဒိတာနှင့် ဆန့်ကျင်ဘက်ဖြစ်၏။

၇။မစ္ဆရိယ (ဝန်တိုခြင်း၊ နှမြောခြင်း) စီးပွားဥစ္စာတို့ကို မိမိအတွက်သာ အလိုရှိ၏။ မိမိ ရမှရပါမည်လားဟု စိုးရိမ်ကာ စိတ်ပင်ပန်း၏။ သူတစ်ပါးကို ခွဲဝေခံစားလိုစိတ် မရှိ။ ဒါနနှင့် ဆန့်ကျင်ဘက်ဖြစ်၏။

၈။ကုက္ကုစ္စ (နောင်တဖြင့် တစ်ဖန် စိုးရိမ်ပူပန်ခြင်း)၊ မပြုခဲ့မိသော သုစရိုက်၊ ပြုခဲ့ပြီးသော ဒုစရိုက်တို့ကို ခွဲ၍ နောင်တစ်ဖန် စိုးရိမ်ခြင်း သဘော ဖြစ်၏။ အတိတ်ကာလနှင့်သာ သက်ဆိုင်သော စိတ်လှုပ်ရှားမှု ဖြစ်၏။

၉။အဟိရိက (အရှက်မဲ့ခြင်း) မည်သည့် မကောင်းမှု ဒုစရိုက်ကိုမဆို ပြုခွင့်ရသော် အရှက်မဲ့စွာ ပြုတတ်ခြင်း ဖြစ်၏။

၁၀။အနောတ္တပ္ပ (အကြောက်မရှိခြင်း)၊ မကောင်းမှုဒုစရိုက်ကို အကြောက်အလန့်မရှိဘဲ ပြုတတ်ခြင်း ဖြစ်၏။

၁၁။ဥဒ္ဓစ္စ (စိတ်မတည်ငြိမ်ခြင်း၊ စိတ်ပျံ့လွင့်ခြင်း)

၁၂။ထိန (စိတ်၏ ထိုင်းမှိုင်းခြင်း၊ အာရုံကို သိလိုရာ၌ မပွင့်မလင်း မှေးမှိန်ခြင်း)

၁၃။မိဒ္ဓ (အာရုံကို တွေ့မှု ခံစားမှု စသည်တို့၏ မပွင့်မလင်းမှေးမှိန်နေခြင်း၊ စေတသိက်တို့၏ မပွင့်မလင်း မှေးမှိန်နေခြင်း၊ စေတသိက်တို့၏ ထိုင်းမှိုင်းခြင်း)

၁၄။ဝိစိကိစ္ဆာ (နှစ်လုံးနှစ်ခွ ဒွိဟသဘောရှိခြင်း၊ ယုံကြည်ထိုက်သည်၌ မယုံကြည်ခြင်း)

ဤရန်သူကြီး ၁၄ ဦးသည် လူသား၏ အတွင်းအဇ္ဈတ္တ၌ အမြဲလှုပ်ရှားသောင်းကျန်း၍မှု မနေချေ။ အာရုံတစ်ခုခု၊ အဖြစ်အပျက် တစ်ခုခုနှင့် ပြင်းထန်စွာ ထိပ်တိုက်ရင်ဆိုင်သောအခါတွင်မှု ရုတ်ခြည်းအားကောင်း ကြီးထွားလာတတ်ချေ၏။ ထိုခဏတာကာလငယ်သည် ရံဖန်ရံခါတွင် လူသား၏ ဘဝတစ်လုံးကိုပင် အဆုံးအဖြတ် ပြုသွားနိုင်စွမ်းရှိ၏။

ပမာအားဖြင့် သည်းမခံနိုင်သော စော်ကားမှုနှင့် ပက်ပင်းတိုးသောအခါ လျှပ်တပြက် ပေါက်ကွဲထွက်လာသော ဒေါသကို ချိုးနှိမ်ပယ်သတ်ခြင်း မပြုနိုင်ပါက လူသတ်မှုအထိ ဖြစ်ပွားကာ ထိုသူ၏ ဘဝသည် ကစဥ့်ကလျား ပျက်ပြားသွားတတ်ခြင်းမျိုး ဖြစ်ပေသည်။

ဤရန်သူကြီး ၁၄ ဦးသည် စိတ်အတွင်းသို့ ဝင်ရောက်ပုံ နည်းလမ်းချင်း တူသည်တို့လည်း ရှိ၏။ မတူသည်တို့လည်း ရှိ၏။ ကြမ်းကြမ်းတမ်းတမ်း ဝင်ရောက်တတ်သော ရန်သူရှိသလို သိမ်မွေ့ညင်သာစွာ ဝင်ရောက်တတ်သော ရန်သူတို့လည်း ရှိပါ၏။ ရံဖန်ရံခါတွင် ကြမ်းတမ်းစွာ ဝင်ရောက်တတ်သော အတွင်းရန်သူကို သတိမူမိသော်လည်း ညင်သာနူးညံ့စွာ ဝင်ရောက်လာတတ်သော အတွင်းရန်သူကိုမူ အမှတ်မထင် ဖြစ်မိသွားတတ်သည်။

ဤအတွင်းရန်သူများကို စိတ်အတွင်း၌ လက်ခံထားရှိနေလျှင် ဆိုးကျိုးအထွေထွေကို ဖိတ်ခေါ်နေခြင်းပင် ဖြစ်၏။ အဇ္ဈတ္တ ရန်သူက ပေးအပ်သော ဆိုးကျိုးရလဒ် ဟူသမျှ ဘယ်တန်ခိုးရှင်၊ ဖန်တီးရှင်၊ ဘိုးတော်၊ နတ်ကတော်တို့ကမှ ဖြေပျောက်အောင် ပြု၍ မရစွမ်းနိုင်။ အဘယ်မည်သော မန္တန်၊ ဂါထာ၊ လက်ဖွဲ့၊ အင်း၊ သိဒ္ဓိဆိုင်ရာ အစီအမံတို့သည်လည်း ဖယ်ရှားတားဆီး၍ မရနိုင်။ ဤသည်မှာ တရားမျှတသော ကမ္မနိယာမ (သို့မဟုတ်) ကမ္မဖလလည်း ဖြစ်ပါ၏။

အဆိုးလောကခံ၏ မူလဘူတရင်းမြစ် အစစ်အမှန်သည် မိမိ၏ စိတ်ထဲသို့ မကောင်းသော စေတသိက်တို့ ဝင်ရောက်ခွင့်ပေးခြင်း ဖြစ်၏။

အဆိုးတရားများ၊ အယုတ်တရားများ၊ မကောင်းမှုများ၏ ပင်မရေစီးသည် စိတ်ဓာတ်၏ မစင်ကြယ်မှု အင်္ဂါများပင် ဖြစ်ပါ၏။

အနန္တကျေးဇူးတော်ရှင် မြတ်ဗုဒ္ဓသည် လူသားတို့အား မည်းမှောင်ယုတ်ညံ့သော ဘဝထဲသို့ သယ်ယူခေါ်ဆောင်နိုင်မည့် အတွင်းရန်သူကြီးများကို ထုတ်ဖော်ညွှန်ပြခဲ့ပြီးဖြစ်ပါ၏။

ထိုရန်သူများ၏ ဘေးအန္တရာယ်မှ ကာကွယ်နိုင်မည့် စစ်မှန်ကောင်းမွန်သော နည်းလမ်းများကိုလည်း ပြည့်ပြည့်စုံစုံ လုံလုံလောက်လောက် ဟောကြားတော်မူခဲ့ပြီး ဖြစ်ပါ၏။

ထိုနည်းလမ်းကောင်းများအတိုင်း လက်တွေ့ကျင့်ကြံ လိုက်နာဖြင်းအားဖြင့် အဇ္ဈတ္တရန်သူကို နှိမ်နင်းအောင်မြင်ပြီး ငြိမ်းအေးဒပြေလွင်သော ဘဝလမ်းကြောင်းပေါ်သို့ လျှောက်လှမ်းနိုင်ပါသည်။

"ကိုယ့်ရဲ့ မကောင်းတဲ့ စိတ်ကြောင့် မကောင်းကျိုးတွေ ဖြစ်ကြရတာ" ဟူသော ကျေးဇူးတော်ရှင် စံကင်းဆရာတော်ဘုရားကြီး၏ သြဝါဒတော်ကို နှလုံးအိမ်တွင် စိမ့်ထုံရင်း မကောင်းသော စေတသိက်များကို အတွင်းအဇ္ဈတ္တဝယ် ကြီးစိုးလွှမ်းမိုးခွင့် မပေးမိရန် သတိသမ္ပဇဉ်ဖြင့် စောင့်ကြည့်ထိန်းချုပ်အပ်ပါသတည်း။

## အကျိုးမရှိသော အစွဲအလမ်းများ

သြစတြေးလျ နိုင်ငံသား ဗုဒ္ဓဘာသာ ဘုန်းတော်ကြီး Ven. Shravasti Dhammika ၏ Good Question Good Answer စာအုပ်ကို ချမ်းမြေ့ရိပ်သာ ဆရာတော်ဘုရားက မြန်မာပြန်ဆိုထားသော စာအုပ်ပေါ်ထွက်ခဲ့ပါသည်။

စာအုပ်အမည်မှာ 'နိုင်ငံခြားသား ဘုန်းတော်ကြီး တစ်ပါး၏ ဗုဒ္ဓဘာသာအမြင် (အမေးအဖြေများ)' ဟူ၍ ဖြစ်ပါ၏။

ထိုစာအုပ်၏ အခန်း(၈) ကံနှင့်ကြမ္မာ ဟူသော ခေါင်းစဉ်အောက်ပါ အမေးအဖြေများကို ဖတ်ရသောအခါ မူရင်း စာအုပ်ရေးသူ အရှင်ဓမ္မိက၏ မှော်ပညာ၊ ဗေဒင်ပညာ၊ လက္ခဏာဖတ်ခြင်း၊ နိမိတ်ဖတ်ခြင်း၊ အိပ်မက်ဟောခြင်း၊ အင်းချခြင်း၊ မန္တန် မန်းမှုတ်ခြင်း၊ နေ့ကောင်း ရက်သာ ရွေးချယ်ခြင်း၊ အဆောင်လက်ဖွဲ့ ပြုလုပ်ထားရှိခြင်း စသည်တို့အပေါ် ထေရဝါဒရှုထောင့်မှ တည့်မတ်ပြတ်သားသော သဘောထား ရပ်တည်ချက်ကို ကြည်ညိုဖွယ် တွေ့မြင်ရပါသည်။

ဗုဒ္ဓမြတ်စွာကိုယ်တိုင်က 'တိရစ္ဆာနဝိဇ္ဇာ' = နတ်ပြည်နိဗ္ဗာန်လမ်း၏ ဗီလာဖြစ်သောအတတ် ဟု ဟောတော်မူခဲ့သော အထက်ပါ လောကီပညာရပ်များအပေါ်၌ အရိုးစွဲ အသည်းခိုက်မျှ ယုံကြည်သက်ဝင်မှု ပြုနေသူများ အဖို့ သတိထင်ထင် ဆင်ခြင်မှု ကြီးမားစွာ ပြုစေလိုသော သမ္မာဆန္ဒဖြင့် အရှင်ဓမ္မိက၏ ရေးသားချက်များကို လက်ဆင့်ကမ်းခြင်း၊ ကျွန်တော်သဘောပေါက်သည့် အချက်တို့ကို ဖြည့်စွက်တင်ပြခြင်းများ ပြုလိုက်ပါသည်။

### ဗေဒင်ပညာ၊ မှော်ပညာ

မေး။ ။မှော်ပညာ၊ ဗေဒင်ပညာနှင့် ပတ်သက်လို့ ဗုဒ္ဓက ဘယ်လို သင်ကြားပါသလဲ။

ဖြေ။ ။ဗုဒ္ဓမြတ်စွာက ဗေဒင်ဟောတာ၊ လက်ဖွဲ့ဆောင်တာ၊ အဆောက်အအုံအတွက် လာဘ်ကောင်းတဲ့နေရာရွေးတာ၊ ရှေ့ဖြစ်ဟောတာ၊ နေ့ကောင်းရက်သာရွေးတာလို အလုပ်မျိုးကို အကျိုးမရှိတဲ့ အစွဲအလမ်းတွေလို့ မှတ်ယူပါတယ်။ ဗုဒ္ဓမြတ်စွာဟာ ကိုယ်တော်မြတ်ရဲ့ တပည့်သာဝကတွေကို ဒီလိုဟာတွေမလုပ်ဖို့ တားမြစ်တော်မူပါတယ်။ဒါတွေအားလုံးကို ယုတ်နိမ့်သော အတတ်ပညာတွေလို့ ဗုဒ္ဓမြတ်စွာက နာမည်တပ်ပါတယ်။ တချို့ဘာသာဝင် ပုဂ္ဂိုလ်များဟာ ယုံကြည်သူတို့ လှူဒါန်းထောက်ပံ့သော အစားအသောက်တို့ကို စားသောက်ရင်း လက္ခဏာဖတ်ခြင်း၊ နိမိတ်ဖတ်ခြင်း၊ အိပ်မက်ဟောခြင်း၊ ကံကောင်း ကံဆိုးရွေးခြင်း၊ လာဘ်နတ်သမီးကို ပသခြင်း အဆောက်အအုံအတွက် လာဘ်ကောင်းသည့်နေရာတို့ကို ရွေးချယ်ခြင်းကဲ့သို့သော မှားယွင်းသောနည်းဖြင့် အသက်မွေးခြင်းကို ပြုကြ၏။ ရဟန်းဂေါတမသည်ကား ဤကဲ့သို့သော ယုတ်နိမ့်သော အတတ်ပညာနှင့် မှားယွင်းသော အသက်မွေးမှုမှ ရှောင်ကြဉ်၏

(ဒီ- ၁။ ၉- ၂၁)

## အကျိုးမရှိသော အစွဲအလမ်းနှင့် ယုတ်နိမ့်သော အတတ်ပညာ

အရှင်ဓမ္မိက၏ အထက်ပါ ရေးသားချက်၌ ကျွန်တော် အထူးဂရုပြုမိသော စကားလုံးများမှာ 'အကျိုးမရှိသော အစွဲအလမ်း' နှင့် 'ယုတ်နိမ့်သော အတတ်ပညာ' ဟူသော စကားလုံးများဖြစ်ပါသည်။

အဘယ်ကြောင့် အကျိုးမရှိသော အစွဲအလမ်းဟု သုံးနှုန်းရသနည်း။ ကျွန်တော် သဘောပေါက်မိသမျှ အတိုချုပ်ရသော် ယင်းအစွဲအလမ်းများသည် စိတ်ဖြူစင်စေနိုင်သော၊ ကုသိုလ်တရား ဖြစ်ပွားစေနိုင်သော အစွဲအလမ်းများ မဟုတ်သောကြောင့် ဖြစ်ပါသည်။

အဘယ်ကြောင့် ယုတ်နိမ့်သော အတတ်ပညာဟု သုံးနှုန်းရသနည်း။ ကုသိုလ်ကောင်းမှု မဟုတ်သော၊ ကံ–ကံ၏အကျိုးကို မယုံကြည်သော၊ နတ်ပြည် နိဗ္ဗာန်လမ်းနှင့် ဗီလာဖြစ်သော အတတ်ပညာဖြစ်သောကြောင့်တည်း။ ယင်း ယုတ်နိမ့်သော အတတ်ပညာများဖြင့် အသက်မွေါသူများမှာလည်း သာသနာ့သမိုင်းစဉ်တစ်လျှောက် ဆန့်ကျင်ဘက် မိစ္ဆာဒိဋ္ဌိများ၊ အရည်းကြီးများ ဖြစ်ပါသည်။

ဘာသာခြား ပုဂ္ဂိုလ်များအနေဖြင့် ယင်းအကျိုးမရှိသော အစွဲအလမ်းများ၌ နစ်မြုပ်နေသည်ကို မည်သို့မျှ မဝေဖန်လိုပါ။ သာသနာပြင်ပ ပုဂ္ဂိုလ်များအနေဖြင့် ယင်းယုတ်ညံ့သော အတတ်ပညာဖြင့် အသက်မွေးနေသည်ကိုလည်း မည်သို့မျှ မစေ့င မစောကြောလိုပါ။

သို့တစေ...

မြတ်ဗုဒ္ဓ၏ အဆုံးအမကို ခံယူသည်ဆိုသော ဗုဒ္ဓဘာသာဝင်များအနေဖြင့် ယင်းအကျိုးမရှိသော အစွဲအလမ်းများ၌ ပျော်မွေ့နေလျှင်၊ ယုတ်နိမ့်သော အတတ်ပညာဖြင့် အသက်မွေးနေလျှင် အထက်တန်းကျသော ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် မဟုတ်တော့ကြောင်းကိုမူ သာသနာစိတ် ထက်သန်သူများက ဝေဖန်ထောက်ပြရပေလိမ့်မည်။ အစဉ်အလာ အစွဲမှား၊ အယူမှားများကို ထေရဝါဒ မှတ်ကျောက်ဖြင့် စိစစ်ပယ်ဖျက်ရပေလိမ့်မည်။

## လောဘ ဒေါသ မောဟတွေကြောင့်

မေး။ ။ ဒီလိုဆိုရင် တစ်ခါတစ်ရံမှာ လူတွေဟာ ဘာကြောင့် ဒီအလုပ်မျိုးတွေကို လုပ်ကြသလဲ။ ဘာကြောင့် ဒါတွေကို ယုံကြည်ကြသလဲ။

ဖြေ။ ။ လောဘ၊ ဒေါသ၊ မောဟတွေကြောင့်ပါ။ လူတွေဟာ မြတ်စွာဘုရားရဲ့ တရားတော်ကို နားလည်သဘောပေါက်ကြတာနဲ့ တစ်ပြိုင်နက် (အင်းချထားတဲ့) စက္ကူစလေးများထက် သတ္တုပြားစလေးများထက် ရွတ်ဆိုမန်းမှုတ်ထားတဲ့ စကားလုံး အနည်းငယ်ထက် ဖြူစင်တဲ့ စိတ်နှလုံးက သူတို့ကို ပိုပြီး အကာအကွယ် ပေးနိုင်ကြောင်း သေသေချာချာ သိလာကြတဲ့အခါမှာ အဲဒီလိုဟာတွေကို သူတို့ အားမကိုးကြတော့ပါဘူး။ ဗုဒ္ဓတရားတော်အရ ရိုးသားဖြောင့်မတ်ခြင်း၊ သနားကြင်နာခြင်း၊ သိနားလည်ခြင်း၊ သည်းခံခြင်း၊ အခွင့်လွှတ်ခြင်း၊ ရက်ရောခြင်း၊ သစ္စာရှိခြင်းနှင့် တခြားကောင်းတဲ့ အရည်အသွေးတွေက သင့်ကို ကာကွယ် စောင့်ရှောက်ပါတယ်။ ကြီးပွားတိုးတက်စေပါတယ်။

အထက်ပါစာပိုဒ်မှ လောဘ၊ ဒေါသ၊ မောဟတွေကြောင့်ပါ ဟူသော စကားလုံးကို များစွာ သဘောကျပါသည်။ အကျိုးမရှိသော အစွဲအလမ်းများ၌ နက်နက်နဲနဲ စွဲစွဲမြဲမြဲ ယုံကြည်သက်ဝင်သူများသည်–

၁။ ရှာဖွေရရှိသမျှနှင့် တင်းတိမ်ရောင့်ရဲခြင်း မရှိသူများ

၂။ နယ်နိမိတ်မဲ့လောဘ၏စေရာကို အထိန်းအကွပ်မဲ့ လိုက်နေသူများ၊ ထေရဝါဒဗုဒ္ဓစာပေများနှင့် အလှမ်းဝေးသူများ၊

၃။ ဂန္ထဓူရ၊ ဝိပဿနာဓူရကို ဆောင်တော်မူသော ဆရာတော်အရှင်မြတ်ကြီးများထံ ဆည်းကပ်ကိုးကွယ်မှု၊ အဆုံးအမ ခံယူမှု အားနည်းသူများ

၄။ ကြုံလေသမျှ လောကဓံအပေါ်တွင် ဝေဖန်စိစစ်ဉာဏ်ဖြင့် အကြောင်းရင်းကို ဆင်ခြင်သုံးသပ်မှု မပြုနိုင်သူများ

၅။ လူသားဂုဏ်ရည်၊ လူသား၏ တန်ဖိုးကို အမှန်အမြတ် မပြုတတ်သူများ

၆။ ပြောတိုင်းယုံ၊ ကြုံတိုင်းလိုက်၊ ခိုင်းတိုင်းလုပ်တတ်သည့် ရောရိရောရာ ယောင်ချာချာ ပုဂ္ဂိုလ်များ၊

ပညာ ဗုဒ္ဓဘာသာဝင် မဟုတ်သူများဖြစ်ကြောင်း သေသေချာချာ လေ့လာကြည့်လျှင် သိမြင် သဘောပေါက်လာပါလိမ့်မည်။

မေး။ ။ ဒါပေမယ့် တချို့ အဆောင်တွေ၊ လက်ဖွဲ့တွေကတော့ စွမ်းတယ် မဟုတ်လား

ဖြေ။ ။ လက်ဖွဲ့တွေ အဆောင်တွေ ရောင်းပြီး အသက်မွေးတဲ့ လူတစ်ယောက်ကို ကျွန်ုပ် သိဖူးပါတယ်။ သူ့အဆောင်တွေက လာဘ်ကောင်းစေတယ်။ ကြီးပွားစေတယ်လို့ သူက ကြေညာပါတယ်။ ထီနံပါတ်သုံးခု ထိုးရလိမ့်မယ်လို့လည်း ဝန်ခံပါတယ်။ သို့သော်လည်း သူပြောတဲ့အတိုင်းသာ မှန်ရင် ဘာကြောင့် သူက သန်းကြွယ်သူဌေး မဖြစ်သလဲ။ ဘာကြောင့် သူဟာ ထီဖွင့်တဲ့ အပတ်တိုင်း ထီမပေါက်သလဲ။ သူကံကောင်းတာ တစ်ခုတော့ ရှိပါတယ်။ အဲဒါကတော့ သူ့ရဲ့အဆောင်တွေ၊ လက်ဖွဲ့တွေကို ဝယ်ကြသည်အထိ အ, တဲ့သူတွေ ရှိနေသေးတဲ့ အချက်ပါပဲ။

အရှင်ဓမ္မိက၏ အထက်ပါ ရေးသားချက်ကို ဖတ်ပြီးဖြည့်စွက်ပြောချင်သည်တို့ ရှိလာပါသည်။ သူတစ်ပါးကို ကံကောင်းစေအောင် ဖန်တီးပေးနိုင်သည်ဟု ညာစားနေသူများကိုယ်တိုင် မိမိ၏ အနာဂတ်ကို ကြိုမသိ၍ စီးပွားပျက်ခြင်း၊ ထောင်ကျခြင်း၊ နာမည်ပျက်ခြင်း၊ ဘဝပျက်ခြင်းများနှင့် ကြုံတွေ့ခြင်းများကို လေ့လာကြည့်လျှင် သိနိုင်ပါမည်။ (သက်သေပြစရာရှိသော်လည်း ပုဂ္ဂိုလ်ရေး ကိစ္စဖြစ်နေ၍ မရေးလိုပါ။)

အဆောင်တွေ လက်ဖွဲ့တွေကို ဝယ်ယူကြသည်အထိ အ, သော လူများထဲတွင် ထေရဝါဒစာပေများကို လေ့လာသူများ၊ ဝိဘဇ္ဇဉာဏ်ရှင်သန်သူများ၊ အလိုလောဘ မကြီးမားသူများ၊ ချမ်းသာသူများကို အထင်မကြီးသူများ မပါဝင်ပါ။ အဆောင်လက်ဖွဲ့ရောင်းစားသူတို့၏ အလိမ်ခံသားကောင်များ မဖြစ်လိုလျှင် ထေရဝါဒ ဗုဒ္ဓစာပေများကို လေ့လာကြဖို့ လိုပါသည်။

## အကြောင်းမဲ့ အကျိုးဟူ၍ မရှိပါ

မေး။ ။ ဒါဖြင့် အကြောင်းမရှိဘဲ အလိုအလျောက် ဖြစ်ပေါ်လာတဲ့ အခြေအနေကောင်း၊ အခွင့်ကောင်း Luck ဆိုတာမျိုး ရှိပါသလား

ဖြေ။ ။ အဘိဓာန်က Luck ကို တစ်စုံတစ်ယောက်၌ ဖြစ်ပျက်သော အကောင်းအဆိုး မှန်သမျှသည် အခွင့်ကောင်းသောကြောင့် ကြမ္မာဆိုးသောကြောင့် ကံကောင်းသောကြောင့် ဖြစ်သည်ဟု ယုံကြည်ခြင်းလို့ ဆိုပြထားပါတယ်။ ဗုဒ္ဓမြတ်စွာက ဒီလို ယုံကြည်မှုမျိုးကို လုံးဝ ငြင်းပယ်ပါတယ်။ ဖြစ်ပျက်သမျှ အရာတိုင်းမှာ ကြောင်းကျိုးဆက်သွယ်မှု ရှိပါတယ်။

ဉပမာ ဆိုကြပါစို့။ မကျန်းမမာ ဖြစ်တယ်ဆိုရင် သူ့ရဲ့ သက်ဆိုင်ရာ အကြောင်းတွေ ရှိပါတယ်။ ရောဂါပိုးနှင့် ထိတွေ့မိလို့ ဖြစ်စေ၊ ခန္ဓာကိုယ်က ရောဂါပိုးဝင်နိုင်လောက်အောင် အားနည်းနေလို့ ဖြစ်စေ၊ မကျန်းမမာ ဖြစ်တာပါပဲ။ ရောဂါပိုးရယ်၊ ခန္ဓာကိုယ် အားနည်းခြင်းရယ်ဆိုတဲ့ အကြောင်းနှင့် မကျန်းမာခြင်းဆိုတဲ့ အကျိုးဟာ အချင်းချင်း တိကျစွာ ဆက်စပ်နေပါတယ်။ ဘယ်လိုလဲဆိုတော့ ရောဂါပိုးဟာ ခန္ဓာကိုယ်မှာ ရှိတဲ့ သက်ရှိ အဖွဲ့အစည်းကို တိုက်ခိုက်လို့ မကျန်းမာခြင်း ဖြစ်တာပါ။

သို့သော်လည်း အင်းချထားတဲ့ စာရွက်ကို ဆောင်ထားခြင်းအားဖြင့် ပစ္စည်းချမ်းသာခြင်း၊ စာမေးပွဲအောင်ခြင်းတို့ကြားမှာ ဘာဆက်စပ်မှုမှ မတွေ့နိုင်ပါဘူး။

ဗုဒ္ဓဘာသာက "ဖြစ်ပျက်တဲ့ အရာတိုင်းဟာ အကြောင်းတစ်ခုကြောင့် သို့မဟုတ် အကြောင်းများစွာကြောင့် ဖြစ်ပျက်တယ်" လို့ သင်ကြားပေးပါတယ်။ ကံကောင်းလို့၊ အခွင့်ကောင်းလို့၊ ကြမ္မာဆိုးလို့၊ ဖြစ်ပျက်တယ်လို့ သင်ကြားမပေးပါဘူး။

အလိုအလျောက် ဖြစ်ပေါ်လာတဲ့ အခြေအနေကောင်းဆိုတဲ့ ကံကို စိတ်ဝင်စားသူများဟာ အမြဲတစေ တစ်စုံတစ်ရာ ရဖို့ပဲ ကြိုးစားနေကြပါတယ်။ ငွေရဖို့၊ စည်းစိမ်ဥစ္စာရဖို့ ကြိုးစားကြမြဲပါ။ မြတ်စွာဘုရားက စည်းစိမ်ဥစ္စာရဖို့ထက် စိတ်ထားနှလုံးသား ရင့်ကျက်တိုးပွားအောင် ကြိုးစားကြဖို့က ပိုအရေးကြီးကြောင်း မိန့်ကြားတော်မူပါတယ်။

ထေရဝါဒ ဗုဒ္ဓစာပေများကို ဖတ်ရှုသူတိုင်းက 'အကြောင်းမဲ့ အကျိုးတရား' ဟူသည်ကို လက်မခံပါ။ အကျင့်ကြောင့် အကြောင်းဖြစ်၊ အကြောင်းကြောင့် အကျိုးဖြစ်ထွန်းလာခြင်းပါ။

အကျင့်မကောင်းလျှင် အကြောင်းမကောင်း

အကြောင်းမကောင်းလျှင် အကျိုးပေးမကောင်း

အကျင့်ကောင်းလျှင် အကြောင်းကောင်း

အကြောင်းကောင်းလျှင် အကျိုးပေးကောင်း။

အကျင့်ကောင်းကို မရင်းနှီးဘဲ အကျိုးပေးကောင်းမရနိုင်။ ထိုက်တန်သော အားထုတ်ကြိုးပမ်းမှု မပြုသော ကျောင်းသားအား ဘယ်အင်း၊ ဘယ်လက်ဖွဲ့ကမှ စာမေးပွဲ အောင်အောင် ဖန်တီးပေးနိုင်မည် မဟုတ်ပါ။

ပစ္စုပ္ပန်အားထုတ်မှု ညံ့ဖျင်းနေသည့်တိုင် အကျိုးပေးကောင်းနှင့် တွေ့ကြုံရသူတို့မှာ အတိတ်ကံကောင်းခဲ့သောကြောင့် ဖြစ်ပါသည်။ ပစ္စုပ္ပန်အားထုတ်မှု ကောင်းသည့်တိုင် အကျိုးပေး မကောင်းသူတို့မှာ အတိတ်ကံဆိုးက လွှမ်းမိုးသောအချိန်နှင့် ကြုံကြိုက်ခိုက် ဖြစ်၍သော်လည်းကောင်း၊ ပစ္စုပ္ပန်အားထုတ်မှု၏ ရလဒ်များ သီးပွင့်ရန် အချိန်မတန်သေး၍သော် လည်းကောင်း ဖြစ်ပါလိမ့်မည်။

အကောင်းအဆိုး လောကခံဟူသမျှ လူသားတို့၏ ကံသုံးပါး အပြုအမူတည်းဟူသော အကြောင်းရင်းခံပေါ်တွင် တည်မှီပါသည်။ ဤသည်မှာ ကံ၊ ကံ၏အကျိုး ဖြစ်ပါသည်။ ကံ–ကံ၏အကျိုးကို ယုံကြည်ခြင်းသည် ဗုဒ္ဓဘာသာဝင် စစ်စစ်တို့၏ အခြေခံလိုအပ်ချက် ဖြစ်ပါသည်။

ထေရဝါဒ ဗုဒ္ဓသာသနာတော်မြတ် ထွန်းလင်းတောက်ပရာ မြန်မာ့ရေမြေ တောတောင်တွင် ကမ္မဿကတာ သမ္မာဒိဋ္ဌိအတွက် မှိုင်းဖြစ်နေသော အကျိုးမရှိသော အစွဲအလမ်းများ ရှင်သန်အားကောင်းခြင်း မရှိရန် သာသနာစိတ်ရှိသူတိုင်းက အစဉ်တစိုက် ပညာပေး ဟောပြော ဆွေးနွေးရေးသားမှုများပြုရန် လိုအပ်လှပါသတည်း။

## ပညာစေတနာ ပဓာနပါ

"သက်သတ်လွတ် စားသူဟာ ဒေဝဒတ်ဂိုဏ်းသားတွေ၊ မိစ္ဆာဒိဋ္ဌိတွေလို့ တချို့ ပြောကြတယ်။ သက်သတ်လွတ် စားရုံနဲ့ ဒေဝဒတ်ဂိုဏ်းသား ဖြစ်ရော့လား။ မိစ္ဆာဒိဋ္ဌိ ဖြစ်ရော့လား"

ရင်းနှီးသော မိတ်ဆွေတစ်ဦးက ဆွေးနွေးလာခြင်း ဖြစ်ပါသည်။ ထိုမိတ်ဆွေမှာ ဝါတွင်းကာလပတ်လုံး သက်သတ်လွတ် စားခြင်း ဖြစ်ပါသည်။ သက်သက်လွတ် စားသည်ဆိုရာ၌လည်း စားကောင်းအောင် ဖွယ်ဖွယ်ရာရာ စီမံချက်ပြုတ်၍ စားသောက်လေ့ မရှိပါ။ လက်ဖက်သုပ်တစ်ပွဲ၊ ဗယာကြော်နှစ်ခုဖြင့်လည်း မျှတ တင်းတိမ်နိုင်သူ ဖြစ်ပါသည်။ သူသည် မည်သည့် ဂိုဏ်းဝင် ပုဂ္ဂိုလ်မှလည်း မဟုတ်ပါ။ မည်သည့် ဘိုးတော်ကိုမှလည်း မကိုးကွယ်ပါ။ နတ်ကိုးကွယ်မှုကိုလည်း ယုံကြည်သူ မဟုတ်ပါ။ ထေရဝါဒ ဗုဒ္ဓစာပေနှင့် အတန်အသင့် ရင်းနှီးသူဖြစ်ပါ၏။

"သက်သတ်လွတ်စားရုံနဲ့ ဒေဝဒတ်ဂိုဏ်းသား မဖြစ်ပါဘူးဗျာ။ ဘုရားရှင်ကို ပြစ်မှားတဲ့စိတ်၊ သံဃာကို သင်းခွဲတဲ့စိတ်တွေ မရှိသမျှ ဒေဝဒတ်ဂိုဏ်းသား ဖြစ်စရာ မလိုပါဘူး။ ပြီးတော့ သက်သတ်လွတ် စားသူတွေဟာ ဒေဝဒတ်က ဘုရားရှင်ကို အလိုဆိုးနဲ့ တောင်းဆိုတဲ့ သက်သတ်လွတ်စားသောအကျင့်ကို ဒေဝဒတ်ကို ထောက်ခံတဲ့အနေနဲ့ စားနေကြတာလား။ အဲဒီလို စေတနာဆိုးနဲ့ သက်သတ်လွတ် စားတာမျိုး ဆိုရင်တော့ ဒေဝဒတ်ဂိုဏ်းသား ဖြစ်မှာပေါ့ဗျာ"

"အဲဒါ ပြောတာပေါ့ဗျာ။ ဗုဒ္ဓဘာသာဝင်ဖြစ်တဲ့ ကျွန်တော်တို့က ဘယ်လိုလုပ်ပြီး ဒေဝဒတ်ကို ထောက်ခံတဲ့ ဒေဝဒတ်ဂိုဏ်းသား ဖြစ်ရမှာလဲ"

"မှန်တာပေါ့ဗျာ။ သက်သတ်လွတ် စားရုံနဲ့တော့ ဒေဝဒတ်ဂိုဏ်းသားလည်း မဖြစ်ပါဘူး။ တစ်ခုတော့ ရှိတာပေါ့ဗျာ။ သက်သတ်လွတ်ဘုဉ်းပေးတဲ့ သံဃာတော်မှ သံဃာစစ် သံဃာမှန်လို့ အစွန်းရောက် ယုံကြည်ရင်တော့ အဲဒီသူဟာ ဒေဝဒတ်ဂိုဏ်းသား ဖြစ်မှာပဲ။ ဒီလိုပဲ သက်သတ်လွတ် စားတာဟာ သာသနာတော်အကျင့်၊ အကျင့်ကောင်း၊ အကျင့်မြတ်၊ တကယ့် မေတ္တာဝါဒီတွေ၊ သူတော်စင်တွေဆိုလျှင် သက်သတ်လွတ် စားရမယ်ဆိုပြီး ခံယူလျှင် ခံယူတဲ့အတိုင်း ပြောဆိုစည်းရုံးလျှင်တော့ အဲဒီသူဟာ မိစ္ဆာဒိဋ္ဌိ ဖြစ်မှာပဲ။ ဝိပဿနာသမားမှန်ရင် သက်သတ်လွတ် စားရမယ်။ သက်သတ်လွတ် မစားရင် ဝိပဿနာသမားစစ်စစ် မဟုတ်ဘူးလို့ ယူဆရင်လည်း မိစ္ဆာဒိဋ္ဌိပဲ။ ဘုရားရှင် ရေလက်ထက်တော်က ကျွတ်တမ်းဝင်ကြတဲ့ ပုဂ္ဂိုလ်တွေဟာ သက်သတ်လွတ်စားပြီး ကျွတ်တမ်းဝင်ကြတာလား။ အဲဒါကိုတော့ အလေးအနက်ထား စဉ်းစားဖို့ လိုပါတယ်"

"သက်သတ်လွတ် စားတာဟာ ဘုရားရှင် အလိုတော်ကျ မဟုတ်ဘူးလား။ ဓမ္မရုပ်စုံ မဂ္ဂဇင်းမှာပါတဲ့ ဆောင်းပါးတစ်စောင်မှာတော့ သက်သတ်လွတ် စားတာဟာ ဗုဒ္ဓအလိုတော်ကျလို့ ရေးထားပါလား"

"အဲဒီဆောင်းပါးကို ကျွန်တော်ဖတ်ပြီးတော့ အေးအေးဆေးဆေး တွေးတွေးဆဆ စဉ်းစားကြည့်ဖူးတယ်။ ဘုရားရှင်ထံ ဖူးမြော်ပြီး 'တပည့်တော် သက်သတ်လွတ် စားပါတယ်ဘုရား၊ အရှင်ဘုရား ခွင့်ပြုပါသလား' လို့ မေးလျှောက်ရင် ဘုရားရှင်က သက်သတ်လွတ် မစားနဲ့လို့တော့ တားမြစ်မှာ မဟုတ်ပါဘူး။ တစ်စုံတစ်ခုသော

အတိုင်းအတာအထိ တားမြစ်စရာလိုတဲ့ ကိစ္စ မဟုတ်တဲ့အတွက် ဘုရားရှင်ကလည်း တားမြစ်တော်မူမှာ မဟုတ်ပါဘူး။ ဒါပေမယ့် သက်သတ်လွတ်စားတာကို ကိလေသာ စင်ကြယ်ကြောင်း၊ နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်းအဖြစ် သတ်မှတ် လက်ခံတာမျိုးကျတော့ မှားယွင်းတဲ့ အယူအဖြစ် ဘုရားရှင်က ပြတ်ပြတ်သားသား ဟောကြားတော်မူခဲ့တယ်။ ဒီတော့ ဗုဒ္ဓအလိုတော်ကျ ဆိုတဲ့ စကားလုံးကို ဆောင်းပါးရှင်အနေနဲ့ ဘယ်အတိုင်းအတာအထိ နားလည် လက်ခံထားသလဲ။ အဓိပ္ပာယ် ဖွင့်ဆိုထားသလဲဆိုတဲ့ အချက်ပေါ်မှာ မူတည်နေပါလိမ့်မယ်"

"သာသနာတော်မှာ အကြည်ညိုခံရတဲ့ ဆရာတော်ကြီး အချို့လည်း သက်သတ်လွတ် ဘုဉ်းပေးကြတာ မဟုတ်လား"

"မှန်ပါတယ်။ ပရိယတ္တိနဲ့ ပဋိပတ္တိ တာဝန်နှစ်ပါးကို ရှုပ်ရှုပ်ချွံချွံ ဆောင်တော်မူတဲ့ ဆရာတော်ကြီးတွေထဲမှာလည်း သက်သတ်လွတ် ဘုဉ်းပေးတော်မူတဲ့ ဆရာတော်ကြီးတွေလည်း ရှိပါတယ်။ အဲဒီလို ဘုဉ်းပေးတော်မူကြတဲ့ သက်သတ်လွတ် စားခြင်းဟာ နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်းရယ်လို့တော့ ဘယ်ဆရာ တော်ကြီးကမှ ဟောကြားတော်မမူပါဘူး။ ကျွန်တော်အထူးကြည်ညိုတဲ့ အရှင်ဇနကာဘိဝံသ ဆရာတော်ဘုရားကြီးလည်း သက်တော်ကြီးရင့်တော်မူတဲ့အရွယ်မှာ သက်သတ်လွတ် ဘုဉ်းပေးတော်မူတာပါပဲ။ အဲဒီလို သက်သတ်လွတ် ဘုဉ်းပေးတော်မူပေမယ့် သူ့ကျောင်းဝင်းမှာ သက်သတ်လွတ်ဆွမ်းပဲ လှူရမှာတို့၊ သူ့ထံလာတဲ့ ဒကာတွေ ဒကာမတွေ သက်သတ်လွတ်စားပြီး လာရမှာတို့ စတဲ့ သာသနာနဲ့ မစပ်ဘဲ ပညတ်ချက်တွေကို ဆရာတော်ကြီး မလုပ်ခဲ့ပါဘူး။ ပရိယတ္တိအခိုင်အခံ့မရှိတဲ့ ဆေးဘုန်းကြီး၊ အင်းဘုန်းကြီး၊ ဗေဒင်ဘုန်းကြီး၊ မန္တန်ဘုန်းကြီး၊ အဆောင်လက်ဖွဲ့ ဘုန်းကြီးတွေကတော့ သက်သတ်လွတ် စားရုံတင်မကဘဲ သက်သတ်လွတ်စားတာကို သာသနာတော် အကျင့်ယောင်ယောင် အမွှမ်းတင်ကြတယ်။ သူတို့ကျောင်းဝင်းမှာ လူဝတ်ကြောင်ကအစ သက်သတ်လွတ် စားရတာတွေကို ပညတ်လိုပညတ်နဲ့ လှူပြိန်း အထင်ကြီးစေတဲ့ စည်းကမ်းတွေကို ပြဋ္ဌာန်းကြတယ်။ သက်သတ်လွတ်စားရုံနဲ့ ကြည်ညိုတတ်တဲ့ လူပြိန်းတွေကလည်း ဘုရားရှင်က ဝိနည်းတော်နဲ့ တားမြစ်ထားတဲ့ ဗေဒင်ဟောတာ၊ ဆေးကုတာ၊ အဆောင်လက်ဖွဲ့ပေးတာ၊ အင်းချတာ၊ ဓာတ်လုံးရေ တိုက်တာတွေကို ပြုနေတဲ့ ဘုန်းကြီးတွေကို သံဃာစစ်၊ သံဃာမှန်လို့ ထင်ကြတယ်ဗျ။ အဲဒီလို ဘုရားမကြိုက်တဲ့ အလုပ်တွေကို လုပ်နေတဲ့ ပုဂ္ဂိုလ်တွေအတွက်ကတော့ သက်သတ်လွတ် စားတာဟာ အကာအကွယ်ကောင်း တစ်ခုလို ဖြစ်နေတာလည်း အမှန်ပဲ။ ကျွန်တော့တစ်ဦးတည်း အယူအဆကို ပြောရရင် သက်သတ်လွတ်စားတဲ့ အလေ့အကျင့်ဟာ သူ့ချည်းသက်သက်ဆိုရင် အပြုတစ်ခု သက်သက်ပါ။ ဒါပေမယ့် လူပြိန်းကြိုက် စည်းရုံးလိုတဲ့ အလိုဆိုးရှိတဲ့ ပုဂ္ဂိုလ်တွေကြောင့် ညစ်နွမ်းသွားတာပါ"

"အဲဒါ ပြောတာပေါ့ဗျာ။ သက်သတ်လွတ်စားတဲ့ အလေ့မှာ ရိုးရိုးသားသား မွေ့လျော်နေသူတွေလည်း ရှိပါတယ်။ ကျွန်တော်ဆိုရင် ခင်ဗျားအသိပဲ။ ဘယ်ဆေးဘုန်းကြီး၊ အင်းဘုန်းကြီး၊ မန္တန်ဘုန်းကြီး၊ လက်ဖွဲ့ဘုန်းကြီးမှ မကိုးကွယ်ဘူးဗျာ။ ပရိယတ္တိဆိုင်ရာ စာမေးပွဲတွေမှာ ထူးထူးချွန်ချွန်အောင်မြင်တော်မူပြီး

စာသင်သား အပါးတစ်ရာကျော်ကို စာပေပို့ချနေတဲ့ ဆရာတော်ကို ကိုးကွယ်နေတာ။ ဘယ်ဂိုဏ်းထဲမှလည်း မဝင်ဘူး။ ဘယ်ဘိုးတော်ထံမှလည်း မရောက်ဘူး။ ဒါပေမယ့် ဝါတွင်းကာလပတ်လုံး သက်သတ်လွတ် စားလာတာ နှစ်ပေါင်း အတော်ကြာခဲ့ပြီ။ ဒါဟာလည်း နိစ္စဓူဝ သားငါးတွေ စားနေရတာ၊ တစ်ခါတစ်ရံတော့ အသွေးအသားနဲ့ ကင်းပြီး နေထိုင်စားသောက်လိုတဲ့ စိတ်ဆန္ဒတွေ ပေါ်လာလို့ စားတာပဲ။ လက်တွေ့ စားကြည့်တော့လည်း ကျန်းမာရေးအရ ပိုပြီး နေထိုင် ကောင်းလာတယ်။ စိတ်လက်ပေါ့ပါး သွက်လက်တဲ့ အကျိုးတွေ ခံစားရတယ်ဗျာ"

"ကိုယ့်စိတ်ဆန္ဒအရ ရိုးရိုးသားသား သက်သတ်လွတ် စားတဲ့ ခင်ဗျားလို လူတွေလည်း အများကြီး ရှိမှာပါဗျာ။ သက်သတ်လွတ် စားတာကို သာသနာတော်ဆိုင်ရာ အကျင့်ကောင်း အကျင့်မြတ်ကြီးပမာ သဘောထား ဂုဏ်ယူမှုတွေ မရှိဘဲ သက်သတ်လွတ်စားတဲ့အတွက် မစားတဲ့သူတွေထက် ပိုပြီး မြင့်မြတ်တယ်လို့ ဘဝင်မရောက်ဘဲ ကိုယ့်ဘာသာ ရိုးရိုးအေးအေး သန့်သန့်ကလေး စားနေတဲ့သူတွေလည်း ရှိပါတယ်ဗျာ။ အဲဒီသူတွေကတော့ ဒေဝဒတ်ဂိုဏ်းသားလည်း မဟုတ်။ မိစ္ဆာဒိဋ္ဌိလည်း မဟုတ်ပါဘူးဗျာ။ အချုပ်ကိုပြောရရင်တော့ အရာရာမှာ အမှန်နဲ့အမှား ဆင်ခြင်တတ်တဲ့ အသိပညာရယ်၊ စင်ကြယ်တဲ့ စိတ်စေတနာရယ်သာလျှင် ပဓာနပဲ မဟုတ်လားဗျာ"

## အဂါရဝမှု သတိပြု

### မြင်ကွင်း (၁)

အိမ်ရှေ့လမ်းမပေါ်တွင် အမျိုးသမီးတစ်ဦး လမ်းလျှောက်သွားသည်ကို မြင်လိုက်ရသည်။ ဈေးမှ ပြန်လာဟန် တူပါသည်။ နတ်ပစ္စည်း အချို့ကို ခေါင်းပေါ်တွင် ရွက်လျက် လက်တွင်မူ မှန်ပေါင်သွင်းထားသော '..ဆရာတော်ကြီး၏ ပုံတော်' ကို ကိုင်လျက်။ ပုံတော်ကို ကိုင်ထားသည်ဟု ဆိုရာ၌ အရိုအသေ အမွန်အမြတ်ပြု၍ ကိုင်ခြင်းမဟုတ်။ မှန်ပေါင်အပေါ်ပိုင်းကို လက်ဖြင့် ဆုပ်ကိုင်ကာ ဆွဲလာခြင်း ဖြစ်သောကြောင့် ခြေလှမ်းစဉ်တိုင်း ပုံတော်မှန်ပေါင်မှာ လှုပ်ယမ်းလျက် အမျိုးသမီး၏ ပေါင်နှင့် နီးလိုက်၊ ဝေးလိုက်၊ နီးလိုက်၊ ဝေးလိုက်။

### မြင်ကွင်း (၂)

သီတင်းကျွတ် ဘုရားပွဲတော်ရက်က ဖြစ်သည်။ ဘုရားပွဲဈေးတန်းသည် ကြက်ပျံမကျသော ဘုရားဖူးများဖြင့် စည်ကားလျက် ရှိ၏။ ဈေးသည် အများအပြားထဲတွင် ဆရာတော်ကြီးများ၏ ပုံတော်များကို ခင်းကျင်းရောင်းချသော ဈေးသည်တစ်ဦးကို တွေ့ရသည်။

"လာဘ်ရွှင် ငွေဝင်ချင်ရင်၊ ဈေးရောင်းကောင်းချင်ရင်၊ အန္တရာယ်ကင်း ဘေးကင်းချင်ရင် ဒီပုံတော်တွေကို ဆောင်ထားကြ"

ဈေးသည်၏ နှုတ်က ထိုဈေးခေါ်စကားကို ကျယ်ကျယ်လောင်လောင် အော်ဟစ်လျက်ရှိ၏။ အသေအချာ ကြည့်လိုက်သောအခါ ဈေးသည်၏ အဂါရဝမှုကို စိတ်မချမ်းမြေ့ဖွယ်ရာ တွေ့လိုက်ရသည်။

မြေကြီးပေါ်တွင် ပလတ်စတစ်စကလေး ခင်းလျက် ထိုအပေါ်တွင် ဆရာတော်ကြီးများ၏ ပုံတော်များကို ဖြန့်ခင်းထားခြင်း ဖြစ်သည်။ လူသွားလမ်း အစပ်တွင် အတားအဆီးမဲ့ ချခင်းထားသော ပလတ်စတစ်အခင်းစနားမှ ခြေထောက်ပေါင်းများစွာ ဖြတ်သန်းလျက်။ လူအုပ်ထူထူကြောင့် လွင့်ပျံ့နေသော ဖုန်မှုန့်များသည် ပုံတော်များအပေါ် ဝဲဝေ့လျက်။

### မြင်ကွင်း (၃)

အိမ်ရှေ့တွင် ကလေးငယ်များ ပြေးလွှားဆော့ကစားလျက် ရှိနေသည်။ အတန်ကြာသော် ခြေနင်းရာများဖြင့် ဖွက်ထနေသော မြေကြီးပေါ်မှ ဆွဲကြိုးတစ်ကုံးကို ကလေးငယ်တစ်ဦး ကောက်ယူလာပါသည်။ ရွှံ့တွေနှင့် စွန်းပေနေသော ဆွဲကြိုးက ရေဆွဲကြိုးမဟုတ်ပါ။'ဆရာတော်ကြီး' ပုံကို ချိတ်ဆွဲထားသော ဆွဲကြိုးဖြစ်ပါသည်။ ဆွဲကြိုးပိုင်ရှင်မှာ အနီးအိမ်မှ ငါးနှစ်အရွယ် မိန်းကလေးငယ် ဖြစ်ပါသည်။

## မြင်ကွင်း (၄)

သူငယ်ချင်းတစ်ဦး၏ အိမ်တွင် အလည်ရောက်စဉ်အခိုက် ဖြစ်ပါသည်။ ဘုရားဖူး ပြန်လာသူတစ်ဦးက အိမ်ရှင် အမျိုးသမီးအား 'ဆရာတော်ကြီး' ပုံပါသော ဆွဲကြိုးကို မေတ္တာလက်ဆောင်အဖြစ် ပေးအပ်၍ အိမ်ရှင် အမျိုးသမီးကလည်း လည်ပင်းတွင် ချိတ်ဆွဲထားလိုက်ပါသည်။ လက်ဆောင်ပေးသူလည်း ပြန်သွားသည်။ ကျွန်တော်နှင့် သူငယ်ချင်း စကားဝိုင်းဖွဲ့ရာတွင် အိမ်ရှင် အမျိုးသမီး ထိုင်လျက်နေရာမှာ ခဏကြာသော် ဗိုက်ကိုနှိပ်၍–

"ကျွန်မကို ခွင့်ပြုပါဦးနော်။ ညက ဝမ်းနုတ်ဆေး စားထားလို့"

ဘာသာရေးစာပေလေ့လာမှု အထိုက်အလျောက် ရှိ၍ ရတနာသုံးပါးကို အမွန်အမြတ် ကြည်ညိုတတ်သူ ကျွန်တော့်သူငယ်ချင်းက–

"မယ်မင်းကြီးမ၊ ရေမိုးချိုးဝင်မယ်ဆိုရင် လည်ပင်းက ဆရာတော်ကြီးပုံပါတဲ့ ဆွဲကြိုးကိုတော့ ဖြုတ်ထားခဲ့ပါကွာ"

## မြင်ကွင်း (၅)

ကုန်စုံဆိုင်ကြီးတစ်ဆိုင်၏ ငွေချေစားပွဲရှေ့၌ မိမိ ဝယ်ယူထားသော ကုန်ပစ္စည်းအတွက် ကျသင့်ငွေကို ပေးချေနေခိုက် ဖြစ်၏။ ငွေလက်ခံသူမှာ ပိုင်ရှင်ကိုယ်တိုင် ဖြစ်၏။ လှပခံ့ညားသော ငွေချေစားပွဲကြီးကို မှန်ချပ်ထူများ ခင်းထားသည်။ မှန်ချပ်အောက်တွင် 'ဆရာတော်ကြီး'၏ ပို့စကတ်အရွယ်ပုံတော်။ ပိုင်ရှင်ဖြစ်သူက ထိုမှန်ချပ်အပေါ်တွင် လက်ထောက်လျက် ငွေများကို ရေတွက်နေသည်ကို ကြည့်ရင်း– ကြည့်ရင်း–။

## အကြား (၁)

ဆရာတော်ကြီးများ ပုံတော် ကိုးကွယ်မှုနှင့် ပတ်သက်၍ ဓမ္မမိတ်ဆွေတစ်ဦးနှင့် ဆွေးနွေးခြင်းဖြစ်ရာ ထိုမိတ်ဆွေက–

"ကျွန်တော် တစ်ခါက ရင်းနှီးတဲ့ ဇနီးမောင်နှံတစ်စုံရဲ့ အိပ်ခန်းထဲ ရောက်သွားတယ်။ ခုတင်ဘေးက စားပွဲခုံသေးပေါ်မှာ 'ဆရာတော်ကြီး' ရဲ့ ပုံကို ဓာတ်ပုံမှန်ပေါင် အငယ်စားထဲသွင်းပြီး ဒေါက်ထောက်တင်ထားတာ တွေ့ရတယ်။ ဇနီးမောင်နှံ အိပ်ရာနဲ့ ဆရာတော်ကြီးရဲ့ ပုံတော်က လက်တစ်ကမ်းလောက်ပဲ ကွာတာ တွေ့ရတော့ တွေးကြည့်မိတိုင်း ကြက်သီးထမိပါရဲ့"

**စေတနာစကား**

၁။ ဆရာတော်ကြီးများသည် ရတနာသုံးပါးတွင် အပါအဝင် ဖြစ်တော်မူသဖြင့် ဆရာတော်ကြီးများ၏ ပုံတော်များကိုကိုးကွယ်ရာ၌ ဂါရဝမှုအပြည့်ဖြင့် အမွန်အမြတ်ပြုဖို့၊ အထွတ်အမြတ် ထားဖို့ လိုအပ်ပါသည်။

၂။ ဆရာတော်ကြီးများ၏ ပုံတော်ကို ကိုးကွယ်လျှင် ဆရာတော်ကြီးများ၏ သီလ၊ သမာဓိ၊ ပညာ ဂုဏ်တော်များကို အာရုံပြု နှလုံးသွင်း ပူဇော်ကြစေလိုပါသည်။

၃။ လာဘ်ရွှင် ငွေဝင်၊ ရာထူးတိုး၊ ဈေးရောင်းကောင်း စသော အဆောင်သဖွယ် သဘောထားရှိခြင်း မပြုသင့်ပါ။

၄။ တစ်နေရာမှ အခြားတစ်နေရာသို့ ဆရာတော်ကြီးများ၏ ပုံတော်ကို ဆောင်ယူရာတွင် ဦးခေါင်းပေါ်၊ ပခုံးပေါ် တင်လျက် ရိုရိုသေသေ လေးလေးစားစား ဆောင်ယူကြစေလိုပါသည်။

၅။ ဆရာတော်ကြီးများ၏ ပုံတော်ကို ရောင်းချရာတွင် မြင့်မြတ်သောနေရာသာ ထားရှိ ရောင်းချစေချင်ပါသည်။ အမျိုးသမီးပုံပါသော ပြက္ခဒိန်များနှင့် ယှဉ်လျက် ထားရှိခြင်း၊ မြေကြီးပေါ်တွင် ပလတ်စတစ်ခင်းလျက် ထားရှိ ရောင်းချခြင်းမျိုး မပြုသင့်ပါ။

၆။ ကလေးသူငယ်များ၏ လည်ပင်းတွင် ဆရာတော်ကြီးပုံတော်ကို ချိတ်ဆွဲပေးထားခြင်းမျိုးကို အမြော်အမြင်ကြီးစွာ ဆင်ခြင်သင့်ပါသည်။ ထိုပုံတော်ကို လည်ပင်းတွင် ချိတ်ဆွဲလျက် မြေကြီးပေါ်တွင် ခုန်ပေါက်ပြေးလွှား ကစားခြင်း၊ ရေအိမ်ထဲဝင်ခြင်းမျိုး ပြုလျှင် အဂါရဝမှု ပြုရာရောက်သည်ကို သတိပြုစေလိုပါသည်။

၇။ ဆရာတော်ကြီးများ၏ ပုံတော်များကိုအလုပ်စားပွဲပေါ်ရှိ မှန်ချပ်အောက်တွင် ထားရှိခြင်း မပြုသင့်ပါ။ အလုပ်စားပွဲသည် မိမိခါးလောက်သာ မြင့်ခြင်း၊ အလုပ်စားပွဲပေါ်တွင် လက်တင်ခြင်းများ ပြုရာတွင် ထိုစားပွဲပေါ်တွင် ဆရာတော်ကြီးများ၏ ပုံတော်များကိုထားရှိခြင်းဖြင့် အဂါရဝမှု ဖြစ်နိုင်ပါသည်။

၈။ ဇနီးမောင်နှံအိပ်ခန်းအတွင်း၌ ဆရာတော်ကြီးများ၏ ပုံတော်များ မထားရှိသင့်ပါ။ အထူးသဖြင့် အိပ်ရာ ခုတင် အနီးအပါးတွင် လုံးဝ မထားရှိသင့်ပါ။

၉။ ဆရာတော်ကြီးများ၏ သီလ၊ သမာဓိ၊ ပညာဂုဏ်တော်များကို ကြည်ညို နှလုံးသွင်းသောအနေအားဖြင့် ပုံတော်များကို ဆောင်ထားကိုးကွယ်ခြင်းသည် ဖြူစင်သော ကုသိုလ်မှုဖြစ်ပြီး ထိုကုသိုလ်မှု အပြည့်အဝ ဖြူစင်မြင့်မြတ်နေစေရန် ပုံတော်များကို ကြီးမားသော ဂါရဝမှုဖြင့် ရိုရိုသေသေ မွန်မွန်မြတ်မြတ် ထားရှိကိုးကွယ်ကြပါဟု စေတနာစကား ပါးလိုက်ရပါသည်။

## ရွှေလက်ကောက်နှင့် ကြေးလက်ကောက်

ကျွန်တော်သည် လက်လှမ်းမီဖတ်ရှုရသမျှ လစဉ်ထုတ် ဘာသာရေးမဂ္ဂဇင်းများမှ နှစ်သက်ရာ ဆောင်းပါးများကို ရွေးချယ်စုစည်းလျက် ဘာသာရေး ဆောင်းပါးအညွန့် အဖြစ်ဖြင့် ယခင်က ရုပ်ရှင်အောင်လံမဂ္ဂဇင်းကြီးတွင် ရေးသားလာခဲ့သည်မှာ ကာလအားဖြင့် ခြောက်နှစ်အတွင်းသို့ ချဉ်းနင်း ဝင်ရောက်ခဲ့ပြီ ဖြစ်ပါသည်။

ယင်းသို့ ညွန့်ဆို ရေးသားလာခဲ့ရာတွင် မျိုးဆက်သစ် လူငယ်လူရွယ်များအနေဖြင့် ထေရဝါဒ ဗုဒ္ဓဓမ္မစစ် ဓမ္မမှန်များကို သိစေလိုသော စေတနာဖြင့် မဟာယာန၊ တန္တရဝါဒ၊ မန္တရဝါဒ၊ ယန္တရဝါဒတို့၏ အန္တရာယ်ကို မီးမောင်းထိုးပြသော ဆောင်းပါးများကို ဦးစားပေး ညွှန်းဆို ရေးသားခဲ့ပါသည်။

တစ်နေ့သော် 'ဘာသာရေးဆောင်းပါးအညွှန်း' ကို စွဲစွဲမြဲမြဲ ဖတ်ရှုသူ မိတ်ဆွေတစ်ဦးက ဤသို့ ရင်းနှီးပွင့်လင်းစွာ ဝေဖန်ပြောကြားခဲ့ပါ၏။

"မဟာယာန၊ တန္တရဝါဒ၊ မန္တရဝါဒတွေအပေါ် ခင်ဗျားက အဆိုးမြင်ဝါဒစွဲ ပြင်းပြင်းထန်ထန် ထားနေပုံရတယ်"

ထိုမိတ်ဆွေ နားလည်နိုင်စိမ့်သောငှာ တစ်ထိုင်တည်း ရှင်းပြရုံဖြင့် ဖြစ်နိုင်လိမ့်မည် မထင်သောကြောင့် သူ့အား အကျယ်တဝင့် ဖြေရှင်းပြခြင်း မပြုခဲ့ပါ။ သို့သော် သူ့ကို စကားတစ်ခွန်းမူ ပြန်ပြောဖြစ်ခဲ့ပါသည်။

"ခင်ဗျားအနေနဲ့ သင်္ဂါယနာတင် သမိုင်းအကျဉ်းလောက်ပဲ သိမယ်ဆိုရင် ပြီးတော့ ကျွန်တော်တို့ ဦးခိုက်ကြည်ညိုရတဲ့ ဆရာတော် ဘုရားကြီးတွေရဲ့ မဟာယာနအပေါ် သဘောထားကိုလည်း သိမယ်ဆိုရင် အခုလို စကားမျိုး ပြောမှာ မဟုတ်ဘူး"

ကမ္ဘာတွင် မြန်မာနိုင်ငံသည် ထေရဝါဒ ဗုဒ္ဓသာသနာတော်မြတ် ထွန်းလင်းတောက်ပဆုံးသော နိုင်ငံအဖြစ် ဂုဏ်ယူဖွယ် ကျော်ကြားထင်ရှားပါသည်။ ယင်းသို့ ထေရဝါဒ ဗုဒ္ဓသာသနာတော်မြတ် ထွန်းလင်းတောက်ပရခြင်း၏ အဓိကကျသော အကြောင်းရင်းမြစ်မှာ သင်္ဂါယနာ အဆင့်ဆင့် အတည်ပြုပြီးသော သန့်ရှင်းစင်ကြယ်သည့် ထေရဝါဒ ပိဋကတ်တော်များကို ဘေးဘိုးဘီဘင် အဆက်ဆက်က အမျိုးသားအမွေအနှစ် ရတနာအဖြစ် မြတ်မြတ်နိုးနိုး ထုပ်ထုပ်ပိုက်ပိုက် သိမ်းဆည်းစောင့်ရှောက်ခဲ့သောကြောင့် ဖြစ်ပါ၏။

ထေရဝါဒ ပိဋကတ်တော်များသည် တစ်ခုတည်းသော မှတ်ကျောက် ဖြစ်ပါ၏။ တစ်ခုတည်းသော စံဖြစ်ပါ၏။ ဤတစ်ခုတည်းသော စံအဖြစ် ထားရှိသည့် အမျိုးသားအမွေအနှစ်ရတနာ ထေရဝါဒ ကျမ်းမြတ်မဟာများကို အသက်နှင့်အမျှ တန်ဖိုးထားလျက် ထိန်းသိမ်းကာကွယ်စောင့်ရှောက်ရမည်မှာ ဗုဒ္ဓဘာသာဝင်တိုင်း၏ ပဓာနကျသော မဟာတာဝန်ကြီးတစ်ရပ်ဖြစ်ပါသည်။

ကျွန်တော့်အနေဖြင့် မဟာယာန၊ တန္တရဝါဒ၊ မန္တရဝါဒ၊ ယန္တရဝါဒများ၏ အန္တရာယ်ကို သတိပေးလျက်ရှိသည်မှာ ယင်းမဟာတာဝန်ကို ထမ်းဆောင်ခြင်းမှ အပ အခြားအခြားသော ဦးတည်ရည်ရွယ်ချက်များ လုံးဝ မရှိပါ။

ယနေ့ မြန်မာစာပေလောကတွင် ဝိဇ္ဇာရေး၊ ဂမ္ဘီရစာပေများ ခေါင်းထောင်လွန့်လူးလျက်ရှိရာ ယင်းစာပေတို့တွင် မဟာယာန၊ တန္တရ၊ မန္တရရှိပ်မည်းကြီးများ လွှမ်းမိုးကြီးစိုးလျက် ရှိပါသည်။ ထေရဝါဒစာပေကိုယ်ခံအား နည်းပါးရှာသူတို့အဖို့ သာသနာတော်မှ ဗီလာဆန့်ကျင်သော အယူအစွဲများ၏ သားကောင်ဖြစ်မှန်းမသိ ဖြစ်နေကြရရှာသည်။ ထို့ကြောင့်လည်း တစ်ခါက ကျေးဇူးတော်ရှင် မဟာစည် ဆရာတော်ဘုရားကြီးက စာရေးဆရာသုံးဦးအား 'မဟာယာန အန္တရာယ်ကို သတိပြုပြီး ရေးကြပါ' ဟု သြဝါဒ ပေးတော်မူခဲ့ခြင်း ဖြစ်ပါ၏။

စင်စစ်သော် သင်္ဂါယနာတင် သမိုင်းအကျဉ်းမျှလောက် သိထားလျှင်ပင် မဟာယာန၏ အန္တရာယ်ကို ခန့်မှန်းနိုင်ပါလိမ့်မည်။ စင်စစ်သော် မဟာယာနဂိုဏ်းကြီးသည် ဒုတိယသင်္ဂါယနာတင်ပြီးနောက် ကွဲပြားသွားသော ဂိုဏ်းကြီးဖြစ်ပါသည်။ အဘယ်ကြောင့် ကွဲပြားသွားရသနည်းဟူမူ ယင်းဂိုဏ်းကြီးသည် သင်္ဂါယနာတင်သော ထေရဝါဒ ပိဋကတ်တော်များကို လက်မခံခဲ့သောကြောင့် ဖြစ်ပါသည်။ ကျွန်တော်တို့က စံအဖြစ် မြတ်မြတ်နိုးနိုး ကိုးကွယ်ထားသော ထေရဝါဒ ပိဋကတ်တော်များကို မဟာယာနတို့က ငြင်းပယ်ခဲ့ခြင်း ဖြစ်ပါသည်။ ဤသို့ ပဓာနကျသော ဓမ္မအပေါ်တွင် ကွဲပြားသောအခါ ထေရဝါဒနှင့် မဟာယာနတို့သည် အမည်နာမ၊ ဝတ်စားဆင်ယင်မှု၊ အသုံးအဆောင်၊ ပရိက္ခရာ၊ အမူအကျင့်မှ စ၍ များစွာ ခြားနားသွားခဲ့ပါသည်။ စံထားအပ်သော ဓမ္မချင်း မတူသောအခါ သံဃာချင်းလည်း မတူတော့ပါ။ စင်စစ်သော် မဟာယာန အယူအဆများသည် မူရင်း ဗုဒ္ဓဘာသာကို ကာလဒေသ အခြေအနေနှင့် အညီ လိုလျှင် လိုသလို၊ မလိုလျှင် မလိုသလို ပြုပြင်ပြောင်းလဲ ဖြည့်စွက်လိုသော အဓမ္မဝါဒီ ရဟန်းများကို အကြောင်းပြု၍ပေါ်ပေါက်လာခြင်း ဖြစ်ပါသည်။

ထေရဝါဒ ရှုထောင့်မှ ကြည့်သော် မဟာယာနဂိုဏ်းသည် မူရင်းဗုဒ္ဓဘာသာ မဟုတ်ပါ။ ထိုဂိုဏ်း၏ ပိဋကတ်များသည် မြတ်ဗုဒ္ဓ၏ နှုတ်တော်မှ ထုတ်ဖော်ဟောကြားအပ်သော ဓမ္မစစ် ဓမ္မမှန်များ မဟုတ်ပါ။ မဟာယာနဝါဒသည် ဘာသာတရားအမြင် ခိုင်မာခြင်း မရှိပါ။ ဒီပဝံသတွင် ထေရဝါဒနှင့် မဟာယာနကို နှိုင်းယှဉ်ခဲ့သည်မှာ ဤသို့ပါ။

"ဝါဒတို့တွင် ကောင်းမွန်မြင့်မြတ်သော ထေရဝါဒသည် ပညောင်ပင်ကြီးနှင့် တူစွာ မြတ်စွာဘုရား၏ သာသနာတော် အလုံးစုံကို မယုတ်မလွန် ဖော်ပြလျက် ရှိ၏။ ကြွင်းသောဝါဒ တစ်ဆယ့်ခုနစ်ပါးတို့ကား သစ်ပင်ကြီး၌ ဖြစ်ပေါ်လာသော ဆူးတို့နှင့် တူကုန်၏"

ဆိုလိုရင်းမှာ ထေရဝါဒသည် လမ်းမှန်ဖြစ်သည်။ ဆူးငြောင့်ကင်းစင်သော လမ်းစဉ် ဖြစ်သည်။ မဟာယာနကား လမ်းမှား ဖြစ်သည်။ ဆူးငြောင့် ပြိုပြွမ်းသော လမ်းစဉ် ဖြစ်သည်။ မဟာယာနတို့၏ သာသနာပြုနည်းနှင့် ပတ်သက်၍ ကျေးဇူးတော်ရှင် ထီးချိုင့်မြို့ တည်တောဆရာတော်ဘုရားကြီးက ***(ဓမ္မရုပ်စုံ ၉၂၊ နိုဝင်ဘာ)*** တွင် ဖော်ပြသော 'ကမ်းသီတာမြို့ဟောင်းမှ စေတီတော်များ' ဆောင်းပါး၌ ဤသို့ ရေးသားတော်မူခဲ့သည်မှာ များစွာ ဆင်ခြင်ဂရုပြုဖွယ်ရာ ဖြစ်ပါ၏။

“မဟာယာန သာသနာပြုနည်းသည် တွေ့ရာဝါဒနှင့် ပူးပေါင်း၍ အပအခြားဝါဒတွင်း ဗုဒ္ဓဝါဒကို ထည့်သွင်း သာသနာပြုခြင်းဖြစ်၍ မုဆိုးဂိုဏ်းနှင့် တွေ့သောအခါ တစ်ဖက်မှ မုဆိုးပြုလျက် တစ်ဖက်မှ ပုတီးကို

ကိုင်စေခဲ့သည်။ ထို့ကြောင့် မဟာယာန ဗုဒ္ဓဝါဒသည် တစ်နေရာနှင့် တစ်နေရာ မတူညီဘဲ သာသနာတော်ဝန်ထမ်း ရဟန်းများပင်လျှင် အိမ်ထောင်ပြုသောဂိုဏ်း၊ မပြုသောဂိုဏ်း၊ အရက်သေစာ မှီဝဲသောဂိုဏ်း၊ မမှီဝဲသောဂိုဏ်း၊ သက်နိုးဝတ်သောဂိုဏ်း၊ အင်္ကျီဝတ်သောဂိုဏ်း စသည်ဖြင့် ကွဲပြားမှုရှိလေသည်။ အမှန်သော်ကား မဟာယာနဂိုဏ်းသည် အကြမ်းစားသာသနာပြု ဂိုဏ်းဖြစ်၍ ဒုစရိုက်နှင့် ပျော်ပိုက်နေကုန်သော သူတို့အား သိမ်းသွင်းသောဂိုဏ်းဖြစ်လေသည်။ ၄င်းတို့အတွက် ငါးပါးသီလ၊ ရှစ်ပါးသီလဟု ထင်ထင်ရှားရှား စောင့်ရှောက်မှု မခိုင်းဘဲ အာဇီဝဋ္ဌမက သီလဖြင့် ထိန်းသိမ်းစေသော ဂိုဏ်းကြီးဖြစ်၏။"

သာသနာရေး ဦးစီးဌာန၊ အကြံပေးပညာရှင်ဖြစ်သော ဆရာကြီး ဓမ္မာစရိယ ဦးဌေးလှိုင်ကလည်း မဟာယာနနှင့် ပတ်သက်၍ ဤသို့ သတိပေး ရေးသားခဲ့ဖူးပါသည်။

"အတ္တဝါဒသည် ဗုဒ္ဓတပည့်များကို ဖဲ့ထုတ်ကာ ဗုဒ္ဓဘာသာ အသွင်ပြင်ဖြင့် အတ္တဝါဒကိုပင် မဟာယာန ဗုဒ္ဓဘာသာဟု တစ်စင်ထောင်စေခဲ့၏။ မဟာယာနသည် အောက်လမ်း၊ အထက်လမ်း (ဂိုဏ်း) ကိုယ်စားလှယ်များကို မွေးထုတ်၏။ ယင်းကိုယ်စားလှယ်တို့သည် အောက်တန်းစားနတ်များ၊ သရဲ၊ တစ္ဆေ၊ မြေဖုတ်၊ စုန်း၊ ပြိတ္တာများကို အသုံးပြုကြသည်။ သရေခေတ္တရာ၊ ပုဂံ သင်ခန်းစာများအရ လာရင်း ရှေးဟောင်းအရည်းကြီး လမ်းကြောင်းကို ပြန်ပြောင်း၍ မသွားရန် သတိမူကြကုန်"

*(ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ၊ စာ– ၂၆)*

ထို့ပြင် ဆရာကြီး ဦးဌေးလှိုင်သည် ထေရဝါဒဗုဒ္ဓဘာသာအတွင်း မဟာယာန အယူအကျင့်မများ ပူးဝင်ရောထွေးနေမှုကိုလည်း အောက်ပါအတိုင်း သတိပေးခဲ့ပါ၏။

"ထေရဝါဒ ဘာသာရေးကိစ္စအရပ်ရပ်တွင် တန္တရ၊ မန္တရ၊ ဝဇီယဉ်၊ မဟာယာန အယူအဆများ မည်မျှ ရောထွေးရှုပ်ပွေလျက် ရှိသည်ကို သတိပြုကြရန် ဖြစ်ပါ၏"

မဟာယာနဂိုဏ်းသမားတို့သည် စင်ကြယ်သော ထေရဝါဒ သာသနာ ရတနာသုံးပါး လမ်းမတော်မှ လွတ်လွတ်လည်း မဖဲ့ခွာ၊ ဖြောင့်မတ်စွာလည်း မလိုက်။ ဣတိပိသောရွတ်ပြီး အင်းတိုက်၊ ခတ်လုံးထိုးနေကြသဖြင့် မသိမလိမ္မာသူတို့ နားယောင်ကြရရှာသည်"

(ရတနာသုံးပါးကျေးဇူး၊ စာ –၁၈)

ပစ္စက္ခကာလတွင် ဝိဇ္ဇာရေ၊ ဂမ္ဘီရစာပေများကို ထုတ်ဝေလျက်ရှိရာ ထေရဝါဒစာပေ ကိုယ်ခံအား နည်းပါးရှာသူတို့အဖို့ ယင်းဂမ္ဘီရစာပေများကိုပင် နားယောင်လျက် ရှိကြရှာသည်။ ထိုသူတို့အား ထေရဝါဒ စာပေများနှင့်လည်းကောင်း၊ သာသနာ့အာဇာနည် ထေရ်အရှင်မြတ်ကြီးများ၏ ဩဝါဒတော်များနှင့်လည်းကောင်း ထိတွေ့ မိတ်ဆက်ပေးနိုင်လျှင် အမှားကို ပြင်လျက် အမှန်ကို မြင်လာကြပေလိမ့်မည်။ စင်စစ်သော် ပရိယတ္တိ၊ ပဋိပတ္တိဝန်ဆောင် သာသနာပြု ဆရာတော်ဘုရားကြီးများသည် အလျဉ်းသင့်တိုင်း သူတို့၏ မဟာယာနအပေါ် သဘောထားကို တည်ကြည်ပြတ်သားစွာ မိန့်မြွက်တော်မူလေ့ရှိပါ၏။

တစ်ခါက ကျေးဇူးတော်ရှင် ချမ်းမြေ့ ဆရာတော်ဘုရားကြီးအား နိုင်ငံကျော် စာရေးဆရာမကြီး ဒေါ်ခင်နှင်းယုက ဤသို့ လျှောက်ထားခဲ့ဖူးပါသည်။

"ကမ္ဘာမှာ သာသနာပြုရာတွင် မဟာယာနတွေက ခြေလှမ်းသွက်ကာ အောင်မြင်ကြပါတယ်။ သူတို့က လူမှုရေးပါ ဆောင်ရွက်ပြီး စည်းကမ်းတင်းကျပ်မှု နည်းပါတယ်။ ထေရဝါဒက စည်းကမ်းတင်းကျပ်တော့ အောင်မြင်မှု နှေးကွေးတယ် ထင်ပါတယ် ဘုရား"

ဆရာမကြီး ဒေါ်ခင်နှင်းယု၏ အထက်ပါ လျှောက်ထားချက်အပေါ် ကျေးဇူးရှင် ချမ်းမြေ့ဆရာတော်ဘုရားကြီး၏ ပြန်လည် မိန့်ကြားတော်မူချက်မှာ ဤသို့ပါ။

"မှန်တယ်။ ဒါပေမယ့် မဟာယာန တစ်ရာ ရှိပါစေ။ ထေရဝါဒ တစ်ယောက်ရှိအောင် သာသနာပြုနိုင်ရင် တော်ပြီ"

အတွင်းအနှစ် အစစ်အမှန် ဓမ္မကို ဖြန့်ဖြူးရာ၌ အရေတွက်များလာရေးကိုသာ ရှေးရှုပြီး အပေါ်ယံ အကာအလွှာနှင့် အရောရော အနှောနှောတွေကိုသာ ပေးကမ်းနေလျှင် ယင်းသည် ဓမ္မအပေါ် သစ္စာဖောက်ခြင်းသာ ဖြစ်ပါ၏။ ဓမ္မစစ်ကို ဖြန့်ဖြူးရာ၌ အရေတွက်သည် ပဓာန မဟုတ်။ အရည်အချင်းသာ အဓိက ဖြစ်ပါ၏။

နိုင်ငံနှင့်အဝန်း ဗုဒ္ဓဘာသာဝင်တို့၏ ကြည်ညိုမှုကို ထူးထူးကဲကဲရှိတော်မူပြီး သာသနာ့သမိုင်းတွင် အစဉ်ထာဝရ လင်းလက်ရှန်းပြက်နေမည့် မှတ်တိုင်ကြီးများကို စိုက်ထူတော်မူခဲ့သော ကျေးဇူးတော်ရှင် တိပိဋကဓရ မင်းကွန်းဆရာတော်ဘုရားကြီးထံတော်မှောက် နာမည်ကျော် ဘာသာခြား ဂုရုကြီး တစ်ဦး ရောက်လာပြီး 'မဟာယာန ဗုဒ္ဓဘာသာကို လေ့လာဖူးပါသလား' ဟု မေးလျှောက်ခဲ့ဖူးပါသည်။ ထိုအခါ ဆရာတော် ဘုရားကြီး၏ ပြန်လည်ဖြေကြားတော်မူချက်မှာ အမျိုးဘာသာ သာသနာစိတ် ရှိသူတိုင်း ဦးထိပ်ပန်ဆင်စရာ ဖြစ်လှပါ၏။

"ကျုပ်တို့မှာ ရွှေလက်ကောက် ရှိပြီးသားပဲ။ ကြေးလက်ကောက်ကို စိတ်မဝင်စားဘူး"

**ဝေဖန်စိစစ်တတ်ပါစေ**

ယနေ့ ဘာသာရေးစာပေနယ်ပယ်တွင် ထေရဝါဒ ပိဋကတ်တော်များနှင့် ဖီလာဖြစ်သော အတွေးအမြင်၊ အယူအဆ၊ အစွဲဥပါဒါန်များအပေါ် ဝိဘဇ္ဇဉာဏ်ကို ရဲရဲရင့်ရင့် မှန်မှန်ကန်ကန် အသုံးချလျက် ဝေဖန် သုံးသပ်သော ဆောင်းပါးများကို အမှန်တရား မြတ်နိုးသူတို့က တန်ဖိုးထား ကြိုဆိုလျက် ရှိနေကြပါသည်။

ထိုသို့သော ဆောင်းပါးမျိုးကို ဘာသာရေးမဂ္ဂဇင်းများတွင်သာမကမူလျက် ရသစာပေမဂ္ဂဇင်းကြီး အချို့ကပါ သာသနာစိတ် အရင်းခံလျက် နေရာပေး ဖော်ပြမှုများကို ပြုလာကြပါသည်။

ထေရဝါဒ ပိဋကတ်တော်များနှင့် ဆန့်ကျင်သည့် ဂမ္ဘီရဟု အမည်တပ်ထားသော စာပေများအပေါ်တွင်လည်း စာရေးဆရာများ၊ အယ်ဒီတာများက အမျိုး ဘာသာ သာသနာအပေါ် တာဝန်သိသိနှင့် အင်တိုက် အားတိုက် ဆန့်ကျင် ဝေဖန်နေကြသည်များကိုလည်း မဂ္ဂဇင်းစာမျက်နှာများအပေါ်တွင် အများအပြား ဖတ်ရှုခဲ့ရပါသည်။

ဝိဘဇ္ဇဉာဏ် ရှင်သန်သူတို့မည်သည် သူများပြောတိုင်း မယုံတတ်ပေ။ သူများခိုင်းတိုင်း မလုပ်တတ်ပေ။ ကြုံတိုင်းလည်း သူများနောက်သို့ မလိုက်တတ်ချေ။ ခြောက်တိုင်းလည်း မကြောက်တတ်ပေ။ မြှောက်တိုင်းလည်း မမြှောက်တတ်ပေ။ သူတို့၏ အဇ္ဈတ္တသန္တာန်၌ ထွန်းပသော ဝိဘဇ္ဇဉာဏ် အလင်းရောင်ကို အခြားတစ်ပါးတို့၏ အတွင်းသန္တာန်၌ တည်ကိန်းဝင်းလက်လာစေရန် စာရေးသားမှုဖြင့် ဓမ္မဒါနကို မွှန်မွှန်မြတ်မြတ် စင်စင်ကြယ်ကြယ် ပြုနေခြင်းပင် ဖြစ်ပါ၏။

ဗုဒ္ဓဝါဒကို အနတ္တဝါဒဟု ဆိုကြ၏။ ကမ္မဝါဒဟုလည်း ဆိုကြ၏။ ဝိဘဇ္ဇဝါဒဟုလည်း ဆိုကြ၏။ အားလုံး မှန်သည်ချည်းသာ ဖြစ်ပါ၏။ သို့တစေ အနတ္တဝါဒ၊ ကမ္မဝါဒ ဖြစ်သည်ကိုမူ သိသူများလှပါ၏။ ဝိဘဇ္ဇ ဝါဒဖြစ်သည်ကိုမူ (ဗုဒ္ဓစာပေလေ့လာသူမှအပ) သိသူနည်းပါးသေးသည် ဟု ထင်ပါသည်။

စင်စစ်သော် အနိူင်းမဲ့ ကိုးကွယ်ရာဖြစ်တော်မူသော မြတ်ဗုဒ္ဓသည် ဝေဖန်စိစစ်သော ဝိဘဇ္ဇဉာဏ်နှင့် ပြည့်စုံတော်မူရာတွင် အနိူင်းမဲ့ ဖြစ်တော်မူပါ၏။ ဘုရားရှင်သည် ဝိဘဇ္ဇဝါဒီ ဖြစ်တော်မူပါ၏။ အရာရာတွင် ဝေဖန်စိစစ်လေ့ရှိသော ပုဂ္ဂိုလ်ထူးတစ်ဆူ ဖြစ်တော်မူပါ၏။ (နမော ဝိဘဇ္ဇဝါဒီနော အနန္တဇိနဿ) ဘုရားရှင် မပွင့်ပေါ်မီ ကာလကတည်းက အားကောင်းမောင်းသန် အထုအထည် ကြီးစွာ ဖွံ့စည်းနေသော အယူဝါဒအမျိုးမျိုးကို ဗုဒ္ဓမြတ်စွာသည် ဝိဘဇ္ဇဉာဏ်တော်ဖြင့် ဝေဖန်စိစစ်၍ လူ့သမိုင်းတွင် အကြီးမားဆုံးနှင့် ဂုဏ်အရောင် အပြောင်ဆုံးသော အတွေးအခေါ် တော်လှန်ရေးကြီးဖြင့် ဆန့်ကျင်ခဲ့ပေသည်။

မြတ်ဗုဒ္ဓသည် အနိူင်းမဲ့ ဝိဘဇ္ဇဝါဒီကြီး ဖြစ်တော်မူသကဲ့သို့ ဗုဒ္ဓဝါဒသည်လည်း ဝေဖန်စိစစ်ခွင့်ရှိသော ဝါဒ ဖြစ်ပါ၏။ ဗုဒ္ဓဘာသာဝင် သူတော်စင်တိုင်းတွင်လည်း ဝေဖန်စိစစ်ဉာဏ် ရှင်သန်ရပေလိမ့်မည်။

သာသနာစိတ်ထွန်းပသူတို့က ဝိဘဇ္ဇဉာဏ်ဖြင့် အပတ်တကုတ် အားထုတ်ရေးသားအပ်သော အဆင့်မြင့် သဘောတရား ဆောင်းပါးများကို အဆင့်မြင့် စာဖတ်ပရိသတ်ကြီးက လှိုက်လှဲဝမ်းသာ ဖတ်ရှုကြိုဆိုလျက် ရှိနေချိန်ဝယ် ဓမ္မဓိဋ္ဌာန်ထက် ပုဂ္ဂလဓိဋ္ဌာန်ပေါ်တွင်သာ အာရုံသက်ဝင်သူအချို့သည် ထိုသို့သော

ဆောင်းပါးများအပေါ် အဆိုးမြင်ဝါဒစွဲဖြင့် လွဲလွဲမှားမှား ရှုမြင်အကဲဖြတ်ကြ၏။ ဓမ္မဓိဋ္ဌာန် ရေးသားချက်အပေါ် ပုဂ္ဂလဓိဋ္ဌာန်ဖြင့် သေးသေးသိမ်သိမ် ရှုမြင်ချဉ်းကပ်မိရာက အနာပေါ်တုတ်ကျခံရခြင်း ဖြစ်ဟန်တူပါ၏။ တစ်လောက ဘာသာရေးမဂ္ဂဇင်းတွင် ဖော်ပြသော ဆောင်းပါးတစ်ပုဒ်၏ နိဂုံးအပိုဒ်တွင် 'ဆောင်းပါးရှင်ကို ဝေဖန်ပိုင်းခြားသူကြီးဆိုရင်တော့' စသည်ဖြင့် ပုဂ္ဂလဓိဋ္ဌာန် သက်သက်ဖြင့် အငေါ့တူးထားသည်ကို ဖတ်လိုက်ရပါသည်။ (သူရည်ညွှန်းသော ဆောင်းပါးရှင်မှာ ကျွန်တော်မဟုတ်ပါ။) ဤသို့သော ပုဂ္ဂိုလ်ရေး ပုတ်ခတ်ချက်သည် မည်သည့်နည်းနှင့်မျှ ဓမ္မမဟုတ်ပါ။ သေးနုပ်သိမ်ဖျင်းသော ဖရုဿဝါစာသာ ဖြစ်ကြောင်း ဗုဒ္ဓဘာသာဝင် သူတော်စင်တိုင်းက နားလည်သဘောပေါက်ကြပါ၏။

လူသား၏ ဦးနှောက်တွင် မှတ်သားသော အပိုင်းနှင့် ဆင်ခြင်ဝေဖန်သော အပိုင်းဟူ၍ ရှိပါ၏။ မှတ်ဉာဏ်ကို ကောင်းစွာ အသုံးချလျှင် ပြဋ္ဌာန်းစာပေများကိုသာ ကျက်မှတ်ဖြေဆိုရသော စာမေးပွဲဆိုင်ရာဘွဲ့များ ရရှိနိုင်ပါသည်။ သို့တစေ မှတ်ဉာဏ်ကိုသာ အားသန်ပြီး ဝေဖန်စိစစ်ဉာဏ်ခေါင်းပါးလျှင် ထိုသူသည် ဦးနှောက်တစ်ခြမ်း သေနေသူသာ ဖြစ်ပါ၏။ ဦးနှောက်တစ်ခြမ်း လူစဉ်မမီသူသည် စာမေးပွဲဆိုင်ရာဘွဲ့များ မည်မျှပင်ရနေစေကာမူ အမှန်နှင့်အမှားကို မခွဲခြားတတ်။ ဓမ္မနှင့် အဓမ္မကို မပိုင်းဖြတ်တတ်။ ရပ်တည်ချက် မထားတတ်ကြပေ။ ရောရိရောရာ ယောင်ချာချာနှင့် မိုးခါးရေ သောက်တတ်ကြ၏။

ကျေးဇူးတော်ရှင် မြတ်ဘုရားသည် ဝိဘဇ္ဇဝါဒီ ပုဂ္ဂိုလ်ထူးကြီးတစ်ဆူ ဖြစ်တော်မူသည့် အားလျော်စွာ ကျေးဇူးရှင် ထေရ်အရှင်မြတ်ကြီးများသည်လည်း ဝိဘဇ္ဇဝါဒီများဖြစ်တော်မူပါ၏။ သာသနာဝင် ထင်ရှားသော ဆရာတော်ကြီးများသည် ကိုယ်တော်တိုင်လည်း ဝေဖန်စိစစ်ဉာဏ်ကို ထက်ထက်မြက်မြက် အသုံးချတော်မူသကဲ့သို့ အခါအားလျော်စွာ အကြောင်းသင့် အခွင့်သာခိုက် ဗုဒ္ဓဘာသာဝင်တို့အားလည်း အရာရာတွင် ဝိဘဇ္ဇဉာဏ်ကို အသုံးချသင့်ကြောင်း အဆုံးအမ ဩဝါဒများ ပေးတော်မူခဲ့ပါသည်။ ကျေးဇူးရှင် သဲကုန်းအရှင်ဉာဏိဿရ ဆရာတော်ကြီးက ဘာသာရေး ကိုးကွယ်မှုတွင် ဝေဖန်စိစစ်သော ဝိဘဇ္ဇဉာဏ်ကို အသုံးချသင့်ကြောင်း ဝေဖန်စိစစ်ဉာဏ်ရှိသူတို့၏ ကိုးကွယ်ရာသည်သာ မွန်မြတ်သော ကိုးကွယ်ရာ ဖြစ်နိုင်ကြောင်း ဤသို့ ဩဝါဒ ချီးမြှောက်တော်မူခဲ့ပါ၏။

"ဘုန်းကြီးတို့ ပရိသတ်အပေါင်း သူတော်ကောင်းတို့လည်းပဲ ဝေဖန်စိစစ်တဲ့ ဉာဏ်တော့ ရှိရမှာပဲ။ ဝေဖန်စိစစ်တဲ့ ဉာဏ်ရှိမှ ဘုန်းကြီးတို့ ပရိသတ်အပေါင်း သူတော်ကောင်းတို့ရဲ့ ကိုးကွယ်ရာဟာ မွန်မြတ်တဲ့ ကိုးကွယ်ရာမျိုး ဖြစ်နိုင်ပါသည်။ ဝေဖန်စိစစ်ဉာဏ် မရှိတဲ့ ကိုးကွယ်မှုမျိုး မဖြစ်နိုင်ဘူး"

ယနေ့အခြေအနေဟာ အလိုဆိုးရှိသူတို့သည် သာသနာတော်မြတ်ကို ခုတုံးလုပ်လျက် ဘိုးတော်လိုလို၊ ဝိဇ္ဇာလိုလို၊ ဂိုဏ်းဆရာလိုလိုဖြင့် မသိမလိမ္မာသူများအပေါ်တွင် ဆရာကြီးလုပ်ကာ အမြတ်ထုတ်လျက် ရှိနေကြပါသည်။ ဝေဖန်စိစစ်ဉာဏ် ကင်းမဲ့သူများသည် ထိုသို့သော အတုအယောင်တို့၏ အလှည့်ဖြားခံ သားကောင် ဖြစ်ကြရရှာသည်။ အကြောင်းရင်းမြစ်မှာ ထေရဝါဒ မှတ်ကျောက်ပေါ်တင်လျက် ဝေဖန်ဆန်းစစ်မှု မရှိသောကြောင့် လွဲမှားသော ကိုးကွယ်ရာများကို ဖက်တွယ်မိကြရရှာခြင်း ဖြစ်ပါသည်။ ဓမ္မအတု၊ သူတော်အတုကို အစစ်ထင်၍

ကိုးကွယ်မိလျှင် သံသရာတစ်လျှောက်လုံး စုံးစုံးနစ်နစ် မွန်းတတ်ပါ၏။ မည်သည့်အရာသည် အစစ်၊ မည်သည့်အရာသည် အတုဟူ၍ တစ်ခုတည်းသော မှတ်ကျောက်ဖြစ်သည့် ထေရဝါဒ ပိဋကတ်တော်များ အပေါ်တင်လျက် ခွဲခြား ဝေဖန် ဆန်းစစ်တတ်ရန် အရေးကြီးလှပါ၏။ ဤသည်နှင့် စပ်လျဉ်း၍ ကျေးဇူးရှင် သပြေကန် ဆရာတော်ဘုရားကြီးက အဆုံးအမ ပေးတော်မူခဲ့ပုံမှာ များစွာ မှတ်သားကြည်ညိုစရာ ဖြစ်၏။

"သူတော်ကောင်းတို့သည် လည်းကောင်း၊ သူယုတ်မာတို့သည်လည်းကောင်း ဂုဏ်အားဖြင့် ကွဲပြားခြားနားလျက် ရှိကြသော်လည်း မဝေခွဲတတ်၊ အကဲမဖြတ်တတ်သူတို့ အထံ၌ကား ကွဲပြားခြင်းသို့ မရောက်နိုင်ပါပေ။ ထိုသို့ မခွဲတတ်ဘဲ၊ မသိမလိမ္မာသောကြောင့် ထိုသူတို့မှာ သပ္ပုရိသသူပနိဿယစသော အကျိုးတရားမှ ကင်းကွာခဲ့ရ၏"

စင်စစ်သော် အတုအယောင် အလိမ်အညာတို့ကို ဆည်းကပ်မိသူများသည် ဝိဘဇ္ဇဉာဏ်ကင်းမဲ့ရုံမျှမက အလွယ်လမ်း၊ ဖြတ်လမ်းကို စုံရည်မက်ရည်ရှိလှသောကြောင့်လည်း ဖြစ်ပါသည်။ လောက၌ မည်သည့်အရာကိုမျှ ထိုက်ထိုက်တန်တန် မပေးဆပ်မူလျက် မရစကောင်းပါ။ ထိုက်တန်သော အားထုတ်မှု မပြုဘဲ အလွယ်လမ်းလိုက်တာ အချောင်ရရိုး ထုံးစံ မရှိပါချေ။ လောကုတ္တရာလုပ်ငန်းတွင်ကား ပို၍ပင် အလွယ်လမ်း၊ ဖြတ်လမ်း ဟူ၍ မရှိပါ။ ဘာသာရေးလုပ်ငန်းတွင် အလွယ်လမ်းလိုက်လျှင် ဆရာတု ဆရာယောင်များနှင့် တွေ့တတ်ပြီး ပင်ပန်းသမျှ သဲထဲရေသွန်သကဲ့သို့ အရာမထင်ဖြစ်တတ်ကြောင်း၊ ကျေးဇူးတော်ရှင် ဓမ္မဒူတ အရှင်ပညာဇောတ ဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း ဆုံးမတော်မူခဲ့ပါ၏။

"တို့ ဗုဒ္ဓဘာသာက ဓမ္မဝိနယဘာသာပါ။ ဓမ္မဝိနယဘာသာဆိုတာ တရားသဖြင့် ကြောင်းကျိုးဖော်ပြပြီး ဆုံးမသြဝါဒ ပေးတာတွေကို နာယူပြီး ကိုယ်တိုင် ကိုယ်ပိုင်ဉာဏ်နဲ့ စဉ်းစားဆုံးဖြတ်ပြီးမှ ယုံကြည် လိုက်နာ ကျင့်ကြံရတဲ့ ဘာသာပါ"

ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဖြစ်ရန်မှာ ပင်ရင်းစိတ်ထားရိုးသားရုံမျှဖြင့် မလုံလောက်ပါ။ ဗီဇပါ စိတ်နေ စိတ်ထားကို ဘုရားရဟန္တာအစရှိသော သူတော်ကောင်းကြီးများ၏ တရားဓမ္မများ၊ အဆုံးအမများ၊ မြင့်မြတ်မှန်ကန်သော အတွေးအခေါ်များ ဖြည့်ဆည်းထုံမွမ်းရန် လိုပါသည်။ နှလုံးသားလှရုံမျှဖြင့် မကျေနပ်မူလျက် စဉ်းစဉ်းစားစား နှိုင်းနှိုင်းချိန်ချိန် စိစစ်ဝေဖန်တတ်သော ဦးနှောက်ရှိဖို့လည်း အားထုတ်ရပေလိမ့်မည်။ နှစ်သက်ဖွယ်ကောင်းသူ တစ်ယောက်၏ အရည်အချင်းတွင် စဉ်းစဉ်းစားစား လုပ်တတ်ခြင်းလည်း ပါဝင်ကြောင်း ကျေးဇူးရှင် ဘဒ္ဒန္တသေဋ္ဌိလာဘိဝံသဆရာတော်ဘုရားကြီး၏ အဆုံးအမတော်တွင် လေ့လာမှတ်သားနိုင်ပါ၏။

"လူတစ်ယောက်ဟာ မြင့်မြတ်တဲ့ စိတ်နေ စိတ်ထားလည်း ရှိမယ်၊ စဉ်းစဉ်းစားစားလည်း လုပ်မယ်။ လုပ်ပုံ ကိုင်ပုံလည်း မှန်မယ်ဆိုရင် နှစ်သက်ဖွယ် ကောင်းလှပါတယ်"

ဘာသာရေးလုပ်ငန်းတစ်ရပ်ကို ဆောင်ရွက်ရာတွင် မပြုခင် နှိုင်းနှိုင်းဆဆ ချင့်ချင့်ချိန်ချိန် စဉ်းစဉ်းစားစား ဆောင်ရွက်ကြရမည် ဖြစ်သကဲ့သို့ ဆောင်ရွက်ပြီး လုပ်ငန်း၏ အကျိုးရလဒ်ကိုလည်း စေ့စေ့ငုငု ဝေဖန် ဆန်းစစ်ရန် လိုပါသည်။

မိမိဆောင်ရွက်ပြီး ဘာသာရေးလုပ်ငန်း၏ အကျိုးရလဒ်ကို ဆန်းစစ်ရာတွင် ဓမ္မဓိဋ္ဌာန်သက်သက်ဖြင့် ချဉ်းကပ်ရန် လိုပါသည်။ ဆန္ဒစွဲဖြင့် ကျဉ်းမြောင်းစွာ ချဉ်းကပ်လျှင်မူ အမှန်တရားကို မမြင်နိုင်ဘဲ ဝေဝါးမှုန်သီနေမည် ဖြစ်ပါ၏။

သာသနာပြင်ပ ကိုးကွယ်ရာ ပုဂ္ဂိုလ်များ၏ စေခိုင်းချက်အရ သာသနာဗာဟိရ အကျင့်အယူများကို ဆောင်ရွက်ခဲ့သူများအနေဖြင့် မိမိတို့ ရရှိသော အကျိုးရလဒ်ကို ဓမ္မဓိဋ္ဌာန်သက်သက်ဖြင့် တိတိပပ ဝေဖန် ဆန်းစစ်ကြစေလိုပါသည်။

ထိုသို့သော သာသနာပြုအမည်ခံ ပုဂ္ဂိုလ်များ၏ ခိုင်းစေမှုကို တစ်သဝေမတိမ်း ဆောင်ရွက်ခဲ့ပြီးနောက်ဝယ် မိမိတို့၏ အတွင်းသန္တာန်တွင် အငြိမ်းဓာတ်၊ အအေးဓာတ်များ ထွန်းပလာသလား။ ကုသိုလ်ကောင်းမှုကို ဦးတည်သော အတွေးအခေါ်များ ရင့်ကျက်လာသလား။ လူရိုသေ၊ ရှင်ရိုသေ၊ လူလေးစား၊ ရှင်လေးစားစေမည့် ကိုယ်ရည်ကိုယ်သွေးများ ဖွံ့တည်လာသလား။ ယခင်ကထက် လောဘ၊ ဒေါသများ ပါးလျားလာသည်လား စသည် စသည်ဖြင့် ဝေဖန်စောကြောသင့်ကြပါသည်။ အလုပ် နောက်တွင် ပြန်လည် ဝေဖန် သုံးသပ်ခြင်း မပြုလျှင် လုပ်ငန်းတစ်ရပ်ကို လုံးဝဥဿုံ ပြီးစီးအောင် ဆောင်ရွက်သည်ဟု မဆိုနိုင်ပါ။ ဝေဖန်မှသာ မိမိ၏ အမှားအမှန်ကို သိနိုင်ကြောင်း ကျေးဇူးရှင် ညောင်တုန်းမြို့ အဂ္ဂမဟာပဏ္ဍိတ ရေဟသာ်တောရ ဆရာတော်ဘုရားကြီးက သြဝါဒ ပေးတော်မူခဲ့ပါ၏။

"စားတဲ့အခါမှာ ကောင်းတဲ့အစာဆိုရင် လောဘဖြစ်တတ်တယ်။ များများစားချင်တယ်၊ ကုန်သွားမှာ စိုးရိမ်တယ်၊ လျော့ပါးသွားရင် ကုန်သွားမှာ နှမြောတယ်။ စိုးရိမ်ပူလောင်တယ်။ မကောင်းတဲ့ အစာဆိုရင်လည်း ဒေါသဖြစ်ရတယ်။ မကျေနပ်ဘူး။ စိတ်ဆိုးတယ်။ ဒေါသကြောင့် စားရင်း ပူလောင်ရတယ်။ ကောင်းတဲ့အစာကို လောဘဖြစ်ရာကနေ ကုန်သွားလို့ ဒေါသဖြစ်ရတော့လည်း လောဘကြောင့် ဒေါသဖြစ်ရတယ်။ လောဘနဲ့ ဒေါသနှစ်ခုစလုံးကြောင့် ပူလောင်ရတယ်၊ သည်တော့ လောဘ ဒေါသနဲ့ ဆင်ခြင်ပြီး အသိအမှတ်နဲ့ စားရင် မီးလွတ်တာပေါ့။ မီးဖိုထဲက မီးက ပြဿနာ မဟုတ်ဘူး။ သူ့ဘာသာသူ နေတာပါ။ အဲသည်တော့ သတိထားပြီး မီးလွတ်အောင် စားကြ။ မီးလွတ်အောင် နေကြပေါ့"

အရိမေတ္တေယျ ဘုရားရှင်လက်ထက်တွင် ကျွတ်တမ်းဝင်လိုသော နောက်ဘုရားမျှော်ဝါဒအပေါ် ကျေးဇူးရှင် စတုဂီရိတောင်လေးလုံး ဆရာတော်ဘုရားကြီးက နင့်နင့်နဲနဲပင် ဝေဖန်ဆန်းစစ်တော်မူခဲ့ပါ၏။

"ယခုဘဝ၌ မဂ်ဖိုလ်ကို ရတည်စေခြင်းငှာ မနေမနား ကိုယ့်အသက်ကို စွန့်စား၍ မကျင့်ဘဲလျက် နောက် အရိမေတ္တေယျပွင့်တော်မူခါ လက်ဦးစွာ ဖူးတွေ့ရ၍ မဂ်ဖိုလည်နိဗ္ဗာန်ကို ရလိုပါ၏ဟု အကြင်သူသည် ပတ္ထနာဆုကို ပြု၏။ ထိုသို့ ပတ္ထနာဆုကို ပြုသူသည် ငါတို့ ဘုရားရှင်ကို အားမနာသောသူဟုမှတ်"

ကျေးဇူးတော်ရှင် ဆရာတော်ကြီးများက မသန့်ရှင်း မစင်ကြယ်သော အယူအမြင်နှင့် သာသနာပြင်ပ ကိုးကွယ်ရာအမှားများအပေါ် ဝိဘဇ္ဇဉာဏ်ဖြင့် ကရဏာထားလျက် ဝေဖန်ဆုံးမတော်မူခဲ့သော သြဝါဒမွန်များ အများအပြားရှိပါ၏။ သာသနာတော် သန့်ရှင်းရေးနှင့် ဗုဒ္ဓဘာသာဝင်များ အယူအမြင် စင်ကြယ်ရေးအလို့ငှာ

သာသနာစိတ်ဖြင့် ဝေဖန်သင့်၊ သုံးသပ်သင့်သည်များကို ဝေဖန်သုံးသပ်တော်မူကြခြင်း ဖြစ်ပါ၏။ မျက်မှောက်ပစ္စက္ခဘာသာရေး စာပေနယ်ပယ်တွင်လည်း သာသနာစိတ် ထွန်းပသော ဘာသာရေးစာပေ ရေးသားသူများက ဝိဘဇ္ဇဉာဏ်ကို အသုံးချလျက် ဝေဖန်စိစစ်နေကြခြင်းမှာလည်း သာသနာစိတ်ကြောင့်သာ ဖြစ်ပါ၏။

ဗုဒ္ဓဘာသာဝင်အသီးသီး၏ ဦးနှောက်တွင် ထေရဝါဒ စံပေတံကို အသုံးပြုလျက် ဝေဖန်ဆန်းစစ်သော ဝိဘဇ္ဇဉာဏ် အားကောင်းရှင်သန်လာသည့်အချိန်တွင် မြန်မာ့ရေမြေ တောတောင်၌ သာသနာတော်ကို ခုတုံးလုပ်လျက် လိမ်ညာနေသော အဓမ္မဝါဒီ အင်အားစုများ၊ သာသနာနှင့် ဗီလာဖြစ်သော အယူအမြင်၊ အစွဲဥပါဒါန်နှင့် တိရစ္ဆာန်အတတ်များ ခေါင်းထောင် လူးလွန့်ခြင်း ရနိုင်တော့မည် မဟုတ်ပါ။ မြန်မာ့ရေမြေ တောတောင်အနှံ့အပြားတွင် စင်ကြယ်သော ထေရဝါဒ သာသနာတော်မြတ် သန့်သန့်ရှင်းရှင်း ဝင်းဝင်းလက်လက် ထွန်းပနိုင်စေလိုလျှင် ကိုယ်တိုင်လည်း ဝိဘဇ္ဇဉာဏ်ကို အသုံးချရန် လိုသကဲ့သို့ ဗုဒ္ဓဘာသာဝင် အသီးသီးက အသုံးချစေရန်လည်း နည်းလမ်းမျိုးစုံဖြင့် စည်းရုံးလှုံ့ဆော်ကြပါစို့။

## ဖြည့်စာ

ဗုဒ္ဓမြတ်စွာ သာသနာတော်ကို တိုးတက်ကြီးပွားအောင် ပြုစုချီးမြှောက်ခြင်းသည် (၁) တိုက်ရိုက်ချီးမြှောက်ခြင်း၊ (၂) သွယ်ဝိုက်၍ ချီးမြှောက်ခြင်း၊ (၃) စေတနာဖြင့် ချီးမြှောက်ခြင်း၊ (၄) စေတနာမပါဘဲ ချီးမြှောက်ခြင်းဟူ၍ အကျဉ်းသဘောအားဖြင့် လေးမျိုးရှိပေသည်။

ဗုဒ္ဓမြတ်စွာ သာသနာတော်ကို ဆုတ်ယုတ်ပျက်စီးအောင် ဖျက်ဆီးခြင်းသည်လည်း (၁) တိုက်ရိုက်ဖျက်ဆီးခြင်း၊ (၂) သွယ်ဝိုက်၍ ဖျက်ဆီးခြင်း၊ (၃) စေတနာနှင့် ဖျက်ဆီးခြင်း၊ (၄) စေတနာမပါဘဲ ဖျက်ဆီးခြင်းဟူ၍ အကျဉ်းသဘောအားဖြင့် လေးမျိုးရှိပြန်လေသည်။

ယခုအခါတွင် ဗုဒ္ဓမြတ်စွာ သာသနာတော်ကို ပြည်တွင်း ပြည်ပ ဖြစ်သော အတွင်းရန်သူ၊ အပြင်ရန်သူတို့သည် တိုက်ရိုက်တစ်မျိုး၊ သွယ်ဝိုက်၍တစ်ဖုံ၊ နည်းမျိုးစုံတို့ဖြင့် အမျိုးမျိုးသော ဖျက်ဆီးခြင်းများ ရှိနေကြ၏။ တိုက်ရိုက်ဖျက်ဆီးသော ရန်သူကို သာမန်အားဖြင့် သိမြင်နိုင်ကြသော်လည်း နည်းပရိယာယ်ဖြင့် သွယ်ဝိုက်၍ ဖျက်ဆီးသော ရန်သူကို အထူးသတိထား၍ မကြည့်က မသိမမြင်နိုင် ဖြစ်သည်။

သို့အတွက် ဗုဒ္ဓမြတ်စွာ သာသနာတော်ကြီး မပျက်မစီး အရှည်တည်တံ့ကြီးပွားအောင် ကာကွယ်စောင့်ရှောက် ချီးမြှင့်ရမည့် တာဝန်မှာ ဗုဒ္ဓဘာသာဝင်တို့၏ တာဝန်ပင် ဖြစ်ပေသည်။ အထူးသတိထား၍ နည်းအမျိုးမျိုးတို့ဖြင့် ညီညီညွတ်ညွတ် အချိန်မီ ကာကွယ်စောင့်ရှောက်ကြရန် အရေးကြီးနေပြီဖြစ်ကြောင်းကို ဗုဒ္ဓဘာသာဝင်အပေါင်းတို့ သိရှိကြရန် လိုအပ်ပေသည်။

အချို့ ဗုဒ္ဓဘာသာဝင် ဒကာ၊ ဒကာမများလည်း ဘာသာ သာသနာရေးဆိုင်ရာ ဗဟုသုတ အသိဉာဏ် မရှိ၍ သာသနာဖျက်လိုသော စေတနာမပါဘဲ တစ်နည်းတစ်ဖုံအားဖြင့် သာသနာအဖျက်ထဲ ပါဝင်နေကြပုံကို အမျိုးမျိုးအစားစား ထုတ်ပြစရာ ဥပမာအများပင် အထင်အရှားရှိသည်။

ဗုဒ္ဓဘာသာဝင်အပေါင်းတို့သည် ဘာသာ သာသနာရေးဆိုင်ရာ ဗဟုသုတ အသိဉာဏ်ရှိမှ ရတနာသုံးပါးကို အကျိုးရအောင် ကိုးကွယ်ဆည်းကပ် ကြည်ညို လှူဒါန်းတတ်သည်။ သာသနာကိုလည်း ကြီးမြှောက်အောင် ချီးမြှောက်တတ်သည်။ ယခုအခါ အချို့မှာ ဘာသာ သာသနာရေးဆိုင်ရာ အသိဉာဏ်မရှိ၍ ရတနာသုံးပါး စသည်တို့ကို မကိုးကွယ်တတ်၊ မဆည်းကပ်တတ်၊ မလှူဒါန်းတတ်၊ မကြည်ညိုတတ်သည့်အတွက် ကိုးကွယ်ဆည်းကပ် လှူဒါန်းကြည်ညိုခြင်းအမှုကို ပြုပါသော်လည်း အကျိုးမရမှု၍ လှူဒါန်းကြည်ညိုခြင်းအမှုကို ပြုပါသော်လည်း အကျိုးမရမှု၍ အပြစ်သာရပြီး နေကြသည်။ သာသနာတော်ကို ချီးမြှောက်ပါသော်လည်း ချီးမြှောက်ရာ မရောက်ဘဲ ဖျက်ဆီးရာသာ ကျနေသည်။

(မြောင်မြို့၊ ဆင်ရှင်ဆရာတော်ကြီး၏ ဩဝါဒကထာမှ)

၁၉၉၄ ခုနှစ်၊ ဇန်နဝါရီလထုတ် **ဓမ္မရံသီမဂ္ဂဇင်း**တွင် ဖော်ပြပါရှိခဲ့သော **ဆရာစန္ဒကျော်ခေါင်**၏ **ဘုန်းကြီးကိုးကွယ်တတ်ရဲ့လား** ဆောင်းပါးကို ဖတ်ရှုပြီးသောအခါ မြောင်မြို့ ဆင်ရှင်ဆရာတော်ဘုရားကြီး၏ အထက်ပါ ဩဝါဒတော်ကို အမှတ်ထင်ထင် သတိရဆင်ခြင်မိပါသည်။

သာသနာတော်ကို ကြည်ညိုသည်ဆိုရာ၌ ထေရဝါဒ အသိအမြင်နှင့် ယှဉ်တွဲဖို့ ပဓာန ကျလှပါသည်။ ထေရဝါဒ အသိဉာဏ်နှင့် ယှဉ်သော ကြည်ညိုမှု ဖြစ်မှသာ စစ်မှန်သော ကြည်ညိုမှုဖြစ်ကာ သာသနာအား အားပေးချီးမြှောက်နိုင်ပေမည်။ ထေရဝါဒ အသိဉာဏ်နှင့် မယှဉ်သော တုံးတိသဒ္ဓါကမူ သာသနာအား အားပေးချီးမြှောက်ရာ မရောက်သည့်အပြင် ***(စေတနာမပါသော်ငြား)*** ဖျက်ဆီးရာ ရောက်ပေသည်။ ဆရာစန္ဒကျော်ခေါင်က ဘုန်းကြီးကိုးကွယ်မှုနှင့် ပတ်သက်၍ အဓိကကျသော အချက်များကို ဆောင်းပါးတစ်ပုဒ်တည်းဖြင့် ငုံမိအောင် အကျဉ်းချုပ် တင်ပြသွားခဲ့ပါသည်။

'ဘယ်အမှုသည် အလဇ္ဇီဓမ္မ၊ အဘယ်ပုဂ္ဂိုလ်သည် အလဇ္ဇီ၊ အလဇ္ဇီအပေါ် မည်သို့ သဘောထားသင့်သည်' စသော အချက်များနှင့် ပတ်သက်၍ စာဖတ်သူများအနေဖြင့် အတန်ငယ် ကျယ်ကျယ်ပြန့်ပြန့် သိစေလိုသော စေတနာဖြင့် ကျမ်းဂန်အချို့မှ ထုတ်နုတ်တင်ပြလိုက်ပါသည်။

မင်းတုန်းမင်းတရားကြီးလက်ထက် သာသနာတော်နှင့် စပ်၍ ထုတ်ပြန်တော်မူအပ်သော ဓမ္မဝိနယ အမိန့်တော်ပြန်တမ်းမှ အလဇ္ဇီဓမ္မအချို့ကို ကောက်နုတ်တင်ပြရသော်...

**ဗေဒင်ဟောခြင်း၊ ဆေးကုခြင်း**

ဝါးပေးခြင်းစသော နှစ်ဆယ့်တစ်ပါးသော အနေသနတို့၌ အကျုံးဝင်သော လူတို့ကို ထမင်းကျွေးခြင်း၊ မုန့်ကျွေးခြင်း၊ ကွမ်း၊ ဆေးတည်ခြင်း နေရာခင်း၍ အရိုအသေပြုခြင်း၊ဗေဒင်ဟောခြင်း၊ ဆေးကုခြင်း စသော အလဇ္ဇီဓမ္မ။

**တိရစ္ဆာနဝိဇ္ဇာ**

ဆင်စီး မြင်စီး ရထားစီး အတတ်စသော မဂ်ဖိုလ်တို့မှ ဖီလာဖြစ်သော၊ တိရစ္ဆာနဝိဇ္ဇာအတတ်မျိုး၌ အကျုံးဝင်သော၊ ပြဒါးကို သေအောင်ပြုခြင်း၊ ပြဒါးကို ပြာချခြင်း၊ ပြဒါးကို ခဲစေခြင်း စသည်တို့ကို ဆိုသော တိရစ္ဆာနဝိဇ္ဇာ၊ လောကာယတကျမ်းကို ရဟန်းတို့ သင်သည်လည်း မသင်အပ်၊ သူတစ်ပါးတို့ကိုလည်း မပြောအပ်၊ ပြုလည်းမပြုအပ်။ကြေးငွေမပါ သစ်မြစ်၊ သစ်ရွက်စသော အရာတို့ဖြင့်သာ ပြဒါးသေခြင်း၊ ပြဒါးပြာချခြင်း၊ ပြဒါးခဲခြင်း စသော အတတ်တို့ကို လေ့လည်း မလေ့ကျင့်အပ်၊ သူတစ်ပါးတို့ကိုလည်း မပြအပ်၊ လုပ်လည်း မလုပ်အပ်။ လေ့ကျက်ပြသ ပြုလုပ်သော ရဟန်းတို့သည် ခွန်းတိုင်း ခွန်းတိုင်း ပယောဂတိုင်း ပယောဂတိုင်း ဒုက္ကဋ်အာပတ်သင့်ခြင်းဟူသော အလဇ္ဇီဓမ္မ။

**အဂ္ဂိရတ်**

ငွေနှင့်ကြေး၊ ခဲကိုစပ်၍ စပ်တုအဂ္ဂိရတ် ပြုလုပ်သူတို့ဉည် လုပ်ဆောင်ရန် ငွေကို ခံကတည်းကပင် နိဿဂ္ဂိယပါစိတ်အာပတ် သင့်သည်။ ခဲ၊ ကြေးနီ တို့ကို ငွေနှင့်စပ်၍ သုံးသောအခါ ရှိုးခြင်း

နှစ်ဆယ့်ငါးပါးတွင်ဝေယျာဝဟာရ၌ အကျုံးဝင်သောကြောင့် ကဋ္ဌကဟက ပဏ္ဏာဝဟာရဖြင့် ဆုံးဖြတ်အပ်သည်။ ကြေးနီငါးကျပ်ကို ငွေမွေးထင်စေ၍ သုံးဆောင်လျှင် ပါရာဇိကဖြင့် ဆုံးဖြတ်အပ်သည်ဟု ကျမ်းဂန်လာသည်ကို ပြုကျင့်ကျူးလွန်ခြင်းဟူသော အလဇ္ဇီဓမ္မ။

ထိုအလဇ္ဇီအတတ်ကို မှီ၍ရသော ပစ္စည်းတို့ကိုလည်း ရဟန်းတို့ မသုံးဆောင်ထိုက်ဘဲ သုံးဆောင်ခြင်းဟူသော အလဇ္ဇီဓမ္မ။

**ပရိက္ခရာကို ရောင်းချခြင်း**

ရဟန်းတို့ ပရိက္ခရာကို ရောင်းချ၍ရသော ရေ၊ ငွေ စသော နိဿဂ္ဂိယဝတ္ထုတို့ကို ကိုင်ခြင်း၊ ခံခြင်း ဟူသော အလဇ္ဇီဓမ္မ။

**ပန်းပေးခြင်း၊ သစ်သီးပေးခြင်း**

ပန်းပေးခြင်း၊ သစ်သီးပေးခြင်း၊ ကသယ်မှုန့်ပေးခြင်း၊ မြေညက်ပေးခြင်း၊ ညန်ပူပေးခြင်း၊ ဝါးပေးခြင်း၊ ဆေးပေးခြင်း၊ သလုံးမြင်းခေါင်းဖြင့် ဒါယကာတို့၏ အစေအပါးကို ခံခြင်း၊ ဤရှစ်ပါးသော ကုလဒူသကအမှုတို့ကို ပြုခြင်းဟူသော အလဇ္ဇီဓမ္မ။

**အံ့ဖွယ်သူရဲကို ဖြစ်စေခြင်း**

အသက်မွေးခြင်းဟူသော အကြောင်းကြောင့် ပညတ်တော်မူအပ်သော ခြောက်ပါးသော သိက္ခာပုဒ်တော်ကို လွန်ကျူးခြင်း၊ အံ့ဖွယ်သူရဲကို ဖြစ်စေ၍ လာဘ်ကိုရှာမှီးခြင်း၊ ပစ္စည်းရခြင်း၏ အကြောင်းကို ပြောဆို၍ လာဘ်ကိုရှာမှီးခြင်း၊ ရှုပ်ပြီးသော အနည်းငယ်သော လာဘ်ကို ပေးသဖြင့် မရသေးသော များစွာသော လာဘ်တို့ကို တောင့်တရှာမှီးခြင်း စသော ယုတ်မာသော သဘော၏ အစွမ်းဖြင့် ဖြစ်သော မိစ္ဆာဇီဝဟူသော အလဇ္ဇီဓမ္မ။

အလဇ္ဇီပုဂ္ဂိုလ်တို့အပေါ် ဒကာ၊ ဒကာမများအနေဖြင့် မည်သို့ သဘောထား ပြုမူသင့်ကြောင်းကိုလည်း အောက်ဖော်ပြပါ ကောက်နုတ်ချက်များကို ဖတ်ရှုဆင်ခြင်ကြည့်ပါလေ။

**သာသနာတော်ကို ဒဏ်ထားသောအမှု**

စာပေတတ်မြောက်ခြင်းသည် ပမာဏမဟုတ်။ ဒကာများသည်သာ ပမာဏဟု အမှတ်ပြုလျက် ဒါယကာတို့နှင့် မိတ်ဆွေခင်ပွန်း အကျွမ်းတဝင် ပြုကြခြင်း၊ ဒါယကာဖြစ်သူကလည်း မိတ်ဆွေ ခင်ပွန်းအလျောက် မလျောက်ပတ်သော သံဃာကိုသာ အကြည်တညိုရှိသေခြင်း စသည်များသည် သာသနာတော်ကို ဒဏ်ထားသော အမှုချည်းဖြစ်၍ အပြစ်ကြီးလှသည်။

***(တတိယနန်မော် ဆရာတော်ဘုရားကြီး၏ သီလဝိသောဓနီကျမ်းမှ)***

**အလဇ္ဇီလျှ သာသနာဖျက်**

ဤသို့ စသော အလဇ္ဇီအစဖြစ်ကို ပြတတ်သော သိက္ခာပုဒ်တော်ကို လေးစားမမှု၊ သဗ္ဗညုမြတ်စွာဘုရား၏ ရေမျက်နှာ်တော်ကို မထောက်မညှာ၊ တစ်သက်လျာမျှလောက် လာဘ်ပူဇော်သကာရကို ငဲ့၍ ရဟန်းကောင်းတို့၏ အသွင်အပြင်၊ အဝတ်အဆင်ကား အရဟတ္တဓဇဖြစ်သော မြတ်သော အဝတ်၊ အကျင့်ကား မြတ်စွာဘုရား သာသနာတော်၏ ဆူးငြောင့်ခလုတ် ယုတ်မာလှသော အကျင့်ဖြစ်၍ သာသနာတော်ကို ဖျက်ဆီးတတ်သော အလဇ္ဇီပုဂ္ဂိုလ်တို့ကို အားပေးအားမြှောက် ပူဇော်လှူဒါန်းသူတို့လည်း အလဇ္ဇီနှင့် ပေါင်းဖက်၍ သာသနာတော်ကို ဖျက်ဆီးသည် မည်လေသောကြောင့်..

**(ဓမ္မဝိနယ အမိန့်တော်ပြန်တမ်းမှ)**

**အထောင်အသောင်းပင်ရှိသော်လည်း**

လဇ္ဇီ ၁၀၀ကို အလဇ္ဇီတစ်ယောက်တည်းက တစ်ခဏချင်း အလဇ္ဇီဖြစ်အောင် စွမ်းဆောင်နိုင်ရာသည် ဟူသောကြောင့် လည်းကောင်း၊ လဇ္ဇီပုဂ္ဂိုလ် သာသနာကို စောင့်လတ္တံ့ဟူသောကြောင့် လည်းကောင်း၊ အလဇ္ဇီပုဂ္ဂိုလ် ထောင်သောင်းပင်ရှိသော်လည်း သာသနာမထွန်း။ လဇ္ဇီပုဂ္ဂိုလ်သည် ယုတ်စွအဆုံး ငါးယောက်မျှပင် ရှိသော်လည်း သာသနာတော် တည်ထွန်းသည်ဟု ဆိုသော်ကြောင့် ပညတ်တော်အတိုင်းတည်အောင် ပညတ်တော်ကို မလိုမပိုရအောင် ကျင့်ဆောင်ရမည်။

***(တတိယနံမော် ဆရာတော်ဘုရားကြီး၏ သီလဝိသောဒနီကျမ်းမှ)***

**စိစစ်၍ ကိုးကွယ်ပူဇော်**

အဆိုပါ ဆဋ္ဌသင်္ဂါယနာ ဓမ္မဝိနယ အမိန့်တော်ပြန်တမ်းနှင့် ဆန့်ကျင်သည့် အလဇ္ဇီဒုဿီလပါပ ပုဂ္ဂိုလ်တို့မှာ သာသနာတော်၏ ဆူးငြောင့်အညစ်အကြေးသဖွယ် ဖြစ်သည်ဟူ၍လည်းကောင်း၊ ဤနိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က ယုံကြည်ပါသောကြောင့် အနာဂတ် သာသနာတော် တည်မြဲရေး၊ တိုးတက်ကြီးပွားရေး၊ သန့်ရှင်းစင်ကြယ်ရေးတို့ကို ရှေးရှုကာ ဝိစေယျဒါနံဒါတဗ္ဗံဟူသော ပါဠိတော်နှင့်အညီ အဆိုပါ ဆဋ္ဌသင်္ဂါယနာ ဓမ္မဝိနယ အမိန့်တော်ပြန်တမ်းနှင့် ညီညွတ်စွာ လိုက်နာတော်မူသည့် ရဟန်းတော် အရှင်မြတ်တို့အား စိစစ်၍ ကိုးကွယ်ပူဇော်ကြရန် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီး၏ ဗုဒ္ဓဘာသာဝင်အပေါင်းတို့အား လေးနက်စွာ တိုက်တွန်းပါကြောင်း။

***(၃၁-၅-၅၆ နေ့၊ နိုင်ငံတော် ဗုဒ္ဓသာသနအဖွဲ့ အမှုဆောင်အစည်းအဝေးမှ ဆုံးဖြတ်ချက်)***

**ပြောင်မြောက်သောအဆို**

သူတော်မဟုတ် ယုတ်သောအကျင့် ရှိသော အလဇ္ဇီပုဂ္ဂိုလ်တို့ကား သဒ္ဓါဒုဗ္ဗလ ပညာနည်းလှသော သူတို့ကိုသာ ရှာ၍ ပေါင်းကြသည်။ သဒ္ဓါဒုဗ္ဗလ ပညာနည်းလှစွာသော သူတို့ကလည်း အလဇ္ဇီပုဂ္ဂိုလ်တို့ကိုသာ ချီးမြှောက်ထောက်ပံ့ခြင်းကို ပြုကြကုန်သည်။

ခွေးတိရစ္ဆာန်သည် သာသနာတော်မြတ်ကို မဖျက်ဆီးနိုင်။ ထိုသို့ မဖျက်ဆီးနိုင်သော ခွေးသည် အဝီစိသို့ မကျရ။ လူသည် သာသနာတော်မြတ်ကို ဖျက်ဆီးနိုင်သည်။ ထိုသို့ ဖျက်ဆီးနိုင်သောလူသည် အဝီစိသို့ကျရသည်။ မောင်မင်းတို့သည် သာသနာတော်မြတ်ကို ဖျက်ဆီးကုန်သော အလဇ္ဇီပုဂ္ဂိုလ်တို့အား ချီးမြှောက်ထောက်ပံ့ခြင်းကို မပြုကြကုန်လင့်။ အဝီစိငရဲကြီးသို့ ကျဆင်းကြရမည်ကို ကြောက်ကြကုန်။

**(မင်းတုန်းမင်းတရားကြီး)**

**ဤမျှဆိုလျှင်**

**ဆေးကုသောဘုန်းကြီး**

**ဗေဒင်ဟောသောဘုန်းကြီး**

**အင်းဘုန်းကြီး**

**လက်ဖွဲ့ပေးသောဘုန်းကြီး**

**ချဲဂဏန်းပေးသောဘုန်းကြီး**

**ယတြာဘုန်းကြီး**

**မန္တန်ဘုန်းကြီး**

အင်္ဂရတ်ထိုးသော ဘုန်းကြီး တို့ အပေါ် မည်သို့ သဘောထားရမည်၊ မည်သို့ ပြုမူဆက်ဆံရမည်ကို စာရှုသူများ သိမြင်ဆင်ခြင်နိုင်ကြလိမ့်မည်ဟု ယူဆရပါသည်။

သာသနာတော်မြတ်ကို စေတနာမပါဘဲ ဖျက်ဆီးသော ပုဂ္ဂိုလ်၊ သွယ်ဝိုက်၍ ဖျက်ဆီးသော ပုဂ္ဂိုလ် စာရင်းတွင် အဝင်အပါ မဖြစ်စိမ့်သောငှာ (ထေရဝါဒဗုဒ္ဓစာပေများကို ဖတ်ရှုလေ့လာလျက်) ဂရုဓမ္မပြုကြပါဟု စေတနာစကား လက်ဆောင်ပါးလိုက်ရပါသည်။

■

## မဟာယာန ဧည့်စိမ်း

ယနေ့မျက်မှောက် ကမ္ဘာတွင် နိုင်ငံတိုင်းလိုလို တံခါးဖွင့်မူဝါဒ ကျင့်သုံးလျက် ရှိနေကြသည်။ မြန်မာနိုင်ငံသည်လည်း စီးပွားရေး တံခါးဖွင့်မူဝါဒကို ကျင့်သုံးလျက်ရှိပါသည်။

ဤတွင် နိုင်ငံတကာနှင့် အကူးအလူး အဆက်အဆံ များလာသည်။ ယဉ်ကျေးမှု၊ စီးပွားရေး၊ အသိပညာ၊ အတတ်ပညာ၊ နည်းပညာစသော မျက်နှာစာအသီးသီးတွင် ရေခြား၊ မြေခြားမှ ယူသင့်သည်တို့ကို ယူရပေမည်။ ပယ်သင့်သည်တို့ကို ပယ်ရပေမည်။ မိမိတို့နိုင်ငံ၊ လူမျိုးဓလေ့ထုံးစံတို့နှင့် ကိုက်ညီသည်တို့ကို ယူရပေမည်။ မကိုက်ညီသည်တို့ကို ပယ်ရပေမည်။

ရေခြားမြေခြားမှ အရာအားလုံးကို လက်မခံ၊ စွန့်ပယ်ခြင်းသည် ဇာတိမာန် ဖောင်းပွခြင်း ဖြစ်သလို ရေခြား မြေခြားမှ အရာအားလုံးကို ဇွတ် အထင်ကြီး၍ အားလုံးကို ယူလျှင် ဇာတိမာန် ပိန်ရှုံ့ခြင်း ဖြစ်ပါသည်။ ဤအစွန်းတရားနှစ်ပါးမှ ရှောင်ရှားနိုင်ဖို့ လိုပေသည်။ နိုင်ငံ၏ ခေဥစ္စာဖွံ့ဖြိုးတိုးတက်ရေးအတွက် အတတ်ပညာများ၊ နည်းပညာများကိုမူ ယူသင့်သည်တို့ကို ယူရပေလိမ့်မည်။ သို့သော်...

သို့သော် ဘာသာရေးတွင်ကား ထိုသို့ မဟုတ်ချေ။ ဘာသာရေးနှင့် ပတ်သက်လာလျှင် မြန်မာနိုင်ငံအဖို့ မည်သူ့ထံကမှ ယူရန် မလိုပါ။ အခြားနိုင်ငံများကသာလျှင် မြန်မာနိုင်ငံထံမှ ယူရန် ဖြစ်ပါသည်။ လက်တွေ့တွင်လည်း မြန်မာနိုင်ငံသည် အခြားဗုဒ္ဓဘာသာနိုင်ငံများသို့ ပရိယတ် ပဋိပတ်ဆိုင်ရာ အကူအညီများ ပေးလျက် ရှိပါသည်။

ကျွန်တော်တို့ ကိုးကွယ်သော ထေရဝါဒ ဗုဒ္ဓဘာသာသည် အကြွင်းမဲ့ ပြည့်စုံသောဘာသာ ဖြစ်ပါသည်။ မည်သူ့ထံကမှ ယူစရာ မလို။ ဖြည့်စွက်စရာမရှိ။ မိမိတို့ကသာ ပေးစရာရှိသည်။ အခြား အခြားသော ဗုဒ္ဓဘာသာနိုင်ငံများသည် လည်းကောင်း၊ ကမ္ဘာအရပ်ရပ်ရှိ ဗုဒ္ဓဘာသာဝင်များသည် လည်းကောင်း ဘာသာရေးနှင့် ပတ်သက်လာလျှင် မြန်မာနိုင်ငံ၏ အကူအညီကို အားကိုးတကြီး လှိုက်လှိုက်လှဲလှဲ တောင်းခံရယူကြသည်။ ထေရဝါဒ ဗုဒ္ဓဘာသာဝင် တစ်ဦးအဖို့ ဤအချက်ကို အလေးအနက် နှလုံးသွင်းဖို့ လိုပါသည်။

ဤစစ်မှန်သော ပကတိအရှိအနေအထားကို လျစ်လျူရှုပြီး 'ဦ မဏိပဒ္မေဟုံ' ဟူသော ရေခြား မြေခြား ဧည့်စိမ်းကို မြန်မာနိုင်ငံတွင် တန်းတင်လာသည်။ အတ္တအကျိုးငှာ အမျိုးမျိုး ဟိမဝန္တာ မဟာချီးမွမ်းခန်းဖွင့်၍ ပွဲထုတ်လာသည်။

ထိုအခါ ဘာသာ သာသနာသွေး ဖြူရော်ဖျော့တော့သူများ၏ ဘုရားစင်တွေမှာ၊ ဧည့်ခန်းတွေမှာ၊ ဈေးဆိုင်တွေမှာ၊ ကားတွေပေါ်မှာ ထိုဧည့်စိမ်းက မင်းမူ စိုးမိုးလာသည်။ ရှေးရိုးစဉ်လာ ထေရဝါဒ ကျမ်းဂန်လာ အရဟံကို ချိတ်ဆွဲသော နေရာများတွင်ပင် ထိုဧည့်စိမ်းက တွန်းထိုးနေရာယူလာသည်။ နေရာမပေးသင့်သော ဧည့်စိမ်းကို မတန်မရာ နေရာပေးလက်ခံသည်မှာ ကျွန်တော်တို့ အိမ်ရှင်တွေ ညံ့လွန်း၍သာ ဖြစ်သည်။ သာသနာဆိုင်ရာ ယုံကြည်ချက် မခိုင်မာမှုနှင့် ဘာသာရေးဆိုင်ရာ အသိအမြင် ဗဟုသုတ ချွတ်ခြုံကျ၍သာ

'ဦး မဏိ ပဒ္မေဟုံ'

ထိုဂါထာစိမ်း၏ အဓိပ္ပာယ်က ဘာလဲ။ ထေရဝါဒပိဋကတ်တော်မှာ သည်ဂါထာပါရဲ့လား။ ဘုရားခန်းမှာ၊ ဧည့်ခန်းမှာ၊ ဈေးဆိုင်ခန်းတွေမှာ ချိတ်ဆွဲမှု မပြုမီ၊ သည်ဂါထာကို မရွတ်ဆိုမီ၊ သည်ဂါထာနဲ့ ပုတီးမစိပ်မီ သည်ဂါထာ၏ အဓိပ္ပာယ်ကို သိဖို့ လိုပေလိမ့်မည်။ သိကောသိကြရဲ့လား။

ဤဂါထာနှင့် ပတ်သက်၍ ကျွန်တော် လက်လှမ်းမီ ဂရုပြုမိသမျှ အစောဆုံး သတိပေးတော်မူခဲ့သော အရှင်သူမြတ်မှာ မြန်မာစာ ဩဝါဒါစရိယအဖွဲ့ အကျိုးတော်ဆောင်နှင့် နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော် ဘဒ္ဒန္တလောကသာရ ဖြစ်ပါ၏။ ၁၉၉၀ ပြည့် မတ်လထုတ် မြတ်မင်္ဂလာ မဂ္ဂဇင်း အမေး– အဖြေကဏ္ဍတွင် ဦးသန့်ညွှန့်ဆိုသူ၏ အမေးကို ပြန်လည်ဖြေဆိုတော်မူရင်း သည်ဂါထာအပေါ် ဆရာတော်၏ သဘောထားကို ဤသို့ ပြတ်ပြတ်သားသား ထုတ်ဖော်တော်မူခဲ့ပါသည်။

"ထေရဝါဒ ဗုဒ္ဓဘာသာဆိုင်ရာ မဟုတ်သဖြင့် ဤမန္တန်ကို အသုံးမပြုသည်သာ ကောင်းပါသည်။ ထေရဝါဒမဟာနာမက္ကရ 'နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ' ကိုသာ အရာခပ်သိမ်း အသုံးပြုသင့်ကြောင်း တိုက်တွန်းပါသည"

တစ်ဖန် ၁၉၉၀ ပြည့် ဩဂုတ်လထုတ် ဓမ္မရံသီ မဂ္ဂဇင်း အမေး– အဖြေကဏ္ဍတွင်လည်း မသင်းသင်းကြိုင်၊ မသင်းသင်းလှိုင်တို့၏ အမေးကို ဆရာ ဓမ္မပါလက ဖြေကြားခဲ့ရာ၌ သူ၏ သဘောထားကို အောက်ပါအတိုင်း တင်ပြသွားခဲ့ပါသည်။

"ဆရာတို့က ထေရဝါဒီ စစ်စစ်တွေပါ။ ဗုဒ္ဓဘာသာတွေပါ။ ၎င်း စာစုက ထေရဝါဒ ပိဋကတ်သုံးသွယ်၊ နိကာယ်ငါးရပ်မှာ လုံးဝ မပါရှိပါ။ အဋ္ဌကထာ၊ ဋီကာတို့မှာလည်း မတွေ့ရပါ။ ဗုဒ္ဓဘာသာစာ၊ ဂါထာမဟုတ်ပါ။ ဇာစ်မြစ်က ဒီလိုပါ။ မဟာယာန အယူဝါဒရှိကြသည့် တိဗက်လူမျိုးတို့မှာ ၎င်းတို့၏ နတ်ဖုရားကို ရွတ်ဆို ကိုးကွယ်ခြင်း ပြုရာ၌ အသုံးပြုသည့် စာပိုဒ်စုမျှသာ ဖြစ်ပါသည်။ လောကီအကျိုး နိဗ္ဗာန်အကျိုးတို့ကို အံ့ဖွယ်ရရှိနေကြသည်ဟူသော ကြွားလုံးကိုတော့ ယုံရခက်ခက်ပါကွယ်။ ထေရဝါဒ မှေးမှိန်ပျောက်ကွယ်တတ်သည်ကို သတိမထားမိကြဘဲ မိမိကိုယ်၌လည်း သရဏဂုံပျက်တတ်ပါသည်။ ဉာဏ်မြင် အသိ ဆင်ခြင်ကြည့်ကြပေါ့။ ထို့ကြောင့် လက်တွေ့ မဆန်သော အတွေးအခေါ် အယူအဆနှင့် ကျင့်သုံးလိုက်နာမှုမျိုးတို့ကို အသိတရားနှင့် သတိထားပြီး ရှောင်ကွင်းသင့်ပါကြောင်း"

ကမ္ဘာအေးကုန်းမြေ ပိဋကတ် စာကြည့်တိုက်မှူးဖြစ်သော စာရေးဆရာ မာဂဓီ သာစည်ဆရာတော် (အနှစ်သုံးပါး တရားကဗျာ ရေးဖွဲ့သူ) ကလည်း ၁၉၉၁ ခုနှစ် ဇန်နဝါရီလထုတ် ဓမ္မရံသီတွင် မဏိပဒ္မေဟုံကို သတိပြုကြပါ အမည်ရှိ ဆောင်းပါးတစ်ပုဒ်ဖြင့် သတိပေးတော်မူခဲ့ပါသည်။ ဆရာတော် မာဂဓီ သာစည်သည် ဤဂါထာနှင့် ပတ်သက်၍ ခြေခြေမြစ်မြစ်စေ့စေ့စပ်စပ် ရေးသားတော်မူခဲ့သလို သူ၏ သဘောထားနှင့် ရပ်တည်ချက်ကိုလည်း ပြတ်ပြတ်ရှင်းရှင်း ပွင့်ပွင့်လင်းလင်း ထုတ်ဖော်ရေးသားတော်မူခဲ့ပါသည်။

ထေရဝါဒ ဘုရားရှိခိုးစာတွေ မြောက်မြားစွာ ရှိနေပါလျက် ကိုယ့်ဘုရားရှိခိုးစာကိုတော့ မရွတ်ချင်၊ ဘုမသိ ဘမသိ အခြေခံမသိဘဲ မဟာယာန ဘုရားရှိခိုးစာကိုမှ အဆန်းထင်ပြီး အထင်ကြီးနေခြင်းသည် ကိုယ်ညံ့ရာ မရောက်ပါလား။ ဘာသာရေး အခြေခံ မခိုင်ရာ မရောက်ပါလား"

ဥုံမဏိပဒ္မေဟုံသမားများ မိမိ၏ ဘာသာရေး အခြေခံ မည်မျှယိုင်နဲ့နေသည်ကို ဆန်းစစ်ကြဖို့ ဆရာတော် မာဂဓီ သာစည်က သတိပေးခဲ့ပါသည်။

"ထေရဝါဒနှင့် မဆိုင်သော ဥုံမဏိပဒ္မေဟုံကို စိတ်ဝင်စားသလို ထေရဝါဒ၏ အားထားရာ သဗ္ဗညုဘုရားရှင်၏ ဂုဏ်တော်ကြီးများကို သင် စိတ်ဝင်စားပါရဲ့လား"

ဆရာတော်၏ ဤမေးခွန်းမှာလည်း ထိမိပြောင်မြောက်လှပါသည်။

"သရဏဂုံကို ဦးထိပ်မထားဘဲ မဏိပဒ္မေဟုံကို ဦးထိပ်ထားနေပါက သရဏဂုံ ညစ်နွမ်းအောင် လုပ်သူများ စာရင်းတွင် ပါဝင်နေပါသည်။ သရဏဂုံညစ်နွမ်းသော အဆင့်တွင် ရပ်မနေဘဲ သရဏဂုံ ပျက်စီးသော အခြေသို့ ရောက်မှာကိုပင် စိုးရိမ်ရပါသည်"

'ဥုံမဏိပဒ္မေဟုံ'သည် ဗုဒ္ဓဘာသာဝင်တို့၏ သရဏဂုံကို ညစ်နွမ်းစေနိုင်စွမ်း၊ ပျက်စီးစေနိုင်စွမ်း ရှိကြောင်း ဆရာတော်က စိုးရိမ်ကြောင့်ကြတော်မူခဲ့ပါသည်။

"မဏိပဒ္မေဟုံကို လက်ခံထားပါက ထေရဝါဒ သာသနာကို အားနည်းအောင် လုပ်သည်နှင့် တူနေပါသည် " ဤကား သည်ဂါထာနှင့် ပတ်သက်သော ဆရာတော် မာဂဓီသာစည်၏ သဘောထား ရပ်တည်ချက်ပင် ဖြစ်၏။ ဤမျှဆိုလျှင် ဤ'ဥုံမဏိပဒ္မေဟုံ ဧည့်စိမ်း' ကို မြန်မာ့ရေမြေတောတောင်တွင် လက်ခံထားရှိမှု မပြုထိုက်သည်မှာ ရှင်းလင်းပြတ်သားသွားပေပြီ။

သို့ဖြစ်၍ 'ဥုံမဏိပဒ္မေဟုံ' ကို ရွတ်ဆိုသူများ၊ ဆောင်သူများ၊ ချိတ်ဆွဲထားသူများ ဤဂါထာကို အမွှမ်းတင် ရေးသားသော နက္ခတ္တဗေဒဆိုင်ရာ မဂ္ဂဇင်းအချို့သည် မိမိတို့၏ အပြုအမူကို ပြန်လည်ဆန်းစစ် ပြုပြင်ကြဖို့ လိုပေပြီ။

အမျိုး ဘာသာ သာသနာကို အသက်နှင့်အမျှ ချစ်ခင်မြတ်နိုးသူတိုင်းသည် ထေရဝါဒ ဗုဒ္ဓသာသနာ အထွန်းတောက်ဆုံး ဖြစ်သော အမိ မြန်မာပြည်သို့ ရေခြား မြေခြားမှ ဝင်ရောက်လာသော မဟာယာနဧည့်စိမ်း ဖြစ်သည့် 'ဥုံမဏိပဒ္မေဟုံ' ခြေချ ရပ်တည်ခွင့် မပေးဘဲ နေကြပါစို့။ ထေရဝါဒ အိမ်ရှင်တိုင်းက လက်မခံလျှင် မဟာယာန ဧည့်စိမ်းသည်...။

■

## အကျင့်တစ်လမ်း စာတစ်လမ်းလော

တရားများစွာ သိပြီး တရားအားထုတ်လျှင် စာခံနေသဖြင့် တရားရရန် ခက်သည်။ တရားမသိဘဲ တရားအားထုတ်လျှင် အဖြူထည် ဖြစ်သဖြင့် တရားရဖို့ ပိုလွယ်သည်။ လစဉ်ထုတ် စာစောင်တစ်ခုတွင် ဖော်ပြပါရှိသော ဒဿနဆရာတစ်ဦး၏ နီတိ ဒဿန ဖြစ်ပါသည်။

အထက်ပါစာပိုဒ်ကို ဖတ်ပြီးသောအခါ ရင်ထဲ၌ ပြန်လည် ပြောဆိုဆွေးနွေးလိုသော ဆန္ဒများ တဖွားဖွား ဖြစ်တည်လာပါသည်။ ထိုအယူအဆကို ဖော်ထုတ်တင်ပြခဲ့သူမှာ ကျွန်တော့ထက် အသက်၊ သိက္ခာ၊ ပညာ၊ သမ္ဘာ ကြီးမားသူလည်း ဖြစ်ပါ၏။ ပုဂ္ဂိုလ်ရေး အနေအားဖြင့် ကျွန်တော်လေးစားသူတစ်ဦးလည်း ဖြစ်ပါ၏။

ပြင်ပတွင် ပုဂ္ဂိုလ်ချင်း တွေ့ဆုံခိုက် အထက်ပါစကားမျိုး ပြောဆိုလျှင် ဂါရဝ၊ နိဝါတအရ မည်သို့မျှ ပြန်လည်ဆွေးနွေးမည် မဟုတ်ပါ။ သို့တစေ အများပြည်သူ ဖတ်ရှုသော မဂ္ဂဇင်းစာမျက်နှာများအပေါ် တင်ပြလာသောအခါ အများနှင့် သက်ဆိုင်လာပြီ ဖြစ်သောကြောင့် ပြန်လည်ဆွေးနွေးတင်ပြထိုက်သည်ဟု ယူဆပါသည်။ အထူးသဖြင့် ဗုဒ္ဓစာပေဖတ်ရှုလေ့လာရာ၌ အားနည်းနေသူများအနေနှင့် အထက်ပါ အယူအဆကို ဖတ်ရှုမိလျှင် ကျေးဇူးတော်ရှင် မြတ်ဘုရား၏ တရားဓမ္မများကို လေ့လာဖတ်ရှုနာကြားလိုစိတ်များ ပိုမိ ခန်းခြောက်လာနိုင်စရာရှိပါသည်။

'စာခံနေသဖြင့် တရားရရန် ခက်သည်' ဟူသော အယူအဆသည် ပရိယတ္တိ သာသနာတော်အတွက် အတားအဆီး အဟန့်အတားဖြစ်နေပါသည်။ ဤအယူအဆကို ချေဖျက်ရာတွင် ကျွန်တော်၏ အယူအဆသဘောထားကို တင်ပြခြင်း မပြုဘဲ ပိဋကတ်တော်လာ မြတ်ဘုရား၏ တရားဓမ္မများ၊ သာသနာ့သမိုင်းဝင် ထင်ရှားတော်မူသော ဆရာတော်ဘုရားကြီးများ၏ အဆုံးအမတော်များကို ကောက်နုတ်တင်ပြအပ်ပါသည်။

ပထမဦးစွာ အင်္ဂုတ္တိုရ်ပါဠိတော်လာ ဒသကနိပါတ်မှ မြတ်ဗုဒ္ဓနှင့် ရှင်ပုဏ္ဏိယတို့၏ အမေး–အဖြေကို တင်ပြလိုပါသည်။

မေး။ ။ လူတိုင်း တရားဉာဏ် ပေါက်ရောက်နိုင်ပါသလား မြတ်စွာဘုရား။

ဖြေ။ ။လူတိုင်း တရားဉာဏ် မပေါက်ရောက်နိုင်ဘူး ချစ်သား။

မေး။ ။ ပေါက်ရောက်နိုင်ရန် ဘယ်အချက်ပေါ်မှာ တည်ပါသလဲ ဘုရား။

ဖြေ။ ။ ယုံကြည်မှု ရှိခြင်း၊ မရှိခြင်းအပေါ် တည်ပါတယ် ချစ်သား ပုဏ္ဏိယ။

မေး။ ။ ယုံကြည်မှုရှိတော့ ဘာဖြစ်နိုင်ပါသလဲ ဘုရား။

ဖြေ။ ။ ယုံကြည်မှု ရှိလာလျှင် သူတော်ကောင်းထံ၌ ဆည်းကပ်နိုင်ပါတယ်။ ထို့ကြောင့် တရားဉာဏ် ပေါက်ရောက်မှုဟာ သူတော်ကောင်းထံမှာ ဆည်းကပ်ခြင်း၊ ဆည်းမကပ်ခြင်းအပေါ်၌ တည်ပါတယ် ချစ်သား ပုဏ္ဏိယ။

မေး။ ။ သူတော်ကောင်းထံမှာ ဆည်းကပ်တိုင်း တရားသိနိုင်ပါသလား မြတ်စွာဘုရား။

မေး။ ။ တရားသိမြင်နိုင်ခြင်းသည် ဘယ်အချက်ပေါ်မှာ တည်နေပါသလဲ ဘုရား။

ဖြေ။ ။ ထိုသူတော်ကောင်းနှင့် ဆွေးနွေးခြင်း၊ မဆွေးနွေးခြင်းပေါ်မှာ မူတည်နေပါတယ် ချစ်သား။

မေး။ ။ ဆွေးနွေးလျှင်ကော တရားသိနိုင်ပါမည်လားဘုရား။

ဖြေ။ ။ ဆွေးနွေးတိုင်းလည်း တရား မသိနိုင်ပါ ချစ်သား။

မေး။ ။ သည်လိုဆိုပါလျှင် တရားသိနိုင်ခြင်းသည် ဘယ်အချက်ပေါ်မှာ တည်နေပါသလဲ ဘုရား။

ဖြေ။ ။ ဆွေးနွေးတဲ့အခါမှာ ကောင်းစွာ နားထောင်ခြင်း၊ မထောင်ခြင်းအပေါ်၌ တည်ပါတယ် ချစ်သား။

မေး။ ။ ကောင်းစွာ နားထောင်တိုင်း တရားရနိုင်ပါသလား ဘုရား။

ဖြေ။ ။ နားထောင်ပြန်လျှင်လည်း မှန်သားမှု ရှိခြင်း၊ မရှိခြင်းပေါ်၌ တည်ပါတယ် ချစ်သား။

မေး။ ။ မှတ်သားမှုရှိလျှင်ကော တရားရနိုင်ပါသလား ဘုရား။

ဖြေ။ ။ မရနိုင်ပါဘူး ချစ်သား ပုဏ္ဏိယ။

မေး။ ။ မရနိုင်တဲ့အကြောင်းကို ဘယ်လိုပါလဲဘုရား။

ဖြေ။ ။ မှတ်သားမှု ရှိပြန်လျှင်လည်း ကိုယ်ပိုင်ဉာဏ်ဖြင့် ဆင်ခြင်မှု မဆင်ခြင်မှုပေါ်၌ တည်ပါတယ် ချစ်သား။

မေး။ ။ ဆင်ခြင်မှု ရှိတိုင်း တရားပေါက်နိုင်ပါသလား ဘုရား။

ဖြေ။ ။ တရားမပေါက်နိုင်ပါဘူး ချစ်သား။

မေး။ ။ တရားမပေါက်နိုင်တဲ့ အကြောင်းက ဘယ်လိုပါလဲ ဘုရား။

ဖြေ။ ။တရားကိုလက်တွေ့ကျင့်သုံးခြင်း၊ မကျင့်သုံးခြင်းပေါ်မှာ တည်ပါတယ်။ လက်တွေ့ကျင့်သုံးလျှင် တရားဉာဏ်ပေါက်ရောက်နိုင်ပါတယ်။ လက်တွေ့မကျင့်သုံးလျှင် တရားဉာဏ် မပေါက်ရောက်နိုင်ပါဘူး ချစ်သား ပုဏ္ဏိယ။

မြတ်ဗုဒ္ဓသည် တရားဉာဏ် ပေါက်ရောက်နိုင်ရေးအတွက် အဆင့်ဆင့်သော လိုအပ်ချက်များကို အထက်ပါအတိုင်း ဟောကြားတော်မူခဲ့ရာတွင် တရားစကားကို ကောင်းစွာ ဆွေးနွေးခြင်း၊ နားထောင်ခြင်း၊ ဆင်ခြင်ခြင်းများကို ထည့်သွင်းတော်မူခဲ့ပါသည်။ အထက်ပါ ဗုဒ္ဓ၏ စကားတော်နှင့် တရားမသိဘဲ တရားအားထုတ်လျှင် အဖြူထည်ဖြစ်သဖြင့် တရားရလွယ်သည်ဟူသော စကားသည် ညီညွတ်ခြင်း၊ ကိုက်ညီခြင်း ရှိ၊ မရှိ စာဖတ်သူသာ စဉ်းစားဆုံးဖြတ်ပါလေ။

ဝိပဿနာတရား ရှုမှတ်ပွားများသာ ယောဂီများ ထိနမိဒ္ဓ ဝင်လာလျှင် ယင်းထိနမိဒ္ဓများကို ပယ်ဖျောက်ရန် နည်း (၇) နည်းကိုလည်း ဘုရားရှင်သည် အင်္ဂုတ္တရ သတ္တကနိပါတ်၊ ပစလာယမာနသုတ် ၄၆၁ ၌ အောက်ပါအတိုင်း ဟောကြားတော်မူခဲ့ပါ၏။

၁။ အိပ်ချင်ငိုက်မျဉ်းကြောင်းဖြစ်သော အမှတ်သညာကို ပယ်ခြင်း၊

၂။ တရားကျမ်းဂန်ကို ဆင်ခြင်ခြင်း၊

၃။ တရားစာ ရွတ်ဖတ်ခြင်း၊

၄။ နားနှစ်ဖက်ကို ဆွဲခြင်း၊ ကိုယ်ကို လက်ဖြင့် ပွတ်သပ်ရခြင်း၊

၅။ မျက်နှာသစ်ပြီး ထိုထိုအရပ်ကို ကြည့်ရှုခြင်း၊ ကြယ်တာရာတို့ကို မော်ကြည့်ခြင်း၊

၆။ အရောင်အလင်းကို နှလုံးသွင်းခြင်း၊

၇။ စင်္ကြံလျှောက်ခြင်း။

ဝိပဿနာဘာဝနာ ပွားများရာတွင် ဝင်လာတတ်သော ထိနမိဒ္ဓများကို ဘုရားရှင်က တရားကျမ်းဂန်ကို ဆင်ခြင်ခြင်း၊ တရားစာရွတ်ဖတ်ခြင်းဖြင့် ပယ်ဖျောက်နိုင်ကြောင်း ဟောကြားတော်မူခဲ့ရာ ဘုရားရှင်၏ ယင်းစကားတော်နှင့် အထက်တွင် ဖော်ပြခဲ့သော ဒဿနဆရာ၏ တရားများစွာ သိပြီး တရားအားထုတ်လျှင် စာခံနေသဖြင့် တရားရရန် ခက်သည်ဟူသော စကားသည် ညီညွတ်ခြင်း၊ ကိုက်ညီခြင်း ရှိ၏၊ မရှိ၏ စာဖတ်သူသာ စဉ်းစားဆုံးဖြတ်ပါလေ။

တရားအားထုတ်စ ယောဂီများအနေဖြင့် ပထမဆုံး ရင်ဆိုင်ရသော ရန်သူသုံးဦးမှာ (၁) ကာမဝိတက်၊ (၂) ဗျာပါဒဝိတက်၊ (၃) ဝိဟိံသာဝိတက် တို့ ဖြစ်ပါသည်။ ထိုဝိတက်သုံးမျိုးကို ဖျောက်ဖျက်ပစ်နိုင်မှသာလျှင် ရှေ့သို့ တရားတက်နိုင်မည်ဖြစ်ပါသည်။ သို့ဖြစ်၍ ဝိတက် ပယ်ဖျက်နည်း ငါးမျိုးကို မြတ်စွာဘုရား ဟောကြားတော်မူခဲ့ပါ၏။

(မူလပဏ္ဏာသ၊ ဝိတက္ကသဏ္ဌာနသုတ်)

ယင်းဝိတက် ပယ်ဖျောက်နည်းငါးမျိုးမှာ အစားထိုးဖျောက်နည်း (အညနိမိတ္တပဗ္ဗ)၊ အပြစ်ရှုဖျောက်နည်း (အာဒီနဝပဗ္ဗ)၊ မေ့ပျောက်ရှောင်လွှဲနည်း (အသတိပဗ္ဗ)၊ အကြောင်းအရင်းရှာဖွေဖျောက်နည်း (ဝိတက္ကမူလဘေဒပဗ္ဗ)၊ ဖိနှိပ်အံကြိတ်၍ ဖျောက်နည်း (အဘိနိဂ္ဂဏှပဗ္ဗ) တို့ ဖြစ်ပါ၏။ ထိုငါးမျိုးထဲမှ မေ့ပျောက်ရှောင်လွှဲနည်းများကို အသေးစိတ် လမ်းညွှန်တော်မူရာတွင် (၁) ဝိတက်ကို မေ့ဖျောက်ထားပြီး ရသမျှ တရားစာများကို စိတ်ပါလက်ပါ ရွတ်အံခြင်း၊ (၂) ဘုရား တရား ဂုဏ်တော်များကို ရွတ်ဖတ်ခြင်းတို့ ပါဝင်ပါ၏။

ယောဂီတို့၏ အစဦးရန်သူ ဝိတက်သုံးမျိုးကို ပယ်ဖျောက်နည်းများတွင် ရသမျှ တရားစာများကို စိတ်ပါလက်ပါ ရွတ်အံခြင်းကို ထည့်သွင်းထားသော မြတ်ဗုဒ္ဓ၏ စကားတော်နှင့် စာခံနေသဖြင့် တရားရရန်ခက်သည် ဟူသော အထက်တွင် ဖော်ပြခဲ့သည့် ဒဿနဆရာ၏ စကားသည် ညီညွတ်ခြင်း ရှိ၏၊ မရှိကို စာဖတ်သူသာ ဆုံးဖြတ်ပါလေ။

မြန်မာနိုင်ငံ သာသနာ့သမိုင်းတွင် ထင်ရှားကျော်ကြားတော်မူသော ဆရာတော်ကြီးလေးပါး၏ အောက်ပါ ဩဝါဒများကိုလည်း လေ့လာဖတ်ရှုကြည့်ပါ။

"အင်း– စာတွေ တတ်သားဗျာ။ စာအတိုင်းလိုက်နာရုံပဲ။ ဘယ်သူမှ စာထက် ပိုပြီး မလုပ်နိုင်ပါဘူး။ စာကို အဟုတ်ယုံကြည်ဖို့ပဲ လိုပါတယ်"

(ဘုန်းတော်ကြီး ဦးသဉ္ဇန်း)

"ငါ့ရှင်ကား စာပေပရိယတ္တိ ကျပါသဖြင့် တော်ပေသည်။ စာမတတ်သူများက မိမိအသိကို ဝင်စားလွန်းသဖြင့် ပျက်စီးတတ်သည်။ အရာရာ သဒ္ဓါ၊ ပညာ၊ ဝီရိယ မျှတအောင် ကြိုးစားလေတော့ ငါ့ရှင်"

(ဈာနလာဘီအရှင်မြတ်)

"ငါတို့ ကိုးကွယ်ရာ ဗုဒ္ဓ မြတ်စွာသည် ကိုယ်တော်တိုင် ဝီရိယပါရမီကို ကြိုးစား၍ ဘုရားဖြစ်တော်မူသည်။ ဘုရားဖြစ်တော်မူပြီးနောက်လည်း မနားမနေ တရားဟောတော်မူခဲ့ပေ၏။ ထိုဟောတော်မူသမျှ တရားတိုင်းမှာ သိဖို့က ပထမ၊ သိသည့်အတိုင်း ကြိုးစားဖို့က ဒုတိယထား၍ ယောကျ်ားမှန်က ကြိုးစားသင့်စွာ ပညာရှိ မပျင်းမရိရာဟု ဟောတော်မူသည်"

(အရှင်ဇနကာဘိဝံသ ဆရာတော်ကြီး)

"ဦးဂုဏ တရားအားမထုတ်ချင်လျှင် အားမထုတ်ချင်ဘူးလို့ ရိုးရိုးပြောပါ။ တပည့်တော်လည်း စာထဲမှာ ပါတာမှတ်ပြီး အားထုတ်တာပဲ။ စာထက်ပိုပြီး ဘာမှ မတတ်ဘူး ဦးဂုဏလည်း စာထဲပါတာမှတ်ပြီး အားထုတ်ရောပေါ့။ စာကြည့်နိုင်သားနဲ့ ဘယ်သူရဲ့နည်းကို ယူနေရဦးမှာလဲ။ စာထက်ပို၍ ဘယ်သူက မှန်ဦးမှာလဲ။ ဘယ်သူက မြန်ဦးမှာလဲ"

(ဘုန်းတော်ကြီး ဦးသီလ)

ဆရာတော်ကြီးများ၏ ဩဝါဒတော်ထဲတွင် ပါဝင်သော (၁) စာအတိုင်း လိုက်နာရုံပဲ၊ (၂) စာကို အဟုတ်ယုံကြည်ဖို့ပဲ လိုတယ်၊ (၃) စာမတတ်သူများက မိမိအသိကို ဝင်စားလွန်း၍ ပျက်စီးတတ်တယ်၊ (၄) သိဖို့က ပထမ၊ (၅) စာထက်ပို၍ ဘယ်သူက မှန်ဦးမှာလဲဟူသော အချက်များနှင့် 'စာခံနေသဖြင့် တရားရရန် ခက်သည်' "တရားမသိဘဲ တရားအားထုတ်လျှင် အဖြူထည်ဖြစ်သဖြင့် တရားရလွယ်သည်"ဟူသော အချက်သည် မည်မျှ ဆန့်ကျင်ခြားနားလျက်ရှိကြောင်း စာဖတ်သူသာ ဆုံးဖြတ်ပါလေ။

## ဘေးတီးကောင်းလျှင် နှင့် ရှက်

လောကကို စောင့်ရှောက်ရာ၌ အနှိုင်းမဲ့ဖြစ်တော်မူသော မြတ်ဗုဒ္ဓ၏ အဆုံးအမ တရားဓမ္မ ဒေသနာတော်များသည် ပျံ့နှံ့ဝေစည်နိုင်လေ၊ လောကနှင့်လူသားအတွက် အနှိုင်းမဲ့ အကျိုးတရားများကို ပေးစွမ်းနိုင်လေ ဖြစ်ပါ၏။

ဘုရားရှင်၏ သစ္စာဓမ္မများကို ကဗျာပုံသဏ္ဍာန်ဖြင့် ဖွဲ့သီဖော်ပြလာသည်မှာ ဗုဒ္ဓစာပေဘဏ္ဍာတိုက်တွင် ဓမ္မကဗျာရတနာများ ဖြည့်ဆည်းပေးခြင်းပင် ဖြစ်ပါသည်။ ဗုဒ္ဓ၊ ဓမ္မ၊ သံဃာတို့၏ ဂုဏ်ကျေးဇူးတော်များ၊ အကြောင်းခြင်းရာများကို ဝတ္ထုပုံသဏ္ဍာန်ဖြင့်လည်းကောင်း၊ ဆောင်းပါးပုံသဏ္ဍာန်ဖြင့်လည်းကောင်း၊ ကဗျာ ပုံသဏ္ဍာန်ဖြင့်လည်းကောင်း ရေးဖွဲ့လျက်ရှိရာ မည်သည့်ပုံသဏ္ဍာန်ဖြင့် ရေးဖွဲ့သည်ဖြစ်စေ ဦးတည်ချက် မွန်မြတ်သန့်စင်သောကြောင့် စင်ကြယ်မြင့်မြတ်သော ဖန်တီးမှုပင် ဖြစ်ပါ၏။

ဓမ္မစာပေဟူသမျှ မြတ်ဗုဒ္ဓ၏ အဆုံးအမ ရေလျှဉ်များကို စာဖတ်သူ၏ အတွင်းသန္တာန်ထဲသို့ သိမ်မွေ့ညင်သာစွာ စိတ်ဝင်စီးဆင်းလာစေနိုင်စွမ်း ရှိ၏။ ဓမ္မအပေါ် သိမြင်မှု၊ နားလည်မှုများ ပွင့်ဖူးလာအောင် လှုံ့ဆော်တိုက်တွန်းနိုင်စွမ်း ရှိပါ၏။ ဓမ္မ၏ အသံ၊ ဓမ္မ၏ ပုံသဏ္ဍာန်၊ ဓမ္မ၏ အရောင်၊ ဓမ္မ၏ ကောက်ကြောင်းတို့ကို ဖော်ပြနိုင်စွမ်း ရှိပါ၏။

ဓမ္မကဗျာတို့တွင် မြတ်ဗုဒ္ဓ၏ သုံးပုံပိဋကတ်တော်ထဲမှ သီလကို ဖွဲ့သည်လည်း ရှိမည်။ စရဏကို ဖွဲ့သည်လည်း ရှိမည်။ သမာဓိကို ဖွဲ့သည်လည်း ရှိမည်။ ပညာကို ဖွဲ့သည်လည်း ရှိမည်။ သုတ္တန် ပိဋကတ်တော်မှထုတ်နုတ်ဖွဲ့ဆိုသည်တို့လည်း ရှိမည်။ ဝိနည်း ပိဋကတ်တော်မှ ထုတ်နုတ်ဖွဲ့ဆိုသည်တို့လည်း ရှိမည်။ အဘိဓမ္မာ ပိဋကတ်တော်ထဲမှ ထုတ်နုတ်ဖွဲ့ဆိုသည်တို့လည်း ရှိမည်။

ဓမ္မကဗျာတို့တွင် သတိထားစရာတို့လည်း ပါမည်။ သံဝေဂရစရာတို့လည်း ပါမည်။ ဆင်ခြင်စရာတို့လည်း ပါမည်။ လိုက်နာကျင့်ကြံစရာတို့လည်း ပါမည်။ ပညာယူစရာတို့လည်း ပါမည်။ ဘုရားဂုဏ်တော်တို့ကို ဖွဲ့ဆိုသည်တို့လည်း ပါမည်။ တရားဂုဏ်တော်တို့ကို ဖွဲ့ဆိုသည်တို့လည်း ပါမည်။ သံဃာဂုဏ်တော်တို့ကို ဖွဲ့ဆိုသည်တို့လည်း ပါမည်။

မေတ္တာအလင်းကို ဖွဲ့ဆိုသည်တို့လည်း ရှိမည်။ ကရုဏာအလင်းကို ဖွဲ့ဆိုသည်တို့လည်း ရှိမည်။ မုဒိတာအလင်းကို ဖွဲ့ဆိုသည်တို့လည်း ရှိမည်။ ဥပေက္ခာအလင်းကို ဖွဲ့ဆိုသည်တို့လည်း ရှိမည်။

လောဘအမှောင်၊ ဒေါသအမှောင်၊ မောဟအမှောင်တို့ကို ဖွဲ့ဆိုသည်တို့လည်း ရှိမည်။ စေတသိက်ကောင်း၊ စေတနာကောင်းတို့ကို ဆောင်နိုင်ရန် ညွှန်ပြသည်တို့လည်း ရှိမည်။ စေတသိက်ဆိုး၊ စေတနာဆိုးတို့ကို ရှောင်နိုင်ရန် ညွှန်ပြသည်တို့လည်း ရှိမည်။

ကိလေသာမီး၏ ပူလောင်မှုကို ဖော်ကျူးသည်လည်း ရှိမည်။ အနတ္တကို ထင်လင်းပြသည်လည်း ရှိမည်။ မရဏကို ဖွဲ့ဆိုသည်လည်း ရှိမည်။ မဂ္ဂင်ရှစ်ပါး အကျင့်မြတ်လမ်းကို ဖွဲ့ဆိုသည်လည်း ရှိမည်။

ဖတ်ရသမျှ ဓမ္မကဗျာတို့သည် အရောင်အသွေး စုံပါသည်။ သင်းရနံ့လည်း အမျိုးစုံပါသည်။ ဘာသာရေး မဂ္ဂဇင်း အယ်ဒီတာတို့ကသာ နေရာပေးမည်ဟုဆိုလျှင် ဓမ္မကဗျာ ပန်းဥယျာဉ်တွင် ကဗျာပန်းများ ယခုထက် တင့်တယ်ဝင့်ထည် မြိုင်ဆိုင်မွေးကြိုင်နေပေလိမ့်မည်။

၁၉၉၄ ခုနှစ်အတွင်း ဖတ်ရှုရသမျှ ဓမ္မကဗျာများထဲမှ အယူအမြင်စင်ကြယ်ရေးနှင့် ကိုးကွယ်ရာ သန့်ရှင်းရေးအတွက် ရည်ရွယ်ထားလျက် ရေးသားခဲ့သော ကဗျာနှစ်ပုဒ်ကို အထူး နှစ်သက်မိပါသည်။ ယင်းကဗျာ နှစ်ပုဒ်မှာ–

၁။ ဘေးတီးကောင်းလျှင်

(အရှင်ဥဂ္ဂဉာဏ– ချမ်းမြေ့)၊ (ဓမ္မရံသီ၊ ၉၄ ဩဂုတ်)

၂။ ရက်

(အရှင်ဣန္ဒာသနီ– ရေစကြို)၊ (ဓမ္မရံသီ၊ ၉၄ ဩဂုတ်)

တို့ ဖြစ်ပါ၏။

**ဘေးတီးကောင်းလျှင်**

*တောင်တန်းနှင့်တော၊ မြိုင်တစ်ကြောဝယ်*

*အပြောကောင်းသူ၊ သပွတ်အူကို*

*ဗိုလ်လူအပေါင်း၊ ဘေးတီးကောင်းသော်*

*နှစ်ထောင်းအားရ၊ ဖူးမဝဘဲ*

*လှူကြသူများ၊ ကြိတ်ကြိတ်တိုး၏။*

*ဟိုမြို့သည်ရွာ၊ အဖြာဖြာဝယ်*

*မေတ္တာသမား၊ မီးလွတ်စားဟု*

*ကျော်ကြားပြန့်လျှင်၊ ရဟန်းရှင်ကို*

*ဖူးချင်သူများ၊ လှူသူများ၍*

*ဝပ်တွားသူများ၊ လှူသူများ၍*

*မှန်တိုင်းမှန်ရာ၊ ပြောရပါလျှင်*

*ခုခါကာလ၊ မနုဿတို့*

*လောဘတက်ပြီး၊ အလိုကြီး၍*

*ဘေးတီးကောင်းလျှင်၊ သူတော်စင်ကို*

*ဖူးမြင်မဝ၊ ကြည်ညိုကြလျက်*

*ဒါနထိုထို၊ လှူဒါန်းလို၏။*

*ဗိုလ်လူအပေါင်း၊ ဘေးတီးကောင်းက*

*တောအောင်းသူတော်၊ တိုင်းလုံးကျော်သည်*

*ကျင့်သော် ကောင်း၏၊ မကောင်း၏။*

**အရှင်ဥဂ္ဂညာဏ (ချမ်းမြေ့)**

ကိုးကွယ်ရာ သန့်ရှင်းစေလိုသော စေတနာမွန်ဖြင့် အရှင်ဥဂ္ဂညာဏ (ချမ်းမြေ့)က ဤကဗျာကို ဖွဲ့ဆိုဟန် တူပါသည်။ ဓမ္မစာပေများကို မြတ်နိုးရတနာ ဖတ်ရှုလေ့လာခြင်း မပြုကြသူများ၌ ထေရဝါဒ ကိုယ်ခံအား နည်းပါးလွန်းလှပါ၏။ ယင်းသို့ ထေရဝါဒ ကိုယ်ခံအား မတောင့်တင်းသောအခါ ဓမ္မစစ်နှင့် ဓမ္မတု၊ လဇ္ဇီနှင့် အလဇ္ဇီ၊ ပဏ္ဍိတနှင့် ဗာလကို မှန်ကန်ပြတ်သားစွာ ခွဲခြားနိုင်စွမ်း မရှိကြ။

သူတို့၏ အဘိညဉ်၌ ထေရဝါဒမှတ်ကျောက် မရှိသောအခါ အစစ်နှင့် အတုကို ခွဲခြားနိုင်စွမ်းရည် ကင်းမဲ့ကြရ၏။ သူများပြောတိုင်းယုံ၊ ကြုံတိုင်းလိုက်၊ ခိုင်းတတ်လုပ်တတ်ကြ၏။ ကြယ်တာရာပမာ ဦးတည်ရာလမ်းကြောင်း ပြတ်သားထင်ရှားမှု မရှိမူလျက် သစ်ရွက်ခြောက်ပမာ လေငင်ရာ ရွေ့မျောကာ ဦးတည်ရာ မဲ့တတ်ကြ၏။

ထေရဝါဒ အသိညာဏ် ထိထိမိမိ ကြည်ကြည်လင်လင် မရှိသောအခါ 'အယူအဆမှား' နှင့် 'ကိုးကွယ်ရာအမှား' တို့ကို တွယ်မှီအားကိုးတတ်၏။ ကိုယ်ပိုင်ကျောရိုး မတောင့်တင်းသောအခါ ကိုယ်ပိုင် ယုံကြည်ချက် ခိုင်ခိုင်မာမာ မချမှတ်နိုင်သောအခါ 'ဘေးတီးကောင်းမှု'၊ 'အဆွယ်အမြှောင်ကောင်းမှု' နောက်သို့ လွယ်လင့်တကူ အဆင်ခြင်မဲ့ လိုက်ပါတတ်ကြ၏။

မိမိ၏ ဘဝကံကြမ္မာကို မိမိဘာသာ ဖန်တီးနိုင်သည်ဟု မြတ်ဗုဒ္ဓက တိတိကျကျ ခိုင်ခိုင်မာမာ ဟောတော်မူထားပါလျက် ပုဂ္ဂိုလ်ထူး ဆိုသူက မ,စစောင့်ရှောက်မှသာ မိမိ၏ ဘဝမချမ်းသာရာရမည့်ဟန် အယူလွဲတတ်ကြချေ၏။ မိမိ၏ အတွင်းသန္တာန်၌ ရှိသော စိတ်ကောင်း စေတနာကောင်း စေတသိက်ကောင်းများအပေါ် အားကိုးရမည်မှန်း မသိဘဲ ပုဂ္ဂိုလ်ထူးဆိုသူတို့က စွန့်ကြဲသော 'အဆောင်ပစ္စည်း'၊ 'သိဒ္ဓိတင်ပစ္စည်း' တို့ကိုသာ အမှီသဟဲ ပြုချင်လာကြ၏။ သံသရာတစ်လျှောက်လုံး နစ်နာစေနိုင်သော 'အပြုအမူမှား' များ ဖြစ်ပါ၏။

မြန်မာပြည်တွင် စာပေပရိယတ္တိ၊ ပဋိပတ္တိအရာတို့၌ ထူးထူးချွန်ချွန် ဆောင်တော်မူပြီး သီလဝန္တ၊ သိက္ခာကာမ၊ လဇ္ဇီပေသလ ဖြစ်တော်မူသော ကြည်ညိုဖွယ်၊ ဦးခိုက်ဖွယ်၊ အားကိုးဖွယ် ဆရာတော်ကြီးများ အများအပြား ရှိပါ၏။ ထိုဆရာတော်ကြီးများထံ ရှိသေစွာ ချဉ်းကပ်၍ ဆရာတော်ကြီးများ၏ ဩဝါဒကို ခံယူခြင်း၊ ဆရာတော်ကြီးများ၏ နေထိုင်ပြောဆိုမှု ပုံများကို အနီးကပ် ကြည်ညို၍ အတုယူခြင်း၊ ဆရာတော်ကြီးများ၏ ကြည်ညိုဖွယ် ဂုဏ်ရည်ကို အာရုံ၌ စွဲဝင်အောင် ပြုခြင်းတို့သည်သာ ဗုဒ္ဓအလိုတော်ကျ မှန်ကန်သော ကိုးကွယ်နည်း ဖြစ်ပါ၏၊ ပစ္စုပ္ပန် သံသရာနှစ်ဖြာ အကျိုး သယ်ပိုးနိုင်သော ကိုးကွယ်နည်း ဖြစ်ပါ၏။ ပရိယတ္တိအရာ၌ သိလိုသော်

ပရိယတ္တိစာမေးပွဲ အဆင့်ဆင့် အောင်မြင်ပြီးသော ဆရာတော်တို့ထံတွင်သော် လည်းကောင်း၊ ဝိပဿနာ တရား အားထုတ်လိုသော် ကမ္မဋ္ဌာနာစရိယ ဆရာတော်တို့ထံတွင် သော်လည်းကောင်း ရှိသေလေးမြတ် ဆည်းကပ်နိုင်ကြပါသည်။

ထိုဆရာတော်ကြီးများက မိမိတို့၏ အဇ္ဈတ္တထဲသို့ 'ဗုဒ္ဓ၏အဆုံးအမတော်များ' ကို တည်ကိန်းစေတော်မူပါလိမ့်မည်။ ဆည်းကပ်တတ်၊ ကိုးကွယ်တတ်ဖို့သာ လိုမည် ဖြစ်ပါ၏။

**ရှက်**

(၁)

နတ်စင်ပေါ်တက်

စီးကရက် ကြက်ကြော်

ဂျော်နီဝါးကား။

(၂)

ဘုရားစင်

ပင့်ကူမြေးယှက်

ဖုန်တွေတက်နေ။

**အရှင်ဣန္ဒာသနီ (ရေစကြို)**

ဤကဗျာသည်လည်း 'ကိုးကွယ်ရာ သန့်ရှင်းရေး' ကို ဦးတည်ချက်ထား၍ ရေးဖွဲ့ထားခြင်း ဖြစ်ပါသည်။ ဗုဒ္ဓဘာသာဝင်တို့သည် 'ရတနာသုံးပါး' ကို ကိုးကွယ်ပါ၏ဟု 'သရဏဂုံ' ဆောက်တည်ထားပါ၏။ သရဏဂုံသည် ဗုဒ္ဓဘာသာဝင်တို့၏ ပဓာနကျသော အခြေခံ ဖြစ်ပါ၏။ သရဏဂုံ ဆောက်တည်မှု မပြုဘဲ ဗုဒ္ဓဘာသာဝင် မဖြစ်ပါ။

ရတနာသုံးပါးမှ တပါး ကိုးကွယ်ရာ မရှိပါဟု မြတ်ဗုဒ္ဓထံ အာမဘဏ္ဍေ ခံယူထားလင့်ကစား 'အမျှော်နှင့်အကြောက်' တို့မှ ပေါက်ဖွားလာသော "၃၇ မင်းနတ်ကိုးကွယ်မှု"ကိုလည်း ပြုသူတွေက ပြုနေဆဲပင်ဖြစ်ပါ၏။ ဘုရားရှင်သည် မဟာကရုဏာရှင် ဖြစ်တော်မူသည့် အားလျော်စွာ သူတစ်ပါး၏ လာဘ်လာဘကို မပိတ်ပင်လိုသောကြောင့် ဗာလိနတ်စာကျွေးမှုကို ခွင့်ပြုတော်မူခဲ့ပါ၏။ နတ်တို့အား ကိုးကွယ်ရန်ကိုမူ ခွင့်ပြုတော်မမူခဲ့ပါ။

ဗုဒ္ဓ၏ ပိဋကတ်တော်များ မြန်မာပြန်ဆိုမှု မရှိသေးသောအချိန်၊ ထေရဝါဒ ဗုဒ္ဓဓမ္မများကို ပြည့်ပြည့်စုံစုံ

စင်စစ်သော် ၃၇ မင်းနတ်မင်းဟူသည် 'နတ်'ဟု အမည်တပ်ထားလင့်ကစား ထေရဝါဒ ပိဋကတ်လာနတ်များ မဟုတ်ကြပါ။ ထို့ကြောင့် ထီးချိုင့်မြို့တည်တောရဆရာတော်ကြီးက–

"ဘုမ္မာသိတနတ်မျိုးဟာ ငါးပါးသီလမှ မတည်တဲ့ နတ်ယုတ်မာတွေ များပါတယ်။ ဒါကြောင့် သီလရှိတဲ့ လူသားဟာ အောက်နတ်များကို ကျွေးမွေးပေးကမ်းခြင်းမျှသာ ထိုက်တန်တယ်။ ရှိခိုးမှု ပူဇော်ကိုးကွယ်ခြင်း မထိုက်ပါဘူး"

ဟု ဆုံးမတော်မူခဲ့ခြင်း ဖြစ်ပါ၏။

အရှင်ပညိန္ဒာဘိဝံသ ဆရာတော်ကြီးကလည်း–

"တောင်ပြုန်းနတ်ပွဲနှင့် ရတနာ့ဂူ နတ်ပွဲများသည် ထေရဝါဒ ဗုဒ္ဓဘာသာဝင် မြန်မာပြည်၏ ရုပ်ပျက် ဆင်းပျက် အမည်းကွက်ကြီးများ ဖြစ်ကြလေသည်"

ဟူ၍ ပြတ်သားစွာ သတိပေး ရေးသားတော်မူခဲ့ပါ၏။

စင်စစ် ပညာရှိသူ မှန်သမျှတို့သည် ၃၇ မင်းနတ်ကိုးကွယ်မှုဓလေ့၌ မပျော်မွေ့ကြပါ။ ကံ–ကံ၏အကျိုးကို မျက်ကွယ်ပြုလျက် ၃၇ မင်းနတ်က မိမိ၏ ကံကြမ္မာကို ဖန်တီးနိုင်သည်ဟူသော အယူမျိုးမှာ 'မိစ္ဆာဒိဋ္ဌိ' သာ ဖြစ်ပါ၏။ ကြောက်မက်ဖွယ် အယူဆိုးကြီးလည်း ဖြစ်ပါ၏။ 'နတ်' ကို ဘုရားထက်ပင် အရေးထား လေးစားခြင်းအတွက် တွဲဖက်ရေကျောင်း သာသနာပိုင် အဘိဓဇမဟာရဋ္ဌဂုရုဘွဲ့တံဆိပ်တော်ရ သပြေကန်ဆရာတော်ကြီး အရှင်ဝါသေဋ္ဌာဘိဝံသက ဤသို့ သတိပေး ဆုံးမတော်မူခဲ့ပါ၏။

"အချို့ ဘုရားကို ဆွမ်းကပ်ရန်ကား သတိမရ။ နတ်ပွဲကိုမူကား ငှက်ပျောသီး မနွမ်းရအောင် တရိုတသေ တယုတယ ပြုစုပသကြ၏။ ဘုရားထက်ပို၍ ရိုသေလေးစားသော ပူဇော်မှုမျိုးကား ဗုဒ္ဓဘာသာမပီသမှုကို ဖော်ထုတ်ပြသခြင်း ဖြစ်ရာ ထိုအမှုမျိုးကို ရှောင်ရှားရန် သတိပြုဖို့ လိုအပ်ပေသည်"

အရှင်ဣန္ဒသနီ (ရေစကြို)၏ 'ရှက်' ကဗျာပါ ဆိုလိုရင်းသည် အထက်ပါ သပြေကန် ဆရာတော်ဘုရားကြီး၏ ဩဝါဒအတိုင်းပင် ဖြစ်ပါသည်။ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးအတွက် ဗုဒ္ဓဘာသာဝင်တိုင်းတွင် တာဝန်ရှိပါသည်။ သရဏဂုံကို ညှိုးနွမ်းစေသော ကိုးကွယ်ရာအမှားကို သာသနာ့ဝန်ထမ်း ရှင်ရဟန်းကောင်း ပီသစွာ ကဗျာအဖွဲ့ဖြင့် ညွှန်ပြသော အရှင်ဣန္ဒသနီ (ရေစကြို)၏ သာသနာစိတ်ကို ဦးတင်အပ်ပါသည်။

## ဖတ်ကြည့်စေလိုပါသည်

ဆရာမကြီး ဒေါက်တာမတင်ဝင်း (ပညာရေးတက္ကသိုလ်)၏ 'အသိကို အရင်းတည်ကြဖို့ လိုပါသည်' ဆောင်းပါးကို သူရိယစာ (၁) တွင် ဖတ်လိုက်ရပါသည်။

ဆောင်းပါးကို အစ အဆုံး အေးအေးဆေးဆေး တွေးတွေးဆဆ ဖတ်ပြီးသောအခါ ဆရာမကြီး ဒေါက်တာမတင်ဝင်း၏ 'ဓမ္မဒါန'

ဖန်တီးမှု အလှအတွက် ပီတိအလျဉ် တသွင်သွင်ဖြင့် သာဓုအကြိမ်ကြိမ် ခေါ်မိပါ၏။

အထူးသဖြင့် အထွေထွေ ဖိစီးပုံပိုးမှုများဖြင့် မွန်းပိတ်ရာမှ ပရမ်းပတာ ထွက်ပေါက်ရှာကြရင်း ချောက်ထဲကျမည့် ထွက်ပေါက်သို့ အလှအယက် တိုးထွက်နေမိသူများအတွက် ထွက်ပေါက်အမှန်ကို လမ်းညွှန်ထားသော ဆောင်းပါးကောင်းတစ်ပုဒ် ဖြစ်ပါ၏။

လွဲမှားသော ကိုးကွယ်ရာများ၊ ထေရဝါဒနှင့် ဖီလာဖြစ်သည့် မစင်ကြယ်သော အယူအမြင်များနောက်သို့ တစ်ဘဝတာ လိုအင်ဆန္ဒများကို ရှေ့တန်းတင်လျက် မိုက်မိုက်မှားမှား ဆုပ်ကိုင်တွယ်ငြိနေသူများအနေဖြင့် သတိထင်ထင် ဆင်ခြင်စဉ်းစားဝေဖန် စောကြောနိုင်စေရန် ပြင်းပြင်းထန်ထန် (သာသနာစိတ်ဖြင့်) လှုံ့ဆော်ထားသော 'သာသနာပြု ဆောင်းပါးကောင်း' ဟု ဆိုနိုင်ပါသည်။

ယင်းဆောင်းပါးမှ နှစ်သက်သော စာပိုဒ်တို့ကို သင့်လျော်ရာ ခေါင်းစဉ်ငယ်များ တပ်ဆင်ပြီး ဓမ္မရံသီ မြတ်နိုးသူများနှင့် မိတ်ဆက်ပေးလိုက်ပါသည်။

### ကိုးကွယ်ရာများလာလေလေ

အခေတလော တိုက်တိုက်ဆိုင်ဆိုင် ဘုရားစင်ပေါ်မှာ ကိုးကွယ်စရာတွေ များများလာတဲ့ မိတ်ဆွေနှစ်ယောက်နှင့် ကျွန်မ စကားပြောဖြစ်ပါတယ်။ ဘုရားစင်မှာ ပထမ ရဟန္တာရုပ်ပွားတော်၊ နောက် တန်ခိုးကြီးတဲ့ ဆရာတော်များရဲ့ ပုံတော်၊ နောက် ဘိုးတော်တစ်ပါးရဲ့ ရုပ်ပုံ၊ နောက် အိန္ဒိယ ဘိုးတော်၊ နောက် စိန ဘိုးတော်၊ မယ်တော်၊ နောက် ဟိန္ဒူမယ်တော်၊ ဘုရားစင်ပေါ်မှာ ပုဂ္ဂိုလ်က စုံလာတော့ ဆွမ်းပွဲ၊ ပန်းအိုး၊ ရေချမ်း လိုလေသေးမရှိအောင် တင်ရတယ်။ စိနဘိုးတော်နဲ့ မယ်တော်များကိုတော့ လက်ဖက်ရည်ကြမ်း တင်ရပါသတဲ့။

အဲသလို ဘာသာရေး (မိတ်ဆွေပြောတဲ့အတိုင်း ပြောတာပါ) ဘက်ကို ပိုပြီး ညွတ်လာမှ ဇနီးသည်ဟာ လောဘလည်း ပိုပြီးကြီး၊ ဒေါသလည်း ပိုပြီးကြီးလာပါသတဲ့။

ဟဒအဲသလို ဘာသာရေးဒ ဟု သုံးနှုန်းပြီးမှ (မိတ်ဆွေပြောတဲ့ အတိုင်း ပြောတာပါ) ဟု ရေးလိုက်ခြင်းသည် ဆရာမကြီး၏ အမြော်အမြင် ကြီးမားမှု ဖြစ်ပါ၏။ ထို့ပြင် ထိုထိုသော ကိုးကွယ်ရာ အမျိုးမျိုးနောက်သို့ လိုက်ခြင်းကို ဒထေရဝါဒ ဘာသာရေးဒ ဟု ဆရာမကြီး မခံယူ မသတ်မှတ်သည်မှာ ထင်ရှားလှပါ၏။'

အမှန်တော့ ကိုးကွယ်ရာ အမျိုးမျိုးနောက် လိုက်ရင်း လောဘနှင့် ဒေါသ ပို၍ ပို၍ ကြီးမားလာခြင်းမှာ သဘာဝ ကျလှပါ၏။ အဘယ့်ကြောင့်ဆိုသော် အစကတည်းက ထိုသူများ အစစ်အမှန် ကိုးကွယ်သည်မှာ သူတို့၏ အတွင်းသန္တာန် အုံဖွဲ့နေသော လောဘပင် ဖြစ်ပါ၏။ ဒေါသကမူ လောဘ၏ နောက်လိုက်ဖြစ်ပါသည်။

မင်္ဂလိနိဗ္ဗာန်ကို အလိုရှိသောကြောင့် လည်းကောင်း၊ သံသရာဝဋ်မှ လွတ်ကင်းလိုသောကြောင့် လည်းကောင်း၊ ခန္ဓာကိုယ်ကြီးကို ရွံမုန်းသောကြောင့် လည်းကောင်း၊ (ရတနာသုံးပါးမှ အပဖြစ်သော) ပြည်တွင်း ပြည်ပ ကိုးကွယ်ရာအမျိုးမျိုးကို ဦးထိပ်တင်နေကြခြင်းမဟုတ်။ အမျှော်တည်းဟူသော လောဘနှင့် အကြောက်တည်းဟူသော ဒေါသနှစ်ခုကို အရင်းခံနေကြခြင်း ဖြစ်ပါသည်။ ထိုထိုသော ပုဂ္ဂိုလ်များအဖို့ ဒလောဘဒ ဒဒေါသဒ ပို၍ ပို၍ ကြီးမားထွားကျိုင်းလာခြင်းမှာ တူသော အကျိုးပေးခြင်းသာ ဖြစ်ပါ၏။

**သက်သာရာရှာရာမှ သားကောင်ဖြစ်**

အခုခေတ်မှာ ရင်ဆိုင်ရတဲ့ ပြဿနာကလည်း များတယ်ဆိုတော့ ငြင်းမယ့်သူမရှိ၊ လက်ခံကြမယ့်အချက် ဖြစ်ပါတယ်။ အဲဒီတော့ သက်သာရာ သက်သာကြောင်း ကြံဆရင်း ကိုးကွယ်မှုတွေ မှားတတ်ပါတယ်။ ပြီးတော့ အချို့သော အကိုးကွယ်ခံ ပုဂ္ဂိုလ်များကလည်း စားလာတာ အံ့တိုနေပြီဆိုတော့ ပရိယာယ် ကောင်းပါတယ်။ လူပြိန်းဆိုရင် ဟိန်းလိုက်ဟောက်လိုက်။ ပညာတတ် ခေတ်လူငယ်ဆိုရင် အားနာအောင် အပျော့ဆွဲကလေးနဲ့ ဆွဲလိုက်၊

(ပစ္စုပ္ပန်ပြဿနာများအတွက် ကိုးကွယ်ရာအမှားများကို တွယ်ဖက်မိလျှင် သံသရာတစ်ခွင် နစ်မွန်းမည့်အရေးကို ပိုမို၍ စိုးကြောက်ရန် လိုပါလိမ့်မည်။ ပစ္စုပ္ပန်ဘဝ ပြဿနာနှင့် ရင်ဆိုင်နေရသူများအား သားကောင်အဖြစ် ကျုံးသွင်းရန် အခွင့်ကောင်းကို စောင့်လင့်နေသော အကိုးကွယ်ခံ ပုဂ္ဂိုလ်များ၏ ဆွဲဆောင်ဖြားယောင်းစည်းရုံးမှုကို တွန်းလှန်နိုင်ရန် ထေရဝါဒ စာပေ ကိုယ်ခံအားကို ဖြည့်ဆည်းထားသင့်ပါ၏။)

**ကျယ်ပြန့်သော စားကျက်များ**

အခုခေတ်မှာ စိုးရိမ်စရာကောင်းတဲ့ ပြဿနာများကို ကိုင်တွယ်ရင်း အသက်မွေးဝမ်းကျောင်း ပြုနေသူက များပါတယ်။ အဲဒီတော့ တန်ခိုးတွေ၊ မမြင်ရတဲ့ အထက်ပုဂ္ဂိုလ်တွေ၊ ဘဝဟောင်းက ဥစ္စာစောင့် အထုံအဆက်တွေအကြောင်း ဝံ့ဝံ့စားစား ယုံလောက်အောင် ပြောကြ ဟောကြတတ်သူများအနေနဲ့ စားလို့ကုန်နိုင်ဖွယ် မရှိသေးပါဘူး၊

(မသမားသောနည်းအားဖြင့် ကြီးပွားချမ်းသာလာလေ မိမိကိုယ်အပေါ် ယုံကြည်မှု ခေါင်းပါးလာလေလေ၊ များယွင်းသော အကိုးကွယ်ခံ ပုဂ္ဂိုလ်များကို ဆည်းကပ်လေပင် ဖြစ်၏။)

(မတန်မတနရား ကြီးပွားလာလေလေ၊ ကိုယ်ကျင့်တရား ပျက်လာလေ၊ မိမိအပေါ် ယုံကြည်မှု

မိစ္ဆာအာဇီဝဖြင့် ကြီးပွားသူများ၊ တံစိုးလက်ဆောင် လာဘ်လာဘများဖြင့် မတရား စီးပွားဖြစ်နေသူများ ရှိနေသမျှ ကာလပတ်လုံး လှည့်ဖြားလိမ်ညာ ကိုယ်ကျိုးရှာနေသည့် ပုဂ္ဂိုလ်များအတွက် စားကျက်သည် ကျယ်ပြန့်သန့်ရှင်း နေဦးမည်သာ။)

**လမ်းစစ် လမ်းမှန်**

ကျွန်မတို့ဟာ ဗုဒ္ဓဝါဒကို တကယ်တမ်း လက်ခံတယ်ဆိုရင် ဗုဒ္ဓဆိုဆုံးမတဲ့အတိုင်း နေထိုင်ကျင့်ကြံရပါလိမ့်မယ်။ အကျိုးထူးဟာ သူ့သဘောကို သူဆောင်လာမှာပါပဲ။ ဗုဒ္ဓက အတ္တာဟိ အတ္တနောနာထော– မိမိကိုယ်သာ ကိုးကွယ်ရာလို့ မိန့်တော်မူခဲ့ပါတယ်။ ဆိုလိုတာက မြတ်စွာဘုရားက မကောင်းမှုနဲ့ ကောင်းမှုကို ခွဲခြားညွှန်ပြတော်မူခဲ့တာကို မိမိက ကောင်းသောအမှုများကို ဘုရားအဆုံးအမနဲ့အညီ ရွေးချယ်လုပ်ဆောင်မှသာ ကောင်းကျိုး ရမယ် ဖြစ်ပါတယ်။

(မဟာကရုဏာရှင် မြတ်ဘုရားက ‹ဆောင်› ရမည့်တရား၊ ‹ရှောင်› ရမည့်တရားတို့ကို ကွဲကွဲပြားပြား ခွဲခွဲခြားခြား ပြတ်သားရှင်းလင်းစွာ ‹လမ်းညွှန်ဆုံးမ› တော်မူခဲ့ရာ ဘုရားရှင်၏ အဆုံးအမတော်အတိုင်း မိမိကိုယ်ကို ယုံကြည်မှုအပြည့်ဖြင့် အားထုတ်ကြိုးကုတ် ကျင့်ကြံခြင်းသည်သာလျှင် ‹ထေရဝါဒ ဗုဒ္ဓဘာသာဝင်› တို့၏ ‹လမ်းကြောင်း အစစ်အမှန်› ဖြစ်ပါ၏။ ထိုလမ်းကြောင်း အစစ်အမှန်မှ ကင်းဝေးလျက် လောကီကျင့်စဉ် အမျိုးမျိုးနှင့် ကိုးကွယ်ရာ အမျိုးမျိုးကိုသာ တွယ်ဖက်စုံမက်နေကြလျှင် ထိုသူတို့၏ သံသရာအရေးသည် မည်သည့်နည်းနှင့်မျှ စိတ်အေးစရာ မရှိပါ။)

**ကုသိုလ်ကောင်းမှု၏ အစောင့်အရှောက်**

ဘယ်လို ပုဂ္ဂိုလ်ကမှ မကောင်းသောအမှုကို ပြုနေတဲ့သူကို ကောင်းတာဖြစ်အောင် လုပ်မပေးနိုင်ပါဘူး။ ထို့အတူပါပဲ။ ကောင်းသောအမှုကို အမြဲတစေ မမေ့မလျော့ ပြုနေကြသူများကိုလည်း ဘယ်သူကမှ ဒုက္ခပေးနိုင်ကြမယ် မဟုတ်ပါဘူး။ ကောင်းမှုက အလိုလို စောင့်ရှောက်သွားမယ်ဆိုတာ ယုံနိုင်ပါတယ်။

(ဤဘဒ္ဒ ကမ္ဘာ၌ ကောင်းမှုပြုသူကို ဒုက္ခရောက်အောင်၊ မကောင်းမှု ပြုသူကို သုခရောက်အောင် ဖန်တီးနိုင်သော တန်ခိုးရှင်၊ သိဒ္ဓိရှင်၊ ကယ်တင်ရှင်ဟူ၍ လုံးဝ မရှိပါ။ ကမ္မနိယာမအပေါ်တွင် ခိုင်ခိုင်မြဲမြဲ စွဲစွဲနစ်နစ် ယုံကြည်ပြီး ကောင်းမှုမှန်သမျှကို ပြုနေလျှင် ထိုသူ၏ ဘဝသည် ကောင်းမှု၏ အစောင့်အရှောက်ကို ရရှိပါလိမ့်မည်။)

**ကံပွင့် ကံဖော် ကံပေါ်စေရန်**

အေထူး အရေးကြီးတာကတော့ ဗုဒ္ဓဝါဒီများဟာ ကံနဲ့ ကံ၏အကျိုးကို ယုံဖို့ပါပဲ။ ဒီနေရာမှာ ကျွန်မက ဆရာကြီးလုပ်နေတာ မဟုတ်ပါဘူး။ များသောအားဖြင့် ကံတက်အောင် လုပ်ပေးမယ်။ ကံဖော်ပေးမယ်ဆိုတဲ့ အသုံးအနှုန်းတွေ အခုခေတ်မှာ အကြားရများနေလို့ ပြောမိတဲ့စကား ဖြစ်ပါတယ်။ ကံဖော်ဖို့၊ ကံတက်အောင်လုပ်ဖို့

ဆိုတာက မိမိအတွက် တခြားလူက လုပ်ပေးလို့ မရပါဘူး။ မိမိဘာသာ မိမိ ကောင်းတာကို သဒ္ဓါစစ် သဒ္ဓါမှန်နဲ့ လုပ်နေရင် အတိတ်က ကံကောင်းတွေကို အလိုလို ဖော်ပြီးသား ဖြစ်လာမှာပါပဲ။ အခုလောလောဆယ်မှာလည်း ကံတွေတက်လာမှာပါပဲ။ ကုသိုလ်ကံကောင်းတွေ တက်လာမှာကို ပြောတာ ဖြစ်ပါတယ်။ ။

ဒေီအသိဟာလည်း မမိုတ်မသုန် ယုံကြည်ပြီး ကောင်းမှုသယ်ပိုး ကောင်းအောင်ကြိုးစားနေတဲ့ သူများဟာ ကောင်းကျိုး ကိုယ်၌ တည်လာတဲ့ သာဓကတွေ မြင်ရင် သိလာနိုင်ပါတယ်။ မိမိတို့ကိုယ်၌ကလည်း ကြိုးစားရင် ကောင်းကျိုးတွေ တည်လာတာကို ဝမ်းမြောက်ဝမ်းသာ သိလာနိုင်ပါတယ်။

(မည်သည့်တန်ခိုးရှင်၊ သိဒ္ဓိရှင်၊ ဇေဒင်၊ အကြားအမြင် ပညာရှင်တို့ကမျှ အခြားသူတို့အား ကံပွင့်အောင်၊ ကံတက်အောင်၊ ကံပေါ်အောင် မစွမ်းဆောင်နိုင်ကြကုန်။ ဘုန်းတော် အနန္တ၊ ကံတော် အနန္တ၊ ဉာဏ်တော် အနန္တတို့နှင့် ပြည့်စုံတော်မူသော သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာဘုရားသည်ပင် သတ္တဝါတို့အား ကံဖော်အောင်၊ ကံပွင့်အောင်၊ ကံတက်အောင် မယစနိုင်သည်၊ ဖန်တီးနိုင်သည်ဟူ၍ အာမခံတော်မမူခဲ့ပါ။ မိမိ ကံကောင်းလာအောင် ကံတက်လာအောင် ကံပွင့်လာအောင် မိမိမှတစ်ပါး အခြားသော အားကိုးရာ ဟူ၍ လုံးဝ မရှိပါ။)

**လောဘနဲ့ မောဟကြောင့်**

ကျွန်မတို့ဟာ မြတ်စွာဘုရားရဲ့ သာသနာတော်အတွင်းမှာ လူဖြစ်လာရသူများလည်း ဖြစ်ပါတယ်။ ထေရဝါဒဆိုတဲ့ လက်တွေ့ကျင့်ကြံ ကြိုးကုတ် အားထုတ်မှုကို အသားပေးတဲ့ ဗုဒ္ဓဝါဒကိုလည်း လက်ခံကျင့်သုံးနေကြလို့ တိုးတက်အောင် ကြံဆောင်နေကြလို့ နိုင်ငံရပ်ခြားက အင်မတန် စူးစမ်းတဲ့၊ သဘာဝမကျရင် ယုံဖို့ဝန်လေးတတ်ကြတဲ့၊ လက်တွေ့ စမ်းသပ်လေ့ရှိကြတဲ့သူများ တစ်နေ့တစ်ခြား လာရောက်ပြီး အချို့များဆိုရင် လူဝတ်ကြောင်ကို စွန့်ပြီး သာသနာ့ဘောင်ထဲသို့ ဝင်ကြတဲ့အထိ တိုးတက်နေပြီ ဖြစ်ပါသည်။ အဲဒီလို အခြေအနေမျိုးမှာ ဗုဒ္ဓဝါဒီ ထေရဝါဒီအမည်ခံထားပြီးမှ ဗုဒ္ဓဟောပြောဆုံးမတော်မူခဲ့တဲ့ တရားတော်နဲ့ အနှစ်သာရှားဖြင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေတဲ့ အလုပ်များကို ဘာကြောင့်များ ဒီလောက် လုပ်နေကြပါလိမ့်လို့ ကျွန်မတွေးတောမိပါတယ်။

(ဆရာမကြီးခင်ဗျား၊ အဖြေကတော့ ရှင်းရှင်းလေးပါ။ သာသနာတော် ထွန်းကားရာမှာနေပြီး သာသနာအရေး စိတ်မဝင်စားလျှင် နီးလျက်နဲ့ ဝေးနေကြမှာပါ။ ဘာကြောင့် လုပ်နေကြပါသလဲဆိုတော့ ထေရဝါဒ ဆိုတာကို နှစ်နှစ်ကာကာ နားမလည်လို့၊ ဝိသမ လောဘတွေ ကြီးနေကြလို့၊ မောဟတွေ ထူထူထဲထဲ လွှမ်းမိုးနေကြလို့ပါ ခင်ဗျား။)

## ဆရာ မမှားစေလိုသော်

"အရေးကြီးတာက ဆရာကောင်း သမားကောင်း ထင်ထင်ရှားရှား ရှိနေတာကို ပစ်ပယ်ပြီး တွေ့ကရာ ပုဂ္ဂိုလ်ကို အကိုးကွယ်မမှားကြဖို့က အရေးကြီးပါတယ်။ မိမိ ကိုးကွယ်မည့်သူဟာ အမှန်ကို သိသလား၊ မသိဘူးလား ဆိုတဲ့အချက်ကို ဘုရား တရား သံဃာရဲ့ အဆုံးအမကို ခံယူထားလို့ အသိကောင်း အသိမှန် ရှိနေတဲ့သူဟာ ခွဲခြားပြီး သိနိုင်ပါတယ်။ အရေးကြီးတာကတော့ ပညာမျက်စိနဲ့ ကြည့်တတ်ကြဖို့ပါပဲ"

(ပညာမျက်စိ ရှိလိုလျှင် ထေရဝါဒ စာပေများကို လေ့လာခြင်း၊ ပရိယတ္တိ၊ ပဋိပတ္တိအရာ၌ နှံ့စပ်တော်မူသော ဆရာတော်များထံ ဆည်းကပ်၍ အဆုံးအမဩဝါဒကို ခံယူခြင်းတို့ကို မြတ်နိုးတနာ ဆောင်ရွက်ရပေလိမ့်မည်။ သံသရာတစ်လျှောက်လုံး ကိုယ်ကျိုးနည်းစေမည့် ကိုးကွယ်ရာ ဆရာအမှားများ၏ ဘေးအန္တရာယ်မှ ကာကွယ်လိုလျှင် ထေရဝါဒ စာပေများ၏ အစောင့်အရှောက်ကို စနစ်တကျ ရယူရပေလိမ့်မည်။)

ဆရာမကြီး ဒေါက်တာမတင်ဝင်း၏ ဤဆောင်းပါးကို အစအဆုံး ဖတ်ကြည့်စေလိုပါသည်။ ဤသို့သော သာသနာပြု ဆောင်းပါးမျိုးကို ဆက်လက်ရေးသားပေးဖို့လည်း တစ်ခါမျှ မတွေ့ဖူး မသိဖူးသေးသည့် ဆရာမကြီး (ဒေါက်တာမတင်ဝင်း) ကို အလေးအနက် မေတ္တာရပ်ခံ ပန်ကြားအပ်ပါသည်။

## အယူအမြင် စင်ကြယ်စေသော စာအုပ်

စာမျက်နှာ ၇၇ မျက်နှာသာရှိ၍ စာအုပ် အရွယ်အစားမှာ ပါးပါးကလေးမျှသာ ဖြစ်ပါ၏။ သို့တစေ စာပါအကြောင်းအရာမှာ သဘောတရားအရရော ရေးဟန်အရပါ လေးနက်ကျစ်လျစ် ကောင်းမွန် အဆင့်အတန်း မြင့်လှ၏။ အမေး– အဖြေဟန်ဖြင့် တင်ပြသွားပုံမှာ ဆွဲဆောင်မှု ရှိလှ၏။ အကြောင်းအရာ တစ်ခုနှင့် တစ်ခု ပြေပြစ်ချောမောစွာ ဆက်စပ်ရေးသားသွားပုံမှာလည်း စိတ်ဝင်စားစရာ ကောင်းလှပါ၏။

ထေရဝါဒနှင့် မလျော်ညီသော အစဉ်အလာ၊ အယူအစွဲ၊ အတွေးအမြင်မှားတို့ကို အဘိဓမ္မာသဘောတရားနှင့် ယှဉ်၍ လည်းကောင်း၊ သာသနာတော်သမိုင်းကြောင်းနှင့် ယှဉ်၍ လည်းကောင်း၊ ဝေဖန်ချေချွတ်ထားသည်မှာ ဖတ်၍ မငြီးနိုင်အောင် ရှိလှပါဘိ၏။ လေးနက်သော အဘိဓမ္မာသဘောတရားတို့ ပါဝင်စေကာမူ ကျမ်းပြုဆရာတော် ဘုရားကြီး၏ အရေးအသားမှာ ကောင်းမွန်ရှင်းလင်းလွန်းလှသဖြင့် ဖတ်ရသည်မှာ သွက်လက်ပါသည်။ လက်မှ မချချင်အောင် ဆွဲဆောင်နိုင်စွမ်း ရှိပါ၏။

စာဖတ်သူတိုင်းအတွက် အယူအမြင် စင်ကြယ်ရေးကို ကောင်းစွာပေးစွမ်းနိုင်သော စာအုပ်ကောင်းတစ်အုပ် ဖြစ်ပါသည်။ ဗုဒ္ဓဘာသာဝင်တိုင်း ဖတ်သင့်သော စာအုပ်ဟု ဆိုချင်ပါသည်။ အုပ်ရေများစွာ ဓမ္မဒါန မပြုနိုင်သည့်တိုင် မိမိ၏ နီးစပ်ခင်မင်ရာ မိတ်ဆွေသင်္ဂဟများသို့ပါ ဓမ္မဒါန ပြုသင့်သော စာအုပ်လည်း ဖြစ်ပါ၏။

မိရိုးဖလာ ဗုဒ္ဓဘာသာဝင်တစ်ယောက် ဖြစ်စေကာမူ အယူအမြင်မစင်ကြယ်လျှင် ထေရဝါဒ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် (မည်သည့်နည်းနှင့်မျှ) မဖြစ်နိုင်ပါချေ။ အထူးသဖြင့် အင်္ဂုတ္တရပါဠိတော်တွင် မြတ်ဗုဒ္ဓဟောကြားတော်မူခဲ့သော ကောတုဟလမင်္ဂလာကို ယုံကြည်ခြင်းသည် အညံ့စားဗုဒ္ဓဘာသာဝင်တို့၏

လက္ခဏာဖြစ်ကြောင်း ထေရဝါဒ ဗုဒ္ဓစာပေ လေ့လာသူများမှအပ သိရှိသူ နည်းပါးလွန်းလှလျက် ရှိသည်မှာ များစွာ ဝမ်းနည်းဖွယ်ရာ ဖြစ်ပါသည်။

ဤစာအုပ်တွင် ကမ္ဘ သကတာသမ္မဒိဋ္ဌိ၏ ဆူးငြောင့်သဖွယ်၊ အညစ်အကြေးသဖွယ် ဖြစ်သော အတိတ်၊ နိမိတ်၊ အိပ်မက်၊ တိတ္ထုံ၊ ဗေဒင်၊ လက္ခဏာ၊ စုန်းစွဲ၊ နတ်စွဲ၊ ဂြိုဟ်စာကျွေးခြင်း၊ နက္ခတ် စသည်များ၌ ယုံကြည်သက်ဝင်မှုများအပေါ် ထေရဝါဒ ရှုထောင့်မှ တည်ကြည်ခိုင်ခံ့စွာ၊ ပြတ်သားရှင်းလင်းစွာ ဝေဖန်သုံးသပ်ထားချက်များ ပါဝင်ပါသည်။

ဤစာအုပ်မှ ကောတုဟလမင်္ဂလာနှင့် ပတ်သက်သော စာပိုဒ်အချို့ကို အဆင့်မြင့် ဓမ္မစာပေ မွေ့လျော်သူများဖြစ်သော 'ဓမ္မရံသီချစ်သူ' များနှင့် မိတ်ဆက်ပေးလိုပါသည်။

## အတိတ်နိမိတ်ကို ယုံကြည်သော် မိစ္ဆာဒိဋ္ဌိ

ဗုဒ္ဓဘာသာဝင်ဟု ဆိုစေကာမူ ဓမ္မစာပေများကို မြတ်နိုးကြည်ညိုစွာ လေ့လာရကောင်းမှန်း မသိသူများသည် အတိတ်နိမိတ်၌ ယုံကြည်သက်ဝင်တတ်ကြရာ အတိတ်နိမိတ်တို့၌ ယုံကြည်သက်ဝင်ခြင်းသည် မိစ္ဆာဒိဋ္ဌိပင် ဖြစ်ကြောင်း ဤစာအုပ်ငယ်၏ စာမျက်နှာ ၃၅– ၃၆ တွင် အောက်ပါအတိုင်း ဖော်ပြထားပါသည်။

ပုထုဇဉ်မှန်သမျှ နိမိတ်ကောက်တဲ့သူတွေ များတယ်။ ယုတ်စွအဆုံး မျက်ခုံး လှုပ်တာတောင် လာဘ်ရမယ်လို့ နိမိတ် ကောက်တတ်ကြတယ်။ အိမ်မြှောင်စုတ်ထိုးတာ၊ ငှက်မြည်တာ၊ ခွေးဟောင်တာမကျန် ပုထုဇဉ်တွေဟာ နိမိတ်ကောက်တတ်ကြတယ်။ နိမိတ်ကောက်တဲ့အတိုင်း မှန်ချင်လည်း မှန်သွားတတ်တယ်။ ဒီလို မှန်သွားလျှင် ဒီဟာကို မြင်လို့၊ ဒီအသံကို ကြားလို့ရယ်လို့ နိမိတ်ကြောင့် အကျိုး၊ အပြစ် ဖြစ်ပေါ်လာတယ်လို့ ယူဆသွားတတ်ကြတယ်။ အတိတ်နိမိတ်ဆိုတာ ကံရဲ့ ရှေ့ပြေး၊ နေမထွက်ခင်လာတဲ့ အရုဏ်ရောင်ပဲ။ အရုဏ်ရောင်ကို မြင်လျှင် အရုဏ်ရဲ့နောက်မှာ နေမင်းရှိတယ်။ မကြာခင် နေမင်း ထွက်ပေါ်လာမှာပဲလို့ နိမိတ်ထင်ပြီး အကျိုး အပြစ် ဖြစ်ပေါ်လာလျှင်လည်း သိထားဖို့ လိုတယ်။ ဒီလို ကံကြောင့်ဆိုတာ မမြင်ဘဲ ကံကို မျက်ကွယ်ပြုပြီး ဒီအတိတ်နိမိတ်ကြောင့် ဒီလိုဖြစ်တာပဲလို့ ယုံကြည်ခဲ့လျှင် (မင်္ဂလိကဒိဋ္ဌိ) လို့ ခေါ်တယ်။ မင်္ဂလိကဒိဋ္ဌိဆိုတာ အယူမှားမို့ မိစ္ဆာဒိဋ္ဌိလို့ခေါ်တယ်။

## ပညာရှိမှန်သမျှ မင်္ဂလာအယူ မရှိစကောင်း

အမြင်အကြား၊ အတွေ့အထိကို နိမိတ်ကောက်သော မင်္ဂလာအယူကို ပညာရှိများက မယူကြောင်းကိုလည်း စာမျက်နှာ ၄၀ တွင် ဤသို့ ဖော်ပြထားပါသည်။

ရသေ့က– ပုဏ္ဏားကြီး အမြင်၊ အကြား၊ အတွေ့အထိ နိမိတ်ကောက်တဲ့ မင်္ဂလာအယူ ငါ့မှာ မရှိဘူး၊ ငါ့မှာသာ မဟုတ်ဘူး။ လောကမှာ ထင်ရှားတဲ့ ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ အရှင်ကောင်းများလည်း

မင်္ဂလာအယူမရှိဘူး။ ဒါကြောင့် ပညာရှိမှန်သမျှ မင်္ဂလာအယူ မရှိစကောင်းဘူးလို့ ဟောတဲ့အတွက် ပုဏ္ဏားကြီးလည်း မင်္ဂလာအယူကို စွန့်ခဲ့သတဲ့။

**အယူဆိုး**

အတိတ်နိမိတ်ကောက်ခြင်း၊ အိပ်မက်နိမိတ်ကောက်ခြင်း၊ လက္ခဏာဖတ်ခြင်း စသည်များသည် အယူဆိုးများသာ ဖြစ်ကြောင်းကိုလည်း စာမျက်နှာ ၄၂- ၄၃ တွင် ဤသို့ ဖော်ပြခဲ့ပါသည်။

"ဒါတွေကို နိမိတ်ကောက်ယူပြီး ကောင်းကျိုး၊ ဆိုးကျိုး ယူဆတာကို (မင်္ဂလိကဒိဋ္ဌိ) လို့ခေါ်တယ်။ ဤမှတစ်ပါး အိပ်မက်နိမိတ်ကောက်တာ၊ အကောင်းအဆိုး ကျက်သရေလက္ခဏာ နိမိတ်ကောက်တာ၊ မိန်းမလက္ခဏာ၊ ယောကျ်ားလက္ခဏာ၊ ကျွန်မိန်းမလက္ခဏာ၊ ကျွန်ယောကျ်ားလက္ခဏာ၊ သန်လျက်လက္ခဏာ၊ ဆင်ကြန်အတတ်၊ မြင်းကြန်အတတ်၊ နွားကြန်အတတ်လက္ခဏာ၊ လက်နက်လက္ခဏာ၊ အဝတ်လက္ခဏာ အစရှိတဲ့ ခက္ခဏာအတတ်မျိုးတွေကိုလည်း (မင်္ဂလိကဒိဋ္ဌိ) လို့ခေါ်တယ်။(မင်္ဂလိကဒိဋ္ဌိဆိုတာ အယူမှန် မဟုတ်ဘူး။ အယူဆိုးမို့ မိစ္ဆာဒိဋ္ဌိအတွင်းမှာ ပါဝင်တယ်။ ဒီမိစ္ဆာဒိဋ္ဌိ အယူဆိုးကို အမှန်မမြင်တတ်ကြတဲ့ ပုထုဇဉ်အချို့သာ ယူဆတတ်ကြတယ်"

**အပါယ်အထိ အကျိုးပေးနိုင်**

မင်္ဂလိကဒိဋ္ဌိသည် များသောအားဖြင့် အပါယ်အထိ ပဋိသန္ဓေပေးနိုင်ကြောင်းကိုလည်း စာမျက်နှာ ၄၄ တွင် အောက်ပါအတိုင်း တင်ပြထားပါသည်။

"မင်္ဂလိကဒိဋ္ဌိဆိုတာ မြင်တာ၊ ကြားတာ၊ တွေ့ထိတာနှင့် ပတ်သက်ပြီး ကောင်း မကောင်း နိမိတ်ကောက်တာကို ဆိုလိုတယ်။ မင်္ဂလိကဒိဋ္ဌိဟာ ဘာကို စွဲပြီး ဖြစ်တာလဲဆိုတော့ အတ္တဒိဋ္ဌိကို စွဲမှီပြီး ဖြစ်တာတဲ့။ အတ္တဒိဋ္ဌိ (သို့မဟုတ်) သက္ကာယဒိဋ္ဌိဆိုတာ ပုထုဇဉ်တိုင်း စွဲလမ်းတဲ့ ဒိဋ္ဌိမျိုးမို့ အလွန်အားနည်းတဲ့ မိစ္ဆာဒိဋ္ဌိမျိုးဖြစ်တယ်။ အလွန် အားနည်းတဲ့အတွက် သက္ကာယဒိဋ္ဌိသန့်သန့် ကတော့ အပါယ်ပဋိသန္ဓေကို မပေးနိုင်သေးဘူး။ အတ္တဒိဋ္ဌိကို စွဲမှီပေါ်ပေါက်လာတဲ့ မင်္ဂလိကဒိဋ္ဌိမျိုး စွဲကပ်ခဲ့လျှင် များသောအားဖြင့် အပါယ်အထိ ပဋိသန္ဓေ ပေးနိုင်ပြီလို့ မှတ်သင့်တယ်ကွယ်"

**နတ်ပူဇော်ခြင်း၊ ဂြိုဟ်စာကျွေးခြင်း**

နတ်ပူဇော်ခြင်း၊ ဂြိုဟ်စာကျွေးခြင်းစသော ကိစ္စများ၌ ယုံကြည်သက်ဝင်သူများသည် မိစ္ဆာဒိဋ္ဌိဖြစ်မှန်းမသိ ဖြစ်သွားတတ်ကြောင်းကိုလည်း စာမျက်နှာ ၅၄ တွင် ဖတ်ရှုနိုင်ပါသည်။

"ဒါကြောင့်မို့ ကောတုဟလမင်္ဂလာနှင့် ဆက်စပ်နေတဲ့ အတိတ်နိမိတ်ကောက်တာတွေ၊ နတ်ပူဇော်တာတွေ၊

ကောင်းကျိုးရတယ်။ ဒီနတ်၊ ဒီဂြိုဟ်ကို မပူဇော်လို့ ဒီလို မကောင်းကျိုးတွေရတယ် စသောအားဖြင့် ယူဆခဲ့လျှင် မိမိ ကောင်းကျိုးရတဲ့ ကုသိုလ်ကံ၊ မကောင်းကျိုးဖြစ်တဲ့ အကုသိုလ်ကံကို မျက်ကွယ်ပြုထားလိုက်တဲ့အတွက် ကံ–ကံ၏အကျိုးကို ယုံကြည်ပါတယ်ဆိုတဲ့ ကမ္မ သဿကတာဉာဏ်ပါ ပျောက်ကွယ်ပြီး မိစ္ဆာဒိဋ္ဌိ ဖြစ်မှန်းမသိ ဖြစ်သွားတတ်တယ်"

## တိရစ္ဆာနအတတ်

ဗေဒင်၊ နက္ခတ်၊ လက္ခဏာကျမ်းစသော အတတ်များသည် 'တိရစ္ဆာနအတတ်များ' ဖြစ်ကြောင်းကိုလည်း ဤသို့ စာမျက်နှာ ၅၄ တွင် ဖော်ပြထားပါသည်။

"ဒီလိုဆိုလျှင် မင်္ဂလိကဒိဋ္ဌိနှင့် ပတ်သက်တဲ့ ဗေဒင်တို့၊ နက္ခတ်တို့၊ လက္ခဏာကျမ်းစတဲ့ အတတ်တွေကို အလကား အတတ်တွေလို့ ဆိုရတော့မှာလား ဘုရား"

"ဟုတ်တယ်၊ လောကုတ္တရာရေးဘက်ကဆိုလျှင် အဲဒီအတတ်တွေဟာ (တိရစ္ဆာန) အတတ်တွေပဲ"

"တိရစ္ဆာနအတတ် ဆိုတော့ တိရစ္ဆာန်အတတ်လို့ ဆိုလိုက်တာလားဗျာ့"

"တိရစ္ဆာနအတတ်ဆိုတာ မင်္ဂဖိုလ်မှ ဖီလာဖြစ်သော အတတ်လို့ ဆိုတာပါ။ ခွေး၊ နွား၊ ကြက်၊ ငှက် တိရစ္ဆာန်တွေ တတ်တဲ့ အတတ်လို့ ဆိုတာ မဟုတ်ပါဘူး။ မင်္ဂဖိုလ်မှ ဖီလာဖြစ်တဲ့ အတတ်မျိုးမို့ ရဟန်းတော်များ မသင်ကြားအပ်ပါဘူး"

## သာသနာပအတတ်များ

မန္တန်အတတ်၊ အင်္ဂရတ်အတတ်၊ နက္ခတ်ဗေဒင်အတတ် စသော အတတ်များသည် 'သာသနာပအတတ်များ' ဖြစ်ကြောင်း စာမျက်နှာ ၅၆ တွင် ရှင်းလင်းတင်ပြထားပါသည်။

"တိရစ္ဆာနအတတ် ဝိဇ္ဇာအတတ်တွေကို တန္တရ၊ မန္တရ အတတ်လို့ ခေါ်ကြတယ်။ တန္တရဆိုတာ ကျမ်းဂန်ဟူသော အနက်ကို ဟောတယ်။ ရှေးဟောင်းကျမ်းဂန်လာများက လာတဲ့ အတတ်မျိုးမို့ တန္တရတတ် တဲ့ကွယ်။ မန္တရဆိုတာက မန္တန်အတတ်မျိုး ဖြစ်တယ်။ မန္တန်ဆိုတာ ဥုံဖွကစပြီး ရွတ်ဆိုတဲ့ မန္တန်အမျိုးမျိုးကို ဆိုလိုတယ်။ ဒီအတတ်တွေထဲမှာ ဆင်စီး၊ မြင်းစီးအတတ်၊ အင်္ဂရတ်အတတ်၊ ဆေးကုအတတ်၊ နက္ခဗေဒင်အတတ် စတဲ့ လောကီအတတ် အမျိုးမျိုးတွေ ပါဝင်တယ်။ ဒီအတတ်တွေဟာ ဗုဒ္ဓသာသနာတော် မဖြစ်ပေါ်မီ ကမ္ဘာဦးကစပြီး တည်ရှိတဲ့ အတတ်တွေမို့ ဗာဟိရက (သာသနာပအတတ်) လို့ ခေါ်ကြတယ်"

## သာသနာတော် ကွယ်ပျောက်သွားစေနိုင်

ထေရဝါဒ ဗုဒ္ဓသာသနာတော်မြတ်နှင့် ဆန့်ကျင်သော နိမိတ်ဖတ်၊ ဗေဒင်ဟော၊ လက္ခဏာဟော စသော တန္တရ၊ ဝိဇ္ဇာယာန အတတ်များသည် သာသနာတော်ကို ပျောက်ကွယ်သွားစေနိုင်ကြောင်းကို စာမျက်နှာ ၇၆ တွင် ဤသို့ သတိပေး ရေးသားထားသည်။

"ဘုရားပွင့်ရာ မဇ္ဈိမတိုက်မှာ ဘာကြောင့်မို့ သာသနာကွယ်တာလဲလို့ စစ်ဆေးကြည့်ခဲ့လျှင် အခြေခံကတော့ (မင်္ဂလိကဒိဋ္ဌိ) ပေါ့ကွယ်။ မင်္ဂလိကဒိဋ္ဌိဟာ မူလကတော့ ရိုးရိုးမင်္ဂလာအယူ ရှိတာပါပဲ။ ကံကို မလွှတ်သေးဘူး။ နောက်ကျတော့ ဒီမြင်မှု၊ ကြားမှုကြောင့် ဒီလိုကောင်းကျိုး၊ မကောင်းကျိုး ဖြစ်တယ်ရယ်လို့ ကံကိုပယ်လိုက်တယ်။ ကံကို ပယ်လိုက်တော့ ကမ္မ သကတာ သမ္မာဒိဋ္ဌိ ကင်းသွားတာပေါ့။ မဂ္ဂင်ရှစ်ပါးမှာ အခြေခံကမ္မ သကတာ သမ္မာဒိဋ္ဌိ ကင်းလွတ်သွားလျှင် ကျန်တဲ့ မဂ္ဂင်တရားတွေလည်း မရှိတော့ဘူး။ မဂ္ဂင်တရားမရှိလျှင် ဗုဒ္ဓဘာသာပါလို့ ဘယ်လိုပင်ကြိန်တွယ်၍ ပြောစေဦးတော့၊ စစ်မှန်တဲ့ ဗုဒ္ဓဘာသာ မဟုတ်တော့ဘူး။ စစ်မှန်တဲ့ ဗုဒ္ဓဘာသာ မဟုတ်ခဲ့လျှင် ဘုရားရှင်ရဲ့ စကားတော်ဖြစ်တဲ့ (ပရိယတ္တိသာသနာတော်) ကို မငဲ့မျှော်ခဲ့လျှင် ယခုဘဝ ကောင်းစားဖို့အတွက် သူလုပ်ချင်ရာကို လုပ်မှာပဲပေါ့။ ဒါကြောင့် (မင်္ဂလိကဒိဋ္ဌိ) ဟာ အစမူလကတော့ အသေးအမွှား အရေးမထားလောက်စရာလိုလိုနှင့် နောက်ပိုင်းကျတော့ ဗုဒ္ဓသာသနာတော်နှင့် ဆန့်ကျင်တဲ့ နိမိတ်ဖတ်တာတွေ၊ ဗေဒင်ဟော၊ လက္ခဏာဟောတာတွေ၊ နတ်ဟောတာတွေ၊ နတ်ပူဇော်တာတွေဟာ စပြီး များပြားလှတဲ့ တန္တရ၊ ဝိဇ္ဇာယာန အတတ်အမျိုးမျိုးတွေ ဖြစ်ပေါ်လာပြီး အိန္ဒိယပြည်ကြီးမှာလို သာသနာတော် ကွယ်ပျောက်သွားစေနိုင်တယ်"

**ဖတ်ညွှန်း**

[အဂ္ဂမဟာ သဒ္ဓမ္မဇောတိကဓဇ၊ နိုင်ငံတော် ဩဝါဒါစရိယ၊ မြန်မာစာ ဩဝါဒါစရိယ ထီးချိုင့်မြို့၊ တည်တောဆရာတော် ဘဒ္ဒန္တဒေဝိန္ဒာဓိပတိ၏ မင်္ဂလိကဒိဋ္ဌိ]

## ဖတ်ကြည့်စေလိုသော ကဗျာတစ်ပုဒ်

မိမိ နှစ်နှစ်ခြိုက်ခြိုက် ကြိုက်နှစ်သက်သော အရာတစ်ခုကို သူတစ်ပါးတို့အားလည်း မျှဝေခံစားလိုသော စေတနာသည် လူသားတို့၏ အတွင်းသန္တာန်၌ ထွန်းပတတ်ပါသည်။

ထိုစေတနာမျိုးကို အရင်းခံလျက် ယနေ့ မဂ္ဂဇင်းလောကတွင် 'ဝတ္ထုတိုအညွန်း' ၊ 'ဆောင်းပါးအညွှန်း' များကို စာရေးဆရာများက ရေးသားတင်ပြလျက် ရှိပါသည်။ ထိုစေတနာ အရင်းခံလျက် ကျွန်တော်သည်လည်း ဓမ္မစာပေနယ်ပယ်မှ ဘာသာရေး ဆောင်းပါးအညွှန်းကို စဉ်ဆက်မပြတ် လစဉ်ရေးသားခဲ့သည်မှာ သုံးနှစ်ဝန်းကျင် ရှိခဲ့ပေပြီ။

ယခုလည်း ထိုစေတနာမျိုး အရင်းခံလျက်ပင် ရသစာပေနယ်မှ ကဗျာတစ်ပုဒ်ကို ဓမ္မရံသီ မဂ္ဂဇင်း ပရိသတ်ထံ ကမ်းလိုပါသည်။ ကဗျာအမျိုးအစားမှာလည်း ဓမ္မကဗျာဟု မဆိုနိုင်ပါ။ သို့တစေ ယင်းကဗျာမှာ ဖတ်သူကို အယူအမြင် စင်ကြယ်စေနိုင်စွမ်း ရှိပါသည်။ ဗုဒ္ဓဘာသာဝင်တို့ ပထမဦးစွာ ရရှိဆောက်တည်အပ်သော ကမ္မ သကတာ သမ္မာဒိဋ္ဌိအတွက် ပိတ်ဆို့နေသော ကြေးညှော်အညစ်အကြေးတို့ကို ဆေးကြောသန့်စင် သုတ်သင်နိုင်စွမ်း ရှိပါသည်။ မြတ်ဗုဒ္ဓ၏ အဆုံးအမတော်ကို တိုက်ရိုက်ဖော်ပြသည့် ကဗျာ မဟုတ်စေကာမူ စာဖတ်သူတို့အား ကံ-ကံ၏အကျိုးအပေါ် မယိုင်မလဲ ခိုင်ခိုင်မြဲမြဲ ယုံကြည်စေရန် (သွယ်ဝိုက်သောနည်းအားဖြင့်) နှိုးဆော်နိုင်စွမ်း ရှိသော ကဗျာတစ်ပုဒ်လည်း ဖြစ်ပါသည်။

ထိုကဗျာသည် အတိတ်စွဲ၊ နိမိတ်စွဲ ဟူသော ဥပါဒါန်များကို ပြတ်ပြတ်သားသား ရိုက်ချိုး တော်လှန်ထားသော ကဗျာတစ်ပုဒ် ဖြစ်ပါသည်။

ထေရဝါဒဗုဒ္ဓသာသနာတော်မြတ် ထွန်းလင်းတောက်ပရာ မြန်မာ့ရေမြေတောတောင်တွင် ဗုဒ္ဓအလို တော်နှင့်လည်း ဆန့်ကျင်၊ သဘာဝလည်း မကျ၊ ယုတ္တိလည်း မတန်သော အတိတ်စွဲ၊ နိမိတ်စွဲ၊ အယူလွဲ၊ အယူမှားများ ရှင်သန်ပျံ့နှံ့နေဆဲ ရှိသည်မှာ ဝမ်းနည်းဖွယ်ရာလည်း ဖြစ်၊ အံ့သြဖွယ်ရာလည်း ဖြစ်ပါသည်။ ဘုရားရှင်က အင်္ဂုတ္တရပါဠိတော် (တတိယ၊ စာမျက်နှာ ၁၈၉) တွင်အတိတ်စွဲ၊ နိမိတ်စွဲဟူသော အယူတို့၌ သက်ဝင်သူများသည် ဗုဒ္ဓဘာသာဝင်အညစ်အကြေး၊ ဗုဒ္ဓဘာသာဝင်အောက်တန်းစားများ ဖြစ်ကြောင်း ဟောတော် မူခဲ့ပါ၏။

ဝိနည်းတော်၌လည်း စံပြဖြစ်တော်မူ၊ စာပေပရိယတ္တိအရာ၌လည်း နှံ့စပ်ကျွမ်းကျင်တော်မူသော ဆရာတော်ဘုရားကြီးများသည်လည်း ထိုအတိတ်စွဲ၊ နိမိတ်စွဲ စသော အကျိုးမရှိသော အစွဲအလမ်းများကို ပယ်မြစ်တော်မူပါသည်။ ဗုဒ္ဓဘာသာဝင်တို့အကြားတွင် ထိုအယူလွဲ အစွဲမှားများ ပျံ့နှံ့ရှင်သန်နေမှုကို လိုလားတော် မမူပါချေ။ ကျေးဇူးတော်ရှင် ရေဟသ်ာတောရတိုက် စံကျောင်းဆရာတော်ကြီး၏ အပရိဟာနီယအဖွင့် ကျမ်းတွင် အတိတ်စွဲ နိမိတ်စွဲတို့သည် ဗုဒ္ဓဘာသာဝင်တို့၏ အယူမဟုတ်သောကြောင့် စွန့်ပယ်အပ်ကြောင်း အောက်ပါအတိုင်း ကရုဏာဖြင့် ဩဝါဒ ပေးတော်မူခဲ့ပါ၏။

"ပြဿဒါး၊ ရက်ရာဇာ၊ မြေခံ၊ နဂါးလှည့်ကို ရွေးခြင်း၊ အင်္ဂရုတ်ထိုးခြင်း၊ အောင်ပါသောစကား၊ ကိုးပါးသောစကားကိုမှ မင်္ဂလာရှိသည်ဟု ယူခြင်း၊ အသက်ကိုတည် ခုနစ်ခုနှင့် စား၍ ဆေးကုခြင်း၊ လပြည့်ကျော်တစ်ရက်နေ့ စသည်၌ ကျသောနေ့ကို တိုင်ထူ၍ ဆေးကုခြင်း၊ မည်သည့်သစ်ပင်ကို မစိုက်ကောင်းဟူ၍ ယူခြင်း၊ အိမ်ကိုခွေးတက်၊ဖျိုင်းနား၊ လင်းတနား၊ ပျားစွဲလျှင် မည်သို့ဖြစ်လိမ့်မည်ဟု ယူခြင်း၊ အိမ်ဆောက်ဆဲ အိမ်ရှင်သေလျှင် မီးကျော်သည်ဟု ယူ၍ မည်သူမျှ မနေဝံ့ခြင်း၊ အိမ်ခိုက်သည်၊ ကျောင်းခိုက်သည်ဟု ယူတတ်ခြင်းတို့သည် ကံ–ကံ၏အကျိုးကို ယုံကြည်သော ဗုဒ္ဓဘာသာဝင်တို့၏ အယူမဟုတ်၍ စွန့်ပယ်အပ်ကုန်၏"

လွဲမှားသော အတိတ်စွဲ၊ နိမိတ်စွဲများကို မစူးစမ်း မစစ်ဆေး မဝေဖန် မစိစစ်မူလျက် အစဉ်အလာသဖွယ် လက်ခံယုံကြည်နေကြသူများသည် ထေရဝါဒ အသိဉာဏ် အရာတွင် (ကြင်နာဖွယ်ရာ) နုံချာဆင်းရဲရှာကြသူများ ဖြစ်ပါသည်။

အမှားကို အမှားမှန်း မသိသောကြောင့် အမှားကိုပင် ရိုးသားစွာ ယုံယုံရဲရဲ ဖက်တွယ်နေကြရှာသူများ ဖြစ်ပါ၏။

သူတို့၏ အသိဉာဏ်ထဲသို့ အမှားနှင့် အမှန်၊ မိစ္ဆာနှင့် သမ္မာ၊ အဓမ္မနှင့် ဓမ္မများကို ပီပြင် ပြတ်သားစွာ သရုပ်ခွဲ ဆန်းစစ်သည့် ထေရဝါဒမှတ်ကျောက်ကို ထည့်သွင်းကြဖို့ လိုအပ်နေပါသည်။

မသိမှု လွှမ်းမိုးနေသောကြောင့် ရိုးရိုးသားသား မှားနေကြရှာသူများသည် အမှန်ကို မြင်သောအခါ ရိုးရိုးသားသားပင် ပယ်စွန့်လာကြပေလိမ့်မည်။ အမှန်ကို မြတ်မြတ်နိုးနိုး ဖက်တွယ် ပွေ့ပိုက်လာကြသည်။

ထေရဝါဒ သာသနာတော်မြတ်၏ အညစ်အကြေးမည်သော အတိတ်စွဲ နိမိတ်စွဲ အယူအဆများ တစ်စတစ်စ ပါးလျားပျက်ပြယ်သွားစေရန် ဘာသာ သာသနာစိတ် ပြင်းပြထက်သန်သူများက အစဉ်တစိုက် ပညာပေး ဆွေးနွေးရေးသားမှုများကို ဆောင်ရွက်နေကြရန် လိုအပ်ပါ၏။

ထိုမွန်မြတ်သော တာဝန်ကို ထမ်းဆောင်သူများထဲတွင် ကဗျာဆရာ မောင်စွမ်းသူလည်း ပါဝင်ကြောင်း သူ၏ (၁၉၉၄ ခုနှစ်၊ ဇွန်လထုတ်၊ ရေဝတ်မှုံ မဂ္ဂဇင်းတွင် ဖော်ပြခဲ့သော) ခတ်သက်မပါသော ပညတ်များ အမည်ရှိ အောက်ဖော်ပြပါ ကဗျာက သက်သေခံလျက် ရှိပါ၏။

**ခတ်သက်မပါသော ပညတ်များ**

(၁)

"အိမ်မြှောင်" စုတ်ထိုး

အတိတ်ကိုးသော်...

"လာဘ်" တိုးတက်သည် ဆိုကြပြီ။

တို့ တဲအိမ်ခေါင်

မီးဖိုချောင်ထဲ...

"အိမ်မြှောင်" စုတ်ထိုးကြာချေပြီ။

(၂)

"ဇီးကွက်" ရုပ်စင်

နိမိတ်ထင်သော်

"လာဘ်" ရှင်တတ်သည် ဆိုကြပြီ။

(၃)

သြော်... "တောက်ခေါက်သံ" တွေ

"ဝေဒနာ" တွေနဲ့

လူတွေများလို့

စကားဆိုတတ်

ဓားကိုင်တတ်မှု

ဖျတ်လတ် မာန်စောင်

သိုင်းကွက် တစ်ထောင်နဲ့

မီးဖိုချောင်က

ဆန်လှောင်တဲ့အိုး

"ဗလာအိုး" လျှင်

"စုတ်" ထိုးတဲ့ အိမ်မြှောင်

"လာဘ်" ဆောင်တဲ့ "ဇီးကွက်"

"ဥပါဒါန်စက်" ကို

"သောက" တစ်ဖက်

"ဒေါသ" လက်နဲ့

ခုတ်ဖြတ် ရိုက်ချိုးပစ်လိုက်မည်။

*မောင်စွမ်းသူ*

## တောင့်တသင့်သည်မှာ

လောကကြီးတွင် ကာမဂုဏ်ငါးပါး ခံစားခြင်းအားဖြင့် ပျော်ပျော်ပါးပါး နေရခြင်းထက် ငြိမ်းချမ်းကြည်လင် ဖြူစင်သိမ်မွေ့သော စိတ်နှလုံးရှိခြင်းတည်းဟူသော အဖြစ်သည် မြတ်နိုးဖွယ် ကောင်းပေသည် တကားဟု မျှော်မှန်းရော်ရမ်းတတ်သည့် အနုမာနညာဏ်မျိုး ရှိသည်ဆိုလျှင် ပါရမီရင့်သောသူပေတည်းဟု ကျွန်ုပ် အကဲ ဖြတ်သည်။

ဆရာကြီးရေဥဒေါင်း၏ ဒိဋ္ဌေဒိဋ္ဌမတ္တံ ကျင့်စဉ်အမည်ရှိ စာအုပ်၌ ပါရှိသော အထက်ပါ စာပိုဒ်ကို နှစ်သက်သဘောကျမိပါသည်။ လူတစ်ဦး၏ ဘဝတာဟူသည် ကမ္ဘာ့သက်တမ်းနှင့် နှိုင်းယှဉ်လျှင် အင်မတန် သေးငယ်လှသော အစက်အပြောက်ကလေး တစ်ခုမျှသာ ဖြစ်ဘိ၏။ တိုတောင်းလှသော ခဏငယ်ကာလအတွင်းမှာ စိတ်နှလုံး ချမ်းမြေ့ ကြည်လင်စွာနေရခြင်းထက် ပိုမိုမွန်မြတ်သော အဖြစ်ဟူသည် ရှိပါဦးတော့မည်လော။

လောဘ၊ ဒေါသ၊ မောဟကြောင့် လှိုင်းတံပိုးပမာ ရိုက်ခတ်လျက်ရှိသော အပူမီးတို့ဖြင့် လောင်မြိုက်လျက်ရှိသော နှလုံးသားနှင့် ရင်းလျက် ရလာအပ်သော ပစ္စည်းဥစ္စာ ဩဇာအရှိန်အဝါ ထင်ပေါ်ကျော်ကြားမှုတို့သည် အမှန်တကယ် အလိုရှိအပ်၊ တောင့်တအပ်သော အရာများ ဟုတ်ပါ၏လော။ စင်စစ် တိုတောင်းလှစွာသော ကာလငယ်အတွင်းမှာ အမှန်တကယ် အလိုရှိအပ် တောင့်တအပ်သည်မှာကား ငြိမ်းချမ်းကြည်လင် ဖြူစင်သိမ်မွေ့သော စိတ်နှလုံးရှိခြင်းပင်တည်း။

တရုတ်လူမျိုးတို့၏ တောက်ကယ်ကျင်း ကျမ်းမြတ် တွင် မည်ကဲ့သို့ ငြိမ်းချမ်းအောင် နေရမည်ကို သိသောသူကား ကျားနှင့်သော်လည်းကောင်း၊ ကြံ့နှင့်သော်လည်းကောင်း တွေ့လိမ့်မည်မဟုတ်။ သူ့ထံတွင် ကျားကုတ်စရာ နေရာလည်း မရှိ၊ ကြံ့ချိုဖြင့် ထိုးနက်စရာ နေရာလည်း မရှိ။ စိတ်ကို ငြိမ်းချမ်းအောင် ထားရမည်ကို သိသောသူသည် ဘဝခရီးတွင် မည်သို့သော အန္တရာယ်ကိုမျှ တွေ့မည်မဟုတ်ဟု ဖော်ပြထားပါသည်။

စိတ်ကို ငြိမ်းအေးပြေလွင်ဖြူစင်အောင် အစဉ်မွေးမြူသူ၌ အတွင်းအန္တရာယ် ဖြစ်သော ရန်လိုမှု အာဃာတ အမုန်းတရား စသည်တို့ကို တားဆီးထားပြီး ဖြစ်ပါ၏။

မိမိအတွင်းသန္တာန်ရှိ အန္တရာယ်များကို တားဆီးခြင်းသည် ပြင်ပအန္တရာယ်ဖြစ်သော ရန်ခပ်သိမ်းကို တားဆီးစေကြောင့်လည်း ဖြစ်ပါသည်။ အာဃာတသည် အာဃာတနှင့် လည်းကောင်း၊ အမုန်းတရားသည် အမုန်းတရားနှင့်လည်းကောင်း၊ ရန်လိုမှုသည် ရန်လိုမှုနှင့်လည်းကောင်း အချင်းချင်း ရင်ဆိုင်လျှင် ပြင်းစွာသော ပဋိပက္ခအသွင်ဖြင့် ပွင့်ကန်ပေါက်ကွဲတတ်ပါသည်။

အာဃာတကို အာဃာတဖြင့် လည်းကောင်း၊ အမုန်းတရားကို အမုန်းတရားဖြင့်လည်းကောင်း၊ ရန်လိုမှုကို ရန်လိုမှုဖြင့်လည်းကောင်း ငြိမ်းသတ်၍ မရချေ။ မီးကို မီးဖြင့် ငြိမ်းသတ်၍ ရကောင်းသည် မရှိပါ။ အပူဓာတ်ဖြစ်သော မီးကို အအေးဓာတ်ဖြစ်သော ရေဖြင့်သာ ငြိမ်းစဲရပ်တန့်စေနိုင်သည်မှာ ဓမ္မတာပင်။ မိမိအတွင်းသန္တာန်၌ ငြိမ်းချမ်းစိတ်ဟူသော ရေစင်ဖြင့် အစဉ်သွန်းဖြိုးထားအပ်သောသူ၌ ပြင်ပရန်မီးတို့သည် ကူးစက်လောင်ကျွမ်းလာနိုင်စွမ်း မရှိသည်မှာလည်း နိယာမပင် ဖြစ်ပါ၏။

စင်စစ် ငြိမ်းချမ်းစိတ်သည် ရန်မာန်အန္တရာယ် အသွယ်သွယ်တို့မှ ကင်းဝေးစေနိုင်စွမ်း ရှိရုံမျှမက ဉာဏ်ပညာ ထွန်းပြောင်ရေးအတွက် ပဓာနကျသော အထောက်အပံ့လည်း ဖြစ်ပါသည်။ ဆန်တင်ဒန်မြို့ ကောလိပ်ကျောင်းအုပ်ကြီးဖြစ်သော ဂျမ်းစ်အဲလဲနန်က စိတ်၏ တည်ငြိမ်ခြင်းသည် ဉာဏ်ပညာ၏ လုပသော ကျောက်မျက်ရတနာတို့တွင် တစ်ပါးဖြစ်သည်။ ယင်းသည် ကိုယ်နှုတ်နှလုံးတို့ကို ကာလကြာရှည်စွာ သည်းခံ၍ ထိန်းသိမ်းရန် ကြိုးပမ်းမှုမှရသော ရလဒ်ဖြစ်သည်။ ယင်းရှိနေခြင်းသည် အတွေးအခေါ် ပေါ်ထွန်းလာမှုနှင့် လုပ်ဆောင်မှုတို့၏ နိယာမတရားကို သာမန်အားဖြင့် သိသော အသိထက် ပိုသောအဖြစ်နှင့် ရင့်ကျက်သော အတွေ့အကြုံတို့ကို ဖော်ညွှန်းခြင်းဖြစ်သည်ဟု ဆိုဖူးပါသည်။

ငြိမ်းချမ်းစိတ်ဟူသည် လိုချင်မြတ်နိုးတတ်သော ဆန္ဒဖြင့် ပြုစုပျိုးထောင်ယူမှသာလျှင် ရသောအရာလည်း ဖြစ်ပါသည်။ စိတ်တွင် ဇာတိသဘော၊ အာဂန္တုသဘောဟူ၍ နှစ်မျိုး ရှိပါသည်။

စိတ်ဟူသည်မှာ ပကတိအားဖြင့် ဖြူစင်သော်လည်း ကိုယ်တွင်း၌ ကိလေသာတို့၏ ထိုးဆွကိုက်ခဲမှုကြောင့် မကောင်းမှုတို့၌သာ အမြဲ မွေ့လျော်လိုခြင်းသည် စိတ်၏ ဇာတိသဘော ဖြစ်ပါသည်။

ပါပသ္မိံရမတေမနော စိတ်သည် မကောင်းမှု၌ မွေ့လျော်၏ ဟူ၍ ဓမ္မပဒပါဠိတော်၌ ဟောတော်မူသည်မှာ စိတ်၏ဇာတိသဘောကို ဖော်ညွှန်းပြခဲ့ခြင်းဖြစ်ပါသည်။ ကုသိုလ်ကောင်းမှု ကိစ္စနှင့် ဖြစ်ခြင်းသည် ပြုပြင်မှုကြောင့် ဖြစ်သော စိတ်၏ အာဂန္တုသဘော ဖြစ်၏။ ကောင်းမှု သုစရိုက်ဟူသမျှသည် စိတ်၏ အာဂန္တုသဘော ဖြစ်၏။

စိတ်၏ အာဂန္တုသဘောမည်သည် ရေတို့၏ အထက်ဆန်တက်ခြင်းနှင့် ပမာတူပါသည်။ ပြုပြင်မှု ရှိမှသာလျှင် ပြုပြင်မှု၏ အစွမ်းအားလျော်စွာ ဖြစ်ထွန်းပြီး ပြုပြင်မှု အစွမ်းသတ္တိ ကုန်ဆုံးသည်နှင့် တစ်ပြိုင်တည်း မူလအတိုင်း ဇာတိသဘောသို့ သက်လျှောမြဲ ဖြစ်ပါသည်။ ထို့ကြောင့်လည်း ဘုရားရှင်က **"မကောင်းမှု၌ စိတ်သည် မွေ့လျော်တတ်၍ ကောင်းမှု ပြုသောအခါ နှံ့နှေးတတ်ရကား မကောင်းမှုမှ စိတ်ကို တားမြစ်၍ ကုသိုလ်ကောင်းမှုတို့ကို လျင်မြန်ဆောစွာ ပြုလုပ်ရာ၏"** ဟူ၍ (*ဓမ္မပဒ၊ ပါ၊၁၁၆*) တွင် ဟောတော်မူခြင်း ဖြစ်ပါသည်။

"မည်သည့်အရာကမျှ ငြိမ်းချမ်းမှုကို သင့်ထံသို့ ယူဆောင်မလာနိုင်။ သင်ကိုယ်တိုင်ကသာ ယူဆောင်၍ လာရမည် ဖြစ်သည်" ဟု အီမာဆင် ပြောသလိုပင် ငြိမ်းချမ်းစိတ်ကိုလည်း မိမိဘာသာ မမေ့မလျော့သော သတိဖြင့် အစဉ်နိုးကြားကာ ပျိုးထောင်မွေးမြူရမည်သာ ဖြစ်ပါသည်။

ယင်းသို့ ပျိုးထောင်ရာ၌ အာဂန္တုသဘောဖြစ်သည့်အလျောက် ကိုယ် နှုတ် နှလုံး သုံးပါး၏ လှုပ်ရှားမှုများကို အစဉ်စောင့်ကြပ် ထိန်းသိမ်းရန် လိုအပ်ပါသည်။ စိတ်လှုပ်ရှားမှု တစ်ခုဖြစ်တိုင်း၊ စိတ်ခံစားမှု တစ်ခု ဖြစ်တိုင်း ငြိမ်းချမ်းစိတ် ဟုတ်၏လော၊ မဟုတ်၏လော ဟူသည်ကို မပြတ်သော သတိဖြင့် စောင့်ကြည့်ထိန်းချုပ်သော အလေ့အထကို ကာလကြာရှည်စွာ သည်းခံပျိုးထောင်လာသောအခါတွင် အအေးဓာတ် အားကောင်းလာသည်နှင့်အမျှ ပြင်ပအပူဓာတ်များကို ခံနိုင်မှန်းမသိ ခံနိုင်၍ လာပေလိမ့်မည်။

လူသားအားလုံးလောက်၏ ဒုက္ခရပ်များမှာ ငြိမ်းသက်စွာ နေနိုင်စွမ်း မရှိခြင်းမှ ထွက်ပေါ်လာခြင်း ဖြစ်သည်။

ငြိမ်းချမ်းစိတ်ကို မွေးမြူသူ၌ ကိုယ်အမူအရာတို့ သေဝပ်လာ၏။ နူးညံ့ပျော့ပြောင်းလာ၏။ ပူလောင် လှုပ်ရှားမှု၊ ဗျာများမှု၊ ယောက်ယက်ခတ်မှုများ တဖြည်းဖြည်း တစ်စတစ်စ နည်းပါး၍ လာသည်။ ဆိတ်သုဉ်း၍ လာသည်။မလိုလားအပ်သော အကျိုးစီးပွားနှင့် ဆန့်ကျင်ဘက်ဖြစ်သော၊ ပတ်ဝန်းကျင်နှင့် ထိပ်တိုက် ပဋိပက္ခ ဖြစ်စေသော ကိုယ်နှုတ်အမူအရာတို့ ဆင်ခြင်တုံတရားနယ်ပယ်အတွင်း ဝင်ရောက်လာ၏။ ထိန်းချုပ်မှု နယ်ပယ်အတွင်း ဝင်ရောက်လာ၏။ ကိုယ် နှုတ် အမူအရာဆိုးတို့မှ ဖြစ်ပေါ်လာသည့် ဒုက္ခများကို တားဆီးလာနိုင်သည်။ ရှောင်ရှားလာနိုင်သည်။

ဤသို့ မလိုလားအပ်သော ပဋိပက္ခများ နည်းပါးလာသည်နှင့် အမျှ ငြိမ်းချမ်းကြည်လင် ဖြူစင်သိမ်မွေ့သော စိတ်နှလုံး၏ စွမ်းအားကို ဘဝတိုးတက်ရေး လမ်းကြောင်းပေါ်တွင် ပြည့်ပြည့်ဝဝ အသုံးချလာနိုင်သည်။ အေးချမ်းကြည်လင်သောစိတ်၌ အတွေးအခေါ်ကောင်းများ၊ အကြံဉာဏ်ကောင်းများ ပွင့်စည်ဝေဖြာတတ်သည်။ လူ့ဘဝ ပြဿနာများကို ဖြေရှင်းရာ၌ လှုပ်ရှားဆူပွက် ဂယက်ထနေသော စိတ်ကို အားကိုးအားထားပြု၍ မရနိုင်။ ငြိမ်သက်တည်ကြည်နေသော စိတ်သည်သာ လူ့ဘဝ ပြဿနာများကို လွယ်ကူချောမွေ့စွာ ဖြေရှင်းနိုင်ပေလိမ့်မည်။

စင်စစ် စိတ်ဓာတ်ကို အကောင်းဆုံးဖြစ်အောင် အသုံးချရန် နည်းလမ်းမှာ အတင်းအကျပ် ကြိုးစားခြင်းနှင့် တင်းမာမှုမှ မရရှိနိုင်ပေ။ အခါခပ်သိမ်း ကြည်လင်ရှင်းလင်းစွာ ကြံဆနိုင်စေသည့် ငြိမ်ဝပ်မှုမှသာ ရနိုင်ပေသည်။

'စိတ်သည် မည်သည့်အခါမျှ မှန်ကန်မှု မရှိ။ သို့ရာတွင် စိတ်ထဲ၌ ငြိမ်းချမ်းမှု ရှိလာသောအခါတွင်မူ မှန်ကန်လာလေသည်' ဟူ၍ ကမ္ဘာကျော် အတွေးအခေါ်ပညာရှင် ဆင်နီးကားက ပြောဖူးပါသည်။

မငြိမ်းချမ်းသော၊ ယောက်ယက်ခတ်နေသော၊ ဆူပွက်လှုပ်ရှားနေသော စိတ်နှလုံးသည် ပြဿနာတစ်ရပ်ကို ဖြေရှင်းရာ၌ မှန်ကန်မှု မရှိတတ်သည်သာ များပါသည်။ ဤသို့ မှန်ကန်မှု မရှိသော ဖြေရှင်းနည်းဖြင့် ဖြေရှင်းလေ၊ ပြဿနာမှာ ပိုမို၍ ခက်ခဲလာလေ၊ ရှုပ်ထွေးလာလေ ဖြစ်ကာ စိတ်နှလုံးသည် ပိုမို၍ ဆောက်တည်ရာမရလေ၊ ပူလောင်လာလေ ဖြစ်ပေသည်။ ဤသို့ဖြင့် မှားပြီးရင်း မှားရင်းဖြင့် ဘဝတစ်လျှောက်လုံးတွင် သောက၊ ဒေါသများဖြင့် ပြွမ်းပြည့်ပူလောင်လာတတ်ပေသည်။ ငြိမ်သက်အေးချမ်းသော စိတ်နှလုံးမှသာ ဘဝ ပြဿနာတို့ကို ဖြေရှင်းရာ၌ အတွေးမှန်၊ အကြံအစည်မှန်များဖြင့် မှန်မှန်ကန်ကန် ဖြေရှင်းနိုင်ပေသည်။

ဘဝ ငြိမ်းချမ်းစိတ်ကို တောင့်တအပ်သော အရာအဖြစ် မြတ်နိုးတန်ဖိုးထားကာ ပျိုးထောင်မွေးမြူလာသူများ များပြားလာသည်နှင့်အမျှ လူ့ဘောင်သည် ငြိမ်းချမ်းသာယာ လှပလာပေလိမ့်မည်။

## စာဖတ်ဖို့က ပထမ

"ငါ့ရှင်ကား စာပေပရိယတ် ကျွမ်းသဖြင့် တော်ပေသည်။ စာမတတ်သူများကား မိမိအသိကို တင်စားလွန်း၍ ပျက်စီးတတ်သည်။ အရာရာ သဒ္ဒါ ပညာ ဝီရိယ မျှတအောင် ကြိုးစားလေတော့"

*(ဘုန်းတော်ကြီး ဦးသာရွှန်း)*

၁၉၈၃ ခုနှစ် ဧပြီလထုတ် ဓမ္မရံသီ ဓမ္မမဂ္ဂဇင်းတွင် ဖော်ပြသော မလေးငြိမ်၏ ပုဂ္ဂိုလ်စစ်တမ်း ဆောင်းပါးကို ဖတ်ရပါသည်။ 'ဝိပဿနာ တရား အားထုတ်တာ စာတတ်ဖို့ မလိုပါဘူး' ဟူသော အယူအဆ ရှိသူများအတွက် လမ်းမှန်ကို ညွှန်ပြသော ဆောင်းပါးကောင်းတစ်ပုဒ်ဖြစ်၍ စာရေးသူ၏ စေတနာကို လေးစားကျေးဇူးတင်မိပါ၏။

တရားအားထုတ်နေသူ အတော်များများက 'စာတွေ ဖတ်နေဖို့ မလိုပါဘူး၊ စာဖတ်ရုံနဲ့ နိဗ္ဗာန် မရောက်ပါဘူး။ စာကစာပဲ၊ လက်တွေ့နဲ့ တခြားစီ' ဟု ပြောသံကို ရံဖန်ရံခါဆိုသလို ကြားဖူးပါသည်။ တစ်ဆင့်စကား တစ်ဆင့်နားနှင့် ပြောကြသည်ကိုလည်း ကြားဖူးပါသည်။

အချို့ယောဂီများသည် ဘဝတစ်လျှောက်လုံး လောကီစည်းစိမ် ဉစ္စာနောက်သို့သာ မမောမပန်း လိုက်ပါပြီး ဗုဒ္ဓ၏ အဆုံးအမများကို သိရှိအောင် မကြိုးစားခဲ့၊ ဖိမ်ခံပစ္စည်းမျိုးစုံဖြင့် ဖိမ်ခံနေစဉ် ပိဋကတ် မြန်မာပြန်ကျမ်းဟူ၍ တစ်အုပ်မျှပင် ဝယ်ဖတ်ရန် စိတ်မကူးခဲ့။ ဇရာအရွယ်ရောက်မှ တရားရိပ်သာသို့ ဝင်ပြီး စာသမားများထက် (သူတို့က) အဆများစွာ မြင့်မားနေဟန် ဘဝင်ရှိကြသည်ကို သနားကရုဏာဖြစ်စဖွယ် တွေ့မြင်နေရပေသည်။

စင်စစ်မူ ဘဝတစ်လျှောက်လုံး ဗုဒ္ဓ၏ တရားစာပေများနှင့် မကင်းမကွာ နေလာသူများက ဝိပဿနာသမားစစ်စစ်များ အပေါ် လေးစားအားကျစိတ် ဖြစ်သကဲ့သို့ ဝိပဿနာသမားစစ်စစ်များကလည်း စာသမားများအပေါ် အထင်သေးခြင်း မရှိကြပေ။

ဗုဒ္ဓစာပေများနှင့်လည်း ရင်းနှီးကျွမ်းဝင်မှု မရှိ၊ ဆရာကောင်းသမားကောင်းတို့၏ အစောင့်အရှောက်ကိုလည်း မရရှိသူ၊ ဝိပဿနာသမားများအနေဖြင့် ဘုရားရှင် ၄၅ ဝါပတ်လုံး ကရုဏာတော်ဖြင့် ဟောကြားတော်မူခဲ့သော တရားတော်များအပေါ် တန်ဖိုးဖြတ် မှားယွင်းခြင်းမှာ သူတို့အတွက် အင်မတန် နစ်နာစေနိုင်ပါသည်။ တရားထူး သိမြင်ရေးတွင် ကြီးမားသော အနှောင့်အယှက်လည်း ဖြစ်နိုင်ပါသည်။

စင်စစ်သော် ဘုရားရှင်၏ တရားတော်များသည် နိဗ္ဗာန်ရောက်ကြောင်း လမ်းညွှန်များဖြစ်၍ ယင်းလမ်းညွှန်ချက်များကို သိရှိအောင် ဦးစွာ ပထမ ကြိုးစားခဲ့ရပေလိမ့်မည်။ လမ်းညွှန်မှု မရှိဘဲ လမ်းလျှောက်ခြင်းသည် မျက်ကန်းလမ်းလျှောက်သကဲ့သို့ ဦးတည်ရာ မရောက်နိုင်။ သို့ဖြစ်၍ သိဖို့က ပထမ ဖြစ်ပြီး သိသည့်အတိုင်း ကြိုးစားဖို့က ဒုတိယ ဖြစ်ပါသည်။

"ငါ ကိုးကွယ်ရာ ဗုဒ္ဓမြတ်စွာသည် ကိုယ်တော်တိုင် ဝီရိယ ပါရမီကို ကြိုးစား၍ ဘုရားဖြစ်တော်မူသည်။ ဘုရားဖြစ်တော်မူပြီးနောက်လည်း မနားမနေ တရားဟောတော်မူခဲ့ပေ၏။ ထိုဟောတော်မူသမျှ တရားတိုင်းမှာ သိဖို့က ပထမ၊ သိသည့်အတိုင်း ကြိုးစားဖို့က ဒုတိယထား၍–

"ဝါယမေထေဝ ပုရိသော၊ နနိမ္မိန္နေယျပဏ္ဍိတော" ယောကျ်ားမှန်က ကြိုးစားသင့်စွာ ပညာရှိ မပျင်းရိရာ ဟု ဟောတော်မူသည်။

ကျေးဇူးတော်ရှင် မဟာဂန္ဓာရုံ ဆရာတော်ကြီး အရှင်ဇနကာဘိဝံသ၏ အထက်ပါ ဩဝါဒမှာ စာဖတ်ဖို့မလိုဟူသော ဝိပဿနာသမားအမည်ခံများအနေဖြင့် အလေးအနက် ဆင်ခြင် နှလုံးသွင်းအပ်လှပါသည်။

ဗုဒ္ဓမြတ်စွာ၏ သဗ္ဗညုတရွှေဉာဏ်တော်မြတ်ဖြင့် ထုတ်ဖော်ဟောကြားတော်မူအပ်သော သုတ္တန်၊ ဝိနည်း၊ အဘိဓမ္မာတည်းဟူသော ပိဋကတ်သုံးပုံသည် သတ္တဝါဝေနေယျတို့အား လောကီ၊ လောကုတ္တရာ နှစ်ဖြာသော အကျိုးတရားများကို အကြွင်းမဲ့ ပေးနိုင်စွမ်းပါ၏။ ပိဋကတ်သုံးပုံ အဆီထုတ်လျှင် သီလ၊ သမာဓိ၊ ပညာကို ရရှိနိုင်ပါသည်။

ဗုဒ္ဓဘာသာဝင်တို့၏ တစ်ခုတည်းသော အဆုံးစွန်ပန်းတိုင်ဖြစ်သည့် နိဗ္ဗာန်သို့ ရောက်စေမည့် မြတ်သော လမ်းစဉ် (၈) ပါးနှင့် ကမ္မဋ္ဌာန်း ၄၀ ကိုလည်း ပိဋကတ်တော်တွင် အထင်အရှား ဖတ်ရှုနိုင်ပါသည်။

ဝိပဿနာလုပ်ငန်းခွင် ဝင်သူများသည် ပိဋကတ်တော်၌ တရားထိုင်နည်း၊ ရှုမှတ်ပွားများနည်းများကို လေ့လာဖတ်ရှုနိုင်ပါသည်။ ပိဋကတ်တော်တွင် ပါရှိသော နည်းလမ်းများထက် ကောင်းမွန်သော နည်းလမ်း မရှိပါ။ ပိဋကတ်တော်တွင် ပါရှိသော ကျင့်စဉ် ကျင့်နည်းများထက်လည်း မည်သူမျှ ပို၍ မကျင့်ကြံနိုင်ပါ။

တစ်ခါက ရဟန္တာဟု ကျော်ကြားတော်မူသော ကျေးဇူးတော်ရှင် ဘုန်းတော်ကြီး ဦးသီလထံသို့ ပဲခူး မဟာစေတီ ပထမ ဆရာတော်ဘုရားကြီး အရှင်ဂုဏ ကြွရောက်ပြီး "အရှင်ဘုရား၏ နည်းကို ယူ၍ တရားအားထုတ်လိုပါတယ်" ဟု လျှောက်ထားလာပါသည်။ ဘုန်းတော်ကြီးဦးသီလက ပြန်လည် အမိန့်ရှိတော်မူသည်မှာ ဤသို့ပါ။

"ဦးဂုဏ၊ တရားအားမထုတ်ချင်လျှင် အားမထုတ်ချင်ဘူးလို့ ရိုးရိုးပြောပါ။ တပည့်တော်လည်း စာထဲမှာ ပါတာမှတ်ပြီး အားထုတ်တာပဲ။ စာထက်ပိုပြီး ဘာမျှ မတတ်ဘူး။ ဦးဂုဏလည်း စာထဲပါတာမှတ်ပြီး အားထုတ်ရောပေါ့။ စာကြည့်နိုင်သားနဲ့။ ဘယ်သူ့နည်းကို ယူနေရဦးမှာလဲ။ စာထက်ပို၍ ဘယ်သူက မှန်ဦးမှာလဲ၊ ဘယ်သူက မြန်ဦးမှာလဲ"

ဆရာဦးဌေးလှိုင်၏ **ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ** စာအုပ် ဖတ်ဖူးသူတိုင်း ရဟန္တာဟု ကျော်ကြားတော်မူသော ဘုန်းတော်ကြီး ဦးသီလ၏ အံ့မခန်း ပူဇော်ဖွယ် သီလ၊ သမာဓိ၊ ပညာဂုဏ်တော်များကို ဖူးမြော်ကြည်ညိုနိုင်ကြပါသည်။ ဤမျှ ကြည်ညိုဖွယ်ဖြစ်သော ဆရာတော်ကြီး၏ ဩဝါဒတော်ကို ဝိပဿနာအလုပ်တွင် ဝင်သူတိုင်းက လမ်းညွှန် သဘောတရားအဖြစ် ဦးခိုက်ခံယူကျင့်သုံးအပ်ပါသည်။

ကျေးဇူးတော်ရှင် လယ်တီဆရာတော်၊ မိုးညှင်းဆရာတော်၊ မင်းဘူးဆရာတော်၊ မဟာစည်ဆရာတော် စသည့် မြန်မာနိုင်ငံ ပဋိပတ္တိသာသနာဝင် ထင်ရှားတော်မူလှသည့် ဆရာတော်ဘုရားကြီးများသည် ပရိယတ္တိတွင်လည်း ဦးဆောင် ဦးရွက် ပြုခဲ့ကြသည့် ဆရာတော်ကြီးများ ဖြစ်ကြောင်းကိုလည်း အလေးအနက် နှလုံးသွင်း ဆင်ခြင်အပ်ပါသည်။

လူ၀တ်ကြောင် ယောဂီများအဖို့ သံဃာတော် အရှင်မြတ်များကဲ့သို့ ပရိယတ္တိကို စနစ်တကျ သင်ကြားဆည်းပူးခြင်း မရှိသဖြင့် စာတတ်ရန် မလွယ်သည်ကို နားလည် သဘောပေါက်ပါသည်။ သို့သော် ပိဋကတ်မြန်မာပြန်ကျမ်းများ၊ ဆရာတော်ကြီးများ ရေးသားပြုစုသော ကျမ်းများကို ဖတ်ဖို့တော့ လိုပါလိမ့်မည်။

**ဝိပဿနာတရား အားထုတ်တာ စာဖတ်ဖို့မလို** ဟု အယူအဆရှိသော ယောဂီများအတွက် ဦးအေးကြည် (စာတိုက်)၏ **စေတနာကောင်းဖြင့် ဘုရားဖူးခေါ်သည်** စာအုပ်မှ အောက်ပါ စာပိုဒ်ကို မေတ္တာဖြင့် လက်ဆင့်ကမ်းအပ်ပါသည်။

"ပရိယတ္တိကို မပယ်နဲ့။ ကျေးဇူးမကန်းနဲ့။ ပယ်လို့လည်း မရဘူး။ ပယ်ရင် ကျေးဇူးကန်းရင် မွေးလို့မဆုံး၊ အိုလို့မဆုံး၊ သေလို့မဆုံး သေလျှင်အပါယ်ကျမယ်ဆိုတဲ့ သေခြင်းဆိုးနဲ့ သေရမယ်။ မသေသေးလို့ နေရသေးရင်လည်း ရာဂ၊ ဒေါသ၊ မောဟ စတဲ့ မီးတစ်ဆယ့်တစ်ပါး အမြဲ လောင်မြိုက်ခံနေရမှာမို့ သက်ဆိုးရှည်မယ် ယောဂီတို့"

## ဖြတ်လမ်း

"ဖေကြီး စိတ်ဝင်စားမယ့် အကြောင်းအရာတစ်ခု သမီးမှာ ပြောစရာ ပါလာတယ်"

အဝေးသင်တက္ကသိုလ်ဌာနခွဲ တစ်ခုတွင် ဒုတိယနှစ်စာမေးပွဲကို ဖြေပြီး၍ ပြန်ရောက်လာသော သမီးကြီးက ပြောလာခြင်း ဖြစ်ပါတယ်။

"ဖေကြီး စိတ်ဝင်စားတဲ့အကြောင်း ဟုတ်လား"

"ဟုတ်တယ် ဖေကြီးရဲ့၊ ဒီလိုပါ အဆောင်မှာ နေတဲ့ သမီး သူငယ်ချင်းတွေလေ၊ စာမေးပွဲ ဖြေတဲ့နေ့တိုင်းမှာ ဆရာတော်ရဲ့ လက်ဖဝါးပြင်နှစ်ဖက် ဓာတ်ပုံတွေကို ကန်တော့တယ်"

"သံဃာရတနာကို ကန်တော့တာ ကောင်းတာပေါ့ သမီးရယ်"

"ဖေကြီးကလည်း သမီးပြောမယ့် စကားကို ဆုံးအောင် ပြောပါရစေဦး။ ကန်တော့ရုံလောက်နဲ့တော့ စိတ်ဝင်စားစရာ အကြောင်းလို့ သမီးက ဘယ်မှာ စကားပလ္လင်ခံပါ့မလဲ။ အဲဒီလို ကန်တော့ပြီးမှ ဆရာတော်ကြီးရဲ့ လက်ဖဝါးပြင်နှစ်ဖက် (ဓာတ်ပုံ) အပေါ် သူတို့ လက်ဖဝါးတွေ ထပ်တယ်"

"ဘုရား ဘုရား"

"အဲဒီလိုလုပ်ရင် စာမေးပွဲ ဖြေဆိုနိုင်တယ်လို့ သူတို့က ယုံကြည်တယ်တဲ့။ သမီးကိုလည်း သူတို့လို လုပ်ဖို့ တိုက်တွန်းကြတယ်"

"အဲဒါနဲ့ပဲ သမီးက သူတို့လို လုပ်ရော့လား"

"သမီးက သူတို့ကို အဲဒီလို လုပ်ရင် ငရဲကြီးလိမ့်မယ်ထင်တယ်လို့ ပြန်ပြောတာပေါ့"

"ဒီတော့ သမီးသူငယ်ချင်းတွေက ဘာပြန်ပြောသလဲ"

"ငရဲ မကြီးပါဘူးတဲ့၊ ကန်တော့ပြီးမှ လုပ်တာတဲ့။ ဆရာတော်ရဲ့ လက်ဖဝါးပြင် ဓာတ်ပုံပေါ်ကို ကိုယ့်လက်ဖဝါးတွေ အပေါ်ကနေပြီး အုပ်မိုးထပ်တာဟာ ကန်တော့ပြီးမှပဲ လုပ်လုပ်၊ သမီးကတော့ မလုပ်ကောင်းဘူးလို့ ထင်တယ်။ သမီးတော့ မလုပ်ရဲပါဘူး"

"မှန်တာပေါ့ သမီးရယ်၊ ဘယ်လုပ်ကောင်းပါ့မလဲ။ ပြစ်မှားလိုတဲ့ စိတ် မရှိတောင် ဒါဟာ မောဟနဲ့ ယှဉ်တဲ့ အဂါရဝမှုပဲ။ သံဃာတော် အရှင်သူမြတ်တွေအနေနဲ့ မာတုဂါဆိုရင် မွေးကင်းစကလေးပဲ ဖြစ်ဖြစ်၊ ကိုယ့်လက်နဲ့ တစ်စုံတစ်ရာ ထိတွေ့ခြင်း မပြုရဆိုတဲ့ ဝိနည်း သိက္ခာပုဒ်တော်မြတ်ကို ဘုရားရှင် ပြဋ္ဌာန်းတော်မူထားတယ်။ အခု ဓာတ်ပုံဆိုပေမယ့် သီလ၊ သမာဓိ၊ ပညာ ကြီးမားတော်မူတဲ့ ဆရာတော်ကြီးရဲ့ လက်ဖဝါးပြင် ဓာတ်ပုံဆိုတော့ သမီးတို့လို အမျိုးသမီးငယ်ငယ်တွေက ကိုယ့်လက်နဲ့ ဘယ်လိုလုပ်ပြီး ထပ်ကောင်းမှာလဲ။ ဘုရားရှင် ပြဋ္ဌာန်းထားတဲ့ ဝိနည်းတော်နဲ့ ဆက်စပ်ပြီး စဉ်းစားကြည့်ရင် သမီး ပိုပြီး သဘောပေါက်လာလိမ့်မယ်။ဖေကြီး စိတ်မကောင်းတာက ဒီလို အမှုတွေ ပြုအောင် သမီးတို့လို လူငယ်တွေကို ဘယ်သူတွေက နှိုးဆော်နေသလဲဆိုတာပဲ။ ဒါဟာ ကောင်းတဲ့ လက္ခဏာ မဟုတ်ဘူး သမီး။ ကိုးကွယ်ရာ သံဃာရတနာအပေါ်မှာ မရိုသေ မလေးမစားနဲ့ ကိုယ်ကျိုးရှိမယ် အထင်နဲ့

တလွဲ အသုံးချနေတာ။ တစ်ဖက်ကြည့်ပြန်တော့လည်း မိမိရဲ့ ကံ၊ ဉာဏ်၊ ဝီရိယကို ထိထိရောက်ရောက် အရင်းအနှီးမပြုဘဲ ဖြတ်လမ်းက စာမေးပွဲ အောင်ချင်တဲ့ အချောင်သမားစိတ်ဓာတ်၊ ဒီအဂါရဝမှုနဲ့ အချောင်သမားစိတ်ကို မျိုးဆက်သစ်တွေပေါ် အမွေပေးနေတဲ့ အင်အားစုတွေဟာ ဘယ်လို ရည်ရွယ်ချက်တွေ၊ ဘယ်လိုစေတနာတွေနဲ့ ဆောင်ရွက်နေတယ်ဆိုတာ ဖေကြီးတော့ စဉ်းစားမရအောင် ဖြစ်နေပြီ သမီး။ ဒါနဲ့ မေးရဦးမယ်။ သမီး သူငယ်ချင်းတွေ အဲဒီလို လုပ်တော့ရော အားပါးတရ ဖြေနိုင်ကြသတဲ့လား"

"တကယ်တမ်း စာကျက်တဲ့နှစ်ယောက်ကတော့ ကောင်းကောင်း ဖြေနိုင်တယ်လို့ ပြောပါတယ်။ အပြင်ထွက်လည်လိုက်၊ အိပ်ရေးလည်းဝအောင် အိပ်လိုက် လုပ်နေတဲ့ သုံးယောက်ကတော့ ထင်သလောက် မဖြေနိုင်ဘူးတဲ့။ အောင်မှတ်တောင် အနိုင်နိုင်ပဲတဲ့။ ပြန်မယ့်နေ့မှာ ဘာသာရပ်ဆိုင်ရာ ဆရာမတွေဆီသွားပြီး ကန်တော့ကြတယ်။ သူတို့ အသုံးအနှုန်းအတိုင်း ပြောရရင် ငိုပြတယ်ပေါ့ ဖေကြီးရယ်"

"ဒီလိုပဲ ဖြစ်ရမယ် သမီး၊ သမီးတို့လူငယ်တွေအနေနဲ့ လုပ်မှ ရမယ်ဆိုတာ သဘောပေါက်ထားဖို့ လိုတယ်။ ကျေးဇူးတော်ရှင် မန်လည်ဆရာတော်ဘုရားကြီးက–

**"မကြိုးမကုတ်၊ အားမထုတ်မူ၊ လူမလို့လ၊ နတ်မ , မတည်၊ ပယောဂစက်၊ ဖျက်သည့်သူအား၊ လူကိုထား၍၊ ဘုရားသော်မှ ကယ်မရဘူး** လို့ မဃဒေဝလင်္ကာသစ်မှာ စပ်ဆိုထားတာကို နှလုံးအိမ်မှာ စွဲနေအောင် မှတ်ထားသင့်တယ်။ အခုလည်းပဲ ဆရာတော်ကြီးကတော့ ဒါတွေကို သိရှာမှာ မဟုတ်ပါဘူး။ သိရင်လည်း ဒီလိုလုပ်ဖို့ ခွင့်ပြုတော်မူမှာ မဟုတ်ပါဘူး။ သမီး သူငယ်ချင်းတွေ ဆရာတော်ကြီးဆီ အဖူးအမြော်သွားပြီး လျှောက်ထားကြည့်ဖို့ ကောင်းတယ်။ တစ်ဆင့်စကားတွေနဲ့ မစူးစမ်း မဝေဖန်ဘဲ လုပ်နေမယ့်အစားပေါ့လေ။ ဆရာတော်ကြီးရဲ့ လက်ဖဝါးပြင်နှစ်ဖက် ဓာတ်ပုံအပေါ်မှာ တပည့်တော်မတို့ စာမကြိုးစားဘဲ နေတာကို စာမေးပွဲအောင်အောင် ဆရာတော်ကြီးက မ ,စ နိုင်ပါသလားလို့"

"ဟုတ်တယ်နော် ဖေကြီး၊ ဆရာတော်ကြီးသာ သိရင် ခွင့်ပြုမှာ မဟုတ်ဘူးနော်"

"ဒါပေါ့ သမီးရယ်၊ ဆရာတော်ကြီးတွေလည်း သီလ၊ သမာဓိ၊ ပညာ အင်အားတွေကို နှစ်ပေါင်းများစွာ ဖွဲ့လုံ့လ ဝီရိယပြင်းပြင်းနဲ့ မနားမနေ ပျိုးထောင်တည်ဆောက်ခဲ့ရတာပဲ။ ဥံဖွဆိုပြီး ဘယ်တန်ခိုးရှင်ကမှ သီလ၊ သမာဓိ၊ ပညာတွေကို ပေးနိုင်တာမှ မဟုတ်တာ။ ဘုရားရှင်က ဘယ်အလုပ်မဆို အောင်မြင်ဖို့ လိုရင်း တိုရှင်း ထိထိမိမိ လမ်းညွှန်ထားတဲ့ အဆုံးအမတော်တစ်ရပ် ရှိတယ်။ အဲဒါကတော့ ဘယ်အလုပ်ကို လုပ်လုပ် လေးလေးစားစား လုပ်ပါ (သကစ္စကာရီ)၊ စွဲစွဲမြဲမြဲ လုပ်ပါ (သာတစ္စကာရီ) တဲ့။ ကဲ... ဘယ်လောက်ထိမိပြီး မှတ်မိလွယ်တဲ့ အဆုံးအမတော်လဲ။ ဘုရားရှင်ရဲ့ ဒီအဆုံးအမတော်ကို သမီးတို့ ကျောင်းသူ ကျောင်းသားတွေ ရင်ထဲ အမြဲ စွဲနေသင့်တယ်။ အဆောင်တွေ၊ လက်ဖွဲ့တွေ၊ ယတြာတွေ၊ ဂါထာတွေ၊ မန္တန်တွေ လုပ်မနေနဲ့။ ဘာတစ်ခုမှ မလိုဘူး။ ဘုရားရှင်ရဲ့ အဆုံးအမတော်အတိုင်း ကိုယ့်ရဲ့ ကျောင်းသားအလုပ်ဖြစ်တဲ့ စာရေး၊ စာဖတ်၊ စာကျက်အလုပ်ကို လေးလေးစားစားနဲ့ စွဲစွဲမြဲမြဲသာ လုပ်စမ်းပါ။ မရေရာ မခိုင်မာတဲ့ လောကီအစီအမံတွေကို အားကိုးဖို့ မလိုသလို သက်ဆိုင်ရာ ဆရာ၊ ဆရာမတွေထံ သွားပြီး ငိုပြဖို့လည်း မလိုပါဘူး"

"ဖေကြီးပြောမှ သတိရတယ်။ ဆယ်တန်းတုန်းက သမီး သူငယ်ချင်းတစ်ယောက်လေ သူ့အမေက ဗေဒင်တွေ၊ နတ်တွေ သိပ်ယုံတာ။ သမီးဖြစ်သူ စာမေးပွဲအောင်ဖို့ ဗေဒင်ဆရာဆီသွားပြီး ယတြာတွေ အမျိုးမျိုးချေ၊ နတ်ကတော်ဆီ ပြေးပြီး ဟိုပစ္စည်းတွေဆက်၊ ဒီပစ္စည်းတွေဆက်နဲ့ အမေဖြစ်သူက သမီးဖြစ်သူ စာမေးပွဲအောင်ဖို့အတွက် ဗေဒင်ဆရာနဲ့ နတ်ကတော်အိမ်တွေမှာ လွန်းထိုးဗျာများနေသလောက် သမီးသူငယ်ချင်းကတော့ စာမှ စိတ်မဝင်စားတာ။ နောက်ဆုံးကျတော့ ဆယ်တန်းကို နှစ်နှစ်ဆက်ကျပြီး ယောက်ျားနောက် လိုက်ပြေးတော့တာပဲ"

"အဲဒါ သမီးသူငယ်ချင်းရဲ့ အပြစ်တင်မဟုတ်ဘူး။ သူ့အမေရဲ့ အပြစ်လည်း ပါတယ်။ ကိုယ့်သမီး ဘယ်ဘာသာရပ်တွေမှာ အားနည်းနေသလဲ၊ ဘာကြောင့် အားနည်းနေတာလဲ၊ သက်ဆိုင်ရာ ဆရာ၊ ဆရာမတွေနဲ့ တွေ့ဆုံဆွေးနွေး အဖြေရှာရမယ်။ အနီးကပ် ကြီးကြပ်နေရမယ်။ မိဘတစ်ယောက်အနေနဲ့ လုပ်သင့် လုပ်ထိုက်တာတွေကို မလုပ်ဘဲ ဗေဒင်ဆရာဆီပြေး၊ နတ်ကတော်ထံသွား ဆိုတော့ ဒီလိုဖြစ်တာ ဘာမှ မဆန်းဘူး။

သမီးကို ဖေကြီး မေးဦးမယ်။ သမီး သူငယ်ချင်းတွေ ဆရာတော်ကြီးရဲ့ လက်ဝါးပြင် ဓာတ်ပုံကို ကန်တော့ပြီး အပေါ်က သူတို့ လက်ဖဝါးနဲ့ ထပ်တာဟာ ဆရာတော်ကြီးကို ကြည်ညိုစိတ်နဲ့ လုပ်တာလား၊ ကိုယ်ကျိုးအတွက် ရည်ရွယ်ပြီး လုပ်တာလား၊ သမီး ဘယ်လို သဘောရသလဲ"

"စာမေးပွဲ အောင်ချင်တာကို အဓိကထားတယ်လို့ပဲ သမီးတော့ ယူဆပါတယ်"

"ဟုတ်တာပေါ့ သမီး၊ ဆရာတော်ကြီးကို တကယ်ကြည်ညိုရင် ဒီလို အဂါရဝမှုမျိုး ဘယ်ပြုလိမ့်မလဲ။ စာမေးပွဲ အောင်ချင်တဲ့ ဆန္ဒနဲ့ လုပ်တာ။ ကျောင်းသား ကျောင်းသူတိုင်း စာမေးပွဲ အောင်ချင်ကြတာချည်းပဲ။ ဒါပေမယ့် ကျောင်းသား၊ ကျောင်းသူတိုင်း အဲဒီလို အလုပ်မျိုး လုပ်သလား သမီး"

"မလုပ်ပါဘူး ဖေကြီး"

"စာမေးပွဲ အောင်ချင်တဲ့ ဆန္ဒချင်းတူပြီး လုပ်ငန်းဟန် မတူကြတာဟာ စိတ်ဓာတ်ချင်း မတူကြလို့ပေါ့။ ရိုးရိုးသားသား၊ ကြိုးကြိုးစားစားနဲ့ မိမိကိုယ် မိမိ ယုံကြည်စိတ် တည်ဆောက်ထားတဲ့ စိတ်ဓာတ်နဲ့ လုံလောက်တဲ့ ဝီရိယအရင်းအနှီးမရှိဘဲ မိမိကိုယ်ကို ယုံကြည်မှု အားပျော့စိတ်ဓာတ်တို့ရဲ့ ခြားနားမှုပဲ။ လောကီ– လောကုတ္တရာ နှစ်ဌာနစလုံးမှာ ဖြတ်လမ်းတွေ နောက်လိုက်ရင် ကြာတော့ ကိုယ်ကျင့်သိက္ခာပါ ယိုင်နဲ့လာတတ်တယ်။ စိတ်ဓာတ်တွေ ပိုပြီး ပျော့ညံ့လာတတ်တယ်။ ဂါထာမန္တန်တွေ လောကီအစီအမံတွေ တည်ရာ တန္တရဝါဒနဲ့ ဗုဒ္ဓဝါဒရဲ့ အဓိက ဆန့်ကျင်ချက်ဟာလည်း ဒါပဲ သမီး။ ဗုဒ္ဓဝါဒက မိမိရဲ့ ကံ၊ ဉာဏ်၊ ဝီရိယတွေ စေတနာတွေနဲ့ မိမိရဲ့ ဘဝကို ဖန်တီးနိုင်တယ်။ လူ့ရဲ့ လုံ့လဥဿဟတွေ၊ စေတနာတွေမှာ စွမ်းအင်ရှိတယ်လို့ ယုံကြည်တယ်။ တန္တရဝါဒကတော့ လူရဲ့ ကံ၊ ဉာဏ်၊ ဝီရိယနဲ့ စေတနာမှာ စွမ်းအင်ကို မရှာဘဲ ဂါထာ၊ မန္တန်၊ အဆောင်၊ ယတြာ၊ အင်းတွေမှာ စွမ်းအင်ကို ရှာတယ်။ ဗုဒ္ဓနည်းလည်းမကျ၊ သဘာဝယုတ္တိလည်း မညီညွတ်၊ သိပ္ပံနည်းနဲ့လည်း အံမဝင်တဲ့ ဒီမှားယွင်းယုတ်မာ ဖောက်ပြန်တဲ့အယူစွဲတွေ၊ ဥပါဒါန်တွေ သမီးတို့ မျိုးဆက်သစ်တွေမှာ လုံးဝကင်းစင်သင့်တယ်။ အခု ဒုတိယနှစ်ရောက်တဲ့အထိ သမီးရဲ့ ကျောင်းသူဘဝတစ်လျှောက်လုံးမှာ ဖေကြီးက ဘယ်ဂါထာမန္တန်တွေ ရွတ်ပါ၊

ဘာလက်ဖွဲ့တွေကို ဆောင်ပါ၊ ဘယ်ယတြာတွေချေပါ၊ ဘယ်နတ်ကတော်ထံ ဘာတွေ ဆက်ပါလို့ ခိုင်းဖူးလို့လဲ။ သမီးရဲ့ကျောင်းသားအလုပ်ကို ကျောင်းသားပီပီသသ၊ လေးလေးစားစားနဲ့ စွဲစွဲမြဲမြဲ လုပ်ဖို့ပဲ တိုက်တွန်းခဲ့တာ။ သမီး တစ်နှစ်တစ်တန်း မှန်မှန်အောင်ခဲ့တာပဲ မဟုတ်လား"

"ဟုတ်ပါတယ် ဖေကြီး"

"အဲဒီလို မရေရာ မသေချာတဲ့ အပြင်အပ အားကိုးရာတွေ လုံးဝမရှာခဲ့ဘဲ အောင်မြင်မှု ရခဲ့တော့ သမီးအနေနဲ့ မိမိရဲ့ ကံ၊ ဉာဏ်၊ ဝီရိယအပေါ် ယုံကြည်အားထားမှုဟာ ပိုမို ခိုင်မာ မြင့်မားလာတယ် မဟုတ်လား။ တကယ်လို့ ဂါထာမန္တန်တွေ၊ အဆောင်လက်ဖွဲ့တွေ အားကိုး၊ ဗေဒင်ဆရာ၊ ဂိုဏ်းဆရာ၊ ဘိုးတော်၊ နတ်ကတော်တွေ အားကိုးခဲ့ပြီး မိမိကလည်း စာကြိုးစားလို့ အောင်မြင်ခဲ့ရင် မိမိရဲ့ ကံ ဉာဏ် ဝီရိယအပေါ် ယုံကြည်မှုထက် မသန့်ရှင်းတဲ့ ကိုးကွယ်မှုနဲ့ မစင်ကြယ်တဲ့ အယူစွဲတွေအပေါ်မှာ ယုံကြည်မှု ရှိမသွားဘူးလား သမီး"

"မိမိကိုယ်အပေါ်မှာ ရာခိုင်နှုန်းပြည့် ယုံကြည်မှု မရှိတော့ဘူးပေါ့ ဖေကြီးရယ်"

"အဲဒါ အရေးကြီးဆုံးပဲ သမီး၊ လူဟာ မိမိအပေါ် ယုံကြည်စိတ်ရာနှုန်းပြည့် ရှိရမယ်။ မိမိရဲ့ ကံ ဉာဏ် ဝီရိယကို အားကိုးရမယ်။ မိမိရဲ့ စေတနာကို အားကိုးရမယ်။ အဲဒီ အစစ်အမှန် အားကိုးရမယ့် အရာတွေအပေါ် ဘယ်လိုအယူစွဲတွေ၊ ဥပါဒါန်တွေကမှ လွှမ်းမိုးကြီးစိုး မလာစေနဲ့။ အောင်မြင်မှု တစ်ခုကို ရလိုရင် မိမိရဲ့ ဉာဏ် ဝီရိယတွေကို တန်ရာတန်ကြေးပေးပြီးမှ ရယူ။ မိမိရဲ့ ဉာဏ် ဝီရိယကျတော လျှော့လျှော့ ပေါ့ပေါ့နဲ့။ ဟိုအဆောင် အားကိုး၊ ဒီလက်ဖွဲ့ အားကိုးဆိုတာ လူညံ့တွေရဲ့ အလုပ်ပဲ"

"ပြီးတော့ ရှိသေးတယ် ဖေကြီး၊ ပါဠိဖြေတဲ့နေ့က သမီး အပြာရောင်အင်္ကျီ ဝတ်တော့ သူငယ်ချင်းတွေက သမီးကို ပြောကြသေးတယ်။ ဘာလို့ အပြာရောင်ဝတ်ထားတာလဲတဲ့။ အပြာရောင်ဝတ်ရင် စာမေးပွဲခန်းထဲမှာ ပျာနေတတ်တယ်တဲ့"

"အပြာရောင် အင်္ကျီဝတ်ပြီး ဖြေတဲ့နေ့က စာမေးပွဲခန်းထဲမှာ တကယ်ပျာခဲ့သလား သမီး"

"မပျာပါဘူး ဖေကြီးရယ်၊ နဂိုကတည်းက သမီးက ပါဠိကို စိတ်ဝင်စားတာပဲဟာ။ ကိုယ့်ဝါသနာပါတဲ့ ဘာသာလည်း ဖြစ်တော့ အများကြီး ပြင်ဆင်ထားခဲ့တာ ဖေကြီးအသိပဲ။ သမီး တည်တည်ငြိမ်ငြိမ်နဲ့ ကောင်းကောင်း ဖြေနိုင်ခဲ့ပါတယ်"

"ဒါပေါ့သမီး၊ စာမေးပွဲအတွက် လုံလုံလောက်လောက် ပြင်ဆင်ထားရင် အပြာရောင်ပဲဝတ်ဝတ်၊ အခြားအရောင်ပဲဝတ်ဝတ် စာမေးပွဲခန်းမထဲမှာ လုံးဝပျာစရာ မလိုပါဘူး။ အဲ- လုံလုံလောက်လောက် ပြင်ဆင်မထားဘူးဆိုရင်တော့ အပြာရောင်ကို ရှောင်ရုံမကလို့ ဘယ်အရောင်ကိုပဲ ရှောင်ရှောင် စာမေးပွဲခန်းထဲမှာ ပျာနေမှာပဲ။ ကြိုးစားအားထုတ်မှု အားလျော်စွာ အကျိုးပေးသွားမှာပါ။ ဝတ်ဆင်တဲ့ ရတနာပစ္စည်း၊ အဝတ်အထည်တွေအပေါ်မှာ မင်္ဂလာ၊ အမင်္ဂလာခွဲခြားတဲ့ အယူဟာ ကံကို လက်လွှတ်လို့၊ မိစ္ဆာဒိဋ္ဌိအယူပဲ။ သာမန်အမြင်နဲ့ ဒီအယူအစွဲ ဒီလောက် အရေးမကြီးဘူး။ အကုသိုလ် မဖြစ်ဘူးလို့ ထင်စရာရှိပေမယ့် ဒီသိမ်မွေ့တဲ့

မိစ္ဆာဒိဋ္ဌိအယူဟာ နှလုံးသားမှာ အနုသယကိလေသာအဖြစ် သန္ဓေတည်သွားရင် ဒီဘဝမှာတင် မဟုတ်တော့ဘဲ သံသရာတစ်လျှောက်လုံး လိုက်တော့တာပဲ "

## ဆရာစန္ဒြ၏ ဓမ္မဒါန

'စေတနာဆိုးရင် ကံဆိုးတာပါပဲ၊ စေတနာကောင်းရင် ကံကောင်းတာပါပဲ။ ကံကောင်းဖို့ ဘာမှ အခက်အခဲမရှိပါဘူး။ ငါ ကံကောင်းသလား၊ မကောင်းသလားဆိုတာ ဗေဒင်မတွက်နဲ့၊ သိတယ်။ လက္ခဏာ မမေးဘဲ သိတယ်။ ကံကောင်းသလား၊ မကောင်းသလားဆိုတာကို ကိုယ့်စေတနာ ကိုယ်တွက်မှ သိတာ။ သူများတွက်လို့ ကိုယ့်စေတနာကို သိပ့်ါမလား၊ မသိဘူး။ အဲဒါ ကိုယ့်စေတနာ ကိုယ့်ဟာကိုယ်တွက်ရင် သိနိုင်လျက်နဲ့ ဟိုလူ့သွားမေး၊ ဒီလူ့သွားမေးနဲ့ ဘယ့်နှယ်ကြောင့် သူများ သွား သွားပြီး ကိုယ့်စေတနာကို မေးနေရတာလဲ။ ကံကောင်း၊ ကံဆိုး သူများ မမေးနဲ့၊ ကိုယ့်ကိုကိုယ်မေး။ ဘုန်းကြီးတို့ ပရိသတ်များ ကိုးကွယ်မှု အဆင့်အတန်းမြင့်ဖို့ မဟုတ်လား။ အပြင်ဘက်မှ အကူအညီ မရှာရဘူး။ မိမိမှာ အကူအညီတွေ အပြည့်အစုံ ရှိပါတယ်"

**သဲကုန်း အရှင်ဉာဏိဿရ (သပိတ်အိုင်)**

၁၉၉၁ ခုနှစ် ဧပြီလထုတ် ဓမ္မရံသီပါ ကျွန်တော်၏ 'အထက်တန်းစား ဗုဒ္ဓဘာသာဝင်' ဆောင်းပါးနှင့် ပတ်သက်၍ အတိတ်နိမိတ်၊ ကိန်းခန်း၊ တဘောင်၊ နက္ခတ်၊ ဗေဒင်၊ ယတြာ၊ လက္ခဏာ၊ အိပ်မက်တိတ္တံ၊ ရက်ရာဇာ၊ ပြဿဒါး စသည့် ဒိဋ္ဌသုတမုတ မင်္ဂလာများကို အရိုးစွဲ အသည်းခိုက်မျှ ယုံကြည်ကိုးကွယ်သူတချို့က ဘဝင် မကျကြောင်း တစ်ဆင့်စကား ကြားသိရပါသည်။ ရင်းနှီးသော မိတ်ဆွေတစ်ဦးကမူ လူကိုယ်တိုင်ပင် လာရောက်ဆွေးနွေးပါသည်။ သူ့ကိုမူ အကျယ်အကျယ် မဆွေးနွေးတော့ဘဲ မေးခွန်းတစ်ခုကိုသာ ကျွန်တော် ပြန်၍ မေးခဲ့ပါသည်။

"ကိလေသာဟူသမျှကို ဝါသနာနှင့်တကွ အပြီးတိုင် ပယ်စွန့်တော်မူပြီးတဲ့ သဗ္ဗညုတဉာဏ်တော်ရှင် ဘုရားရှင်ရဲ့စကားနဲ့ ကိလေသာတန်းလန်း အသဝေါ မကုန်ခန်းသေးတဲ့ ဗြာဟ္မဏပုဏ္ဏားတွေရဲ့ စကား၊ အဲဒီ စကားနှစ်ခွန်းမှာ ဘယ်သူ့ရဲ့စကားကို သူငယ်ချင်း ယုံကြည်လက်ခံမှာလဲ၊ နှစ်မျိုးစလုံး လက်ခံမယ်လို့ ပြောလို့တော့ မရဘူးနော်။ ပိဋကနဲ့ ဗေဒင်က ရေမှုတ်တစ်ဖက် မီးစတစ်ဖက်ပဲ"

ဗုဒ္ဓဘာသာဝင် တစ်ဦးဖြစ်သော ထိုမိတ်ဆွေအဖို့ အထက်ပါမေးခွန်းမှာ ရုတ်တရက် အရှိုက်ကို အထိုးခံရသလို ဖြစ်သွားစေပါသည်။ ရုတ်ခြည်းဘာမျှ ပြန်၍ မဖြေနိုင်ပါ။ သူ့အခက်အခဲကို စာနာမိသော ကျွန်တော်က–

"ကဲ– သူငယ်ချင်း၊ လောလောဆယ် မဖြေချင်လည်း မဖြေနဲ့လေ၊ သူငယ်ချင်းဖတ်ဖို့ စာအုပ်တစ်အုပ် ငှားလိုက်ပ့်ါမယ်။ ဆရာစန္ဒြကိုတော့ သူငယ်ချင်း ကြားဖူးမှာပေ့ါ"

"နိုင်ငံကျော် လက္ခဏာဆရာကြီး ဆရာစန္ဒြလား"

"ဟုတ်တယ်။ ဆရာစန္ဒြရေးတဲ့ 'ဘဝခရီးနှင့် အတွေ့အကြုံများ' စာအုပ်ပဲ။ အဲဒီ စာအုပ်မှာ လက္ခဏာဆရာကြီး ဆရာစန္ဒြရဲ့ ဗေဒင်၊ ယတြာ၊ မြေခံ၊ နာမည်ပေး၊ ဓာတ်ဆင် ဓာတ်ရိုက်၊ ရက်ရာဇာ၊ ပြဿဒါးတွေအပေါ် အမြင်အယူအဆတွေ ပါတယ်"

"ဟာ– လက္ခဏာဆရာကြီးတစ်ဦးက ရေးတော့ အဲဒါတွေကို ထောက်ခံထားမှာပေါ့"

"ဖတ်ကြည့်လေ၊ ဖတ်ပြီးမှ ဆုံးဖြတ်ပါ"

ယခုအခါ သာသနာ့ဘောင်တွင် ရဟန်းဖြစ်နေသော နိုင်ငံကျော်လက္ခဏာဆရာကြီး ဆရာစန္ဒြသည် ရတနာသုံးပါးကို စစ်စစ်မှန်မှန်ကြည်ညိုသူဖြစ်ပြီး ကံ–ကံ၏အကျိုးအပေါ်၌လည်း မမိုတ်မသုန် ယုံကြည်သူဖြစ်ပါသည်။ သူ၏ 'ဘဝခရီးနှင့် အတွေ့အကြုံများ' စာအုပ်တွင် ဖော်ပြပါရှိခဲ့သော ဗေဒင်၊ ယတြာ၊ မြေခံ၊ နာမည်ပေး၊ ဓာတ်ဆင် ဓာတ်ရိုက်၊ ရက်ရာဇာ၊ ပြဿဒါးအပေါ် ရှုမြင်သုံးသပ်ချက်များကို ကောတုဟလမင်္ဂလာများ၌ ကိုးစားယုံကြည်နေသူများအဖို့ သိသင့်သိထိုက် သိအပ်သည်ဟု ထင်မြင် ယူဆသဖြင့် ဤဆောင်းပါးတွင် လိုရင်းအချက်များကို ကောက်နုတ်တင်ပြလိုက်ပါသည်။

**ဓာတ်ဆင် ဓာတ်ရိုက်**

ကျွန်ုပ်သည် လက္ခဏာဆရာ ဖြစ်လာသောအခါ မေးမြန်းသူများက ဓာတ်ဆင် ဓာတ်ရိုက် ယတြာ စသည်တို့ကို ပြုလုပ်ပေးရန် တောင်းဆိုလာကြသည်။ အင်္ဂဝိဇ္ဇာကျမ်းတွင်ပါရှိသော မရေမတွက်နိုင်သော နည်းအမျိုးမျိုး စာအုပ်ထဲတွင် ရှိသည်။ ဤနည်းမျိုးဖြင့် မိမိကိုယ်တိုင် ယေ်စဉ်ကစ၍ စမ်းသပ်လုပ်ကိုင်ခဲ့ရာ တစ်ခုမှ မအောင်မြင်ကြောင်း သိလာသည်။ ကုသိုလ်၊ အကုသိုလ်သည် အရေးကြီးသည်။ ကုသိုလ်ပေးလျှင် ဘာမဆို ဖြစ်လာသည်။ အကုသိုလ်ရောက်လျှင် လူတိုင်း ဒုက္ခအမျိုးမျိုး ရောက်ကြရသည်။

*(စာမျက်နှာ ၂၅၂)*

**မတစ်လုံးကျေ ဆရာတော်**

ဓာတ်ရိုက်၊ ယတြာ၊ အင်္ဂဝိဇ္ဇာကိုးစောင်တွဲကို ရေးသားသွားတော်မူသော မတစ်လုံးကျေ ဆရာတော် ခင်ကြီးပျော်ကိုယ်တိုင်ပင်လျှင် အသက်မရှည်ဘဲ ၃၇ နှစ်တွင် ပျံလွန်တော်မူသည်။ အကယ်၍သာ ယတြာလုပ်၍ ရလျှင်။

လောကကြီး၌ သူမသိတာ၊ မတတ်တာ၊ နားမလည်တာ ဘာမှ မရှိ။ မတတ်မသိဟူသမျှ မရှိသောကြောင့် မတစ်လုံးကျေ ဆရာတော်ဘုရားဟု ရာဇဝင်တွင် ဟိုးလေးတကျော် ဖြစ်ခဲ့သည်။

*(စာမျက်နှာ ၂၅၂)*

## မြေခံ

တစ်ဖန် အိမ်ဆောက်ရာ၌ မြေခံရက်ရွေးသော ကျမ်းရှိသည်။ ဥပမာ လဆန်း မြေခံရွေးနည်းတွင် ဆယ်ကျော်တစ်ကား၊ မိုးသကြားလျှင်၊ ခုံညားချမ်းသာ၊ ဆယ်နှစ်မှာမူ၊ ခံလာခွေးရုပ်၊ ဖြုန်းတီးပြုတ်အံ့။ လဆန်း ၁၁ ရက်နေ့တွင် မြေခံ၌ သိကြားမင်းခံသည်ဟု ဆိုသည်။ သာမန် စဉ်းစားကြည့်ပါ။ သူ့ဟာသူ အိမ်ဆောက်မည့် မြေကြီးထဲကို သိကြားမင်းက လာ၍ ခံမည်နည်း။ သိကြားမင်းသိလျှင် ပါးတောင် လာရိုက်လိမ့်ဦးမည်။

***(စာမျက်နှာ– ၁၉၂)***

## ပြဿဒါး

ယခု အိမ်တိုင်းတွင်ရှိသော ပြက္ခဒိန်များတွင် ရက်ရာဇာ၊ ပြဿဒါး၊ နဂါးလှည့် စသည်တို့မှာ ရှေးပုဏ္ဏားများ ရေးခဲ့ခြင်းဖြစ်သည်။ နဂါးကြီး ဘယ်မှာမှ မရှိပါ။ အမေရိကန်နိုင်ငံတွင် လေယာဉ်ပုံများ အရပ်ရှစ်မျက်နှာကို နာရီဝက် တစ်စင်း ထွက်သည်။ မီးရထားများကလည်း အရပ်ရှစ်မျက်နှာသို့ နိုင်ငံတိုင်း ခုတ်မောင်းကြသည်။ နဂါးကြီးတောင်လှည့်၍ မြောက်ကိုသွား၍ သေရမည်ဆိုလျှင် လူတစ်ယောက်မျှ ရှိမည် မဟုတ်ချေ။ သက်သက်ထွင်ထားခြင်းသာ ဖြစ်သည်။ ယုံကြည်ရန်မဟုတ်၊ ဘုရားကို သာ ယုံကြည်ပါ။ သီလကိုသာ ယုံကြည်ပါ။

***(စာမျက်နှာ–၃၂၇)***

## နာမည်ပေး

ငါးရာ့ငါးဆယ် ဇာတ်တော် ပထမတွဲ စာမျက်နှာ ၄၆၀ တွင် နာမသိဒ္ဓိဇာတ်တွင် မြတ်စွာဘုရား ဟောတော်မူသည်။ နာမည်ဆိုသည်မှာ အလကား။ မောင်သက်ရှည်လို့ မှည့်သော်လည်း အသက်တိုသွားနိုင်သည်။ မောင်ချမ်းသာဟု မှည့်သော်လည်း ဆင်းရဲနိုင်သည်။ မိမိပြုခဲ့သော အတိတ်ဘဝ ကုသိုလ်များဖြင့်သာ အကျိုးပေးကြကုန်သည်။ ပုဗ္ဗေစကတပုညတာ၊ ရှေးကံက စီမံသည့်အတိုင်း ဖြစ်ရသည်။ မောင်သက်ရှည် ဆိုသူသည် ငယ်ငယ်က သေသွားသည်။ သူဌေးမ ဆိုသူလည်း ဆင်းရဲနေသည်။ အမည်ဟူသည်ကား ပညတ်များ ဖြစ်သည်။ အမည်ဖြင့် ပြီးစီးသည် မရှိ။ ကံဖြင့်သာလျှင် လုပ်ကြရသည်။ အလွန်မှန်သည်။ နာမည်မှည့်၍ ချမ်းသာမည်ဆိုလျှင် ဗေဒင်ဆရာသားတွေချည်း ချမ်းသာနေမည်။ ဤကဲ့သို့ နားမလည်ဘဲ အလွဲလွဲ အမှားမှားတွေ ဖြစ်နေသည်။

***(စာမျက်နှာ–၁၉၂)***

## ယတြာ

တစ်ဖန် ပရိဝါရ၊ အာယု၊ နာဂရ၊ ဘုမ္မိ စသည်ဖြင့် မိမိ မွေးနံရှိရာအရပ်မှ အရပ်ရှစ်မျက်နှာ လှည့်ပြီးလျှင် အာယုအရပ်၌ အသက်ရှည်စေလိုသော် မွေးနံသစ်ပင် စိုက်ရသည်။ ဥပမာ– အင်္ဂါဂြိုဟ်သည် အရှေ့တောင် အရပ်ဖြစ်သည်။ မွေးနေ့အင်္ဂါမှ ရေတွက်သည်ရှိသော် တောင်အရပ်သည် အာယုအရပ်ဖြစ်သည်။

အာယုဖြစ်သောအခါ၌ အင်္ဂါသားသည် ဆီးပင်စိုက်ရသည်။ အသက်ရှည်မည်ဟု ဆိုသည်။ ဘုရားဟော တရားတွေအားလုံး လွဲကုန်သည်။ သစ်ပင်စိုက်ရုံနှင့် မည်သည့်နည်းနှင့် အသက်ရှည်မည်နည်း။

ထောင်ကျနေသည်ကို လွတ်အောင် မီးထွန်းပေးသည်။ ထိုကဲ့သို့ မီးထွန်း၍ လွတ်လျှင် ထောင်ထဲ၌ လူတစ်ယောက်မျှ ရှိမည် မဟုတ်။ လွတ်မည်ဆိုလျှင် ဆယ်သိန်းပေးမည့် တရားခံတွေ ရှိသည်။ မသိသောသူများကို လိမ်လည်သောကိစ္စဖြစ်သည်။

ဘယ်နေ့သားသည် ဘယ်အသားကို ဘုရားထု၍ ကိုးကွယ်ရမည်။ စီးပွား လာဘ်လာဘ တိုးတက်မည်ဟု လာပြန်သည်။ ဤကဲ့သို့ စာအုပ်ထဲပါသည့်အတိုင်း သူတို့ပြောသည့် အသားကို မွေးနံ့အလိုက် သင့်သော သစ်သားကို ထု၍ ဘုရားကိုးကွယ်က လူတွေ အကုန်လုံး ချမ်းသာလာမည်။ ထိုအခါ လယ်လုပ်သူ မရှိသဖြင့် လူတွေအားလုံး သေကုန်မည်။ ပုဗ္ဗေစ ရှေးအတိတ်ကံ မပါလျှင် ဘာကိစ္စမှ ဖြစ်နိုင်သည် မဟုတ်ပေ။

'စေတနာဟံ ဘိက္ခဝေ၊ ကမ္မံဝဒါမိ' စေတနာကံဟု ဘုရားဟောသည်။ ရေဆင်းတု၊ ကြေးဆင်းတု၊ ကျောက်ဆင်းတု သို့မဟုတ် ပြက္ခဒိန်ထဲက ဘုရားပုံတော်၊ မည်သည့်ဘုရားပင်ဖြစ်စေ၊ ရှိခိုးပူဇော် ကိုးကွယ်သောသူမှာ မိမိ၏ စိတ်စေတနာ၊ ယုံကြည်မှု၊ ကြည်ညိုမှု အားကောင်းသလောက် အကျိုးပေးသည်။ နည်းနည်းကြည်ညိုလျှင် နည်းနည်း အကျိုးပေးသည်။ များများ ကြည်ညိုပြီး များများယုံကြည်လျှင် များများ အကျိုးပေးသည်။ ဤသည်ကား ဘုရားဟော ဖြစ်သည်။ မည်သည့်အသားကို ထုထုအတူတူပင်ဖြစ်သည်။ ကြည်ညိုသောသူ၏ သဒ္ဒါတရားက ဆုံးဖြတ်ပေးသည်။ ထို့ကြောင့် မိမိကိစ္စရှိလျှင် အောင်မြင်ချင်လျှင် ဘုရားကို များများ ယုံကြည်၍ ဒါန၊ သီလပြုပါ။ ဘယ်ဘုရားဖြစ်ဖြစ် ဘယ်စေတီတော်မှာပင် ဖြစ်ဖြစ် အတူတူပင်ဖြစ်သည်။

*(စာမျက်နှာ–၁၉၅)*

**အဆောင်လက်ဖွဲ့**

မိမိကြီးပွားရေးမှာ ဒါန၊ သီလ၊ မေတ္တာ၊ ခန္တီ၊ သစ္စာစသော တရားများကို လက်ကိုင်ထားမှ မိမိ လိုရာ အောင်မြင်သည်။ ငါးရာ့ငါးဆယ် ဇာတ်တော်များတွင် ရှာဖွေ ဖတ်ကြည့်ပါ။ အဝတ်အစား စုတ်ပြတ်နေသော လူတစ်ယောက်က နင့်ကို ချမ်းသာအောင် လုပ်ပေးမည်၊ ဒီလက်ဖွဲ့ ဆောင်ထားဆိုပါတော့ ယုံရမှာလား။ သူကိုယ်တိုင် ဆင်းရဲလို့ အင်္ကျီစုတ်ပင်ဝတ်နေရသည်။ ဤကဲ့သို့ စဉ်းစားကြည့်ပါ။

*(စာမျက်နှာ–၁၉၅)*

**သားဦးစနေ**

သားဦးစနေ မီးလိုမွှေ ဆိုသည်မှာလည်း မည်သည့် ကျမ်းဂန်တွင်မှ မရှိပါ။ ရှေးက သူတွေ အလွန် အယူသီးသည်။ စနေမွေးပြီး သူဌေးဖြစ်သူတွေ အများကြီး ရှိသည်။ သောကြာမွေးပြီး အဖေ သေသည်။ အမေသေသည်လည်း အများကြီး ရှိသည်။ ရှေးက အတိတ်ကံ စီမံခြင်းဖြစ်သည်။

**ဂဏန်းဗေဒင်**

ခုခေတ်တွင် ဗေဒင်ကျမ်းအမျိုးမျိုး အင်္ဂလန်နိုင်ငံမှ အိန္ဒိယမှစ၍ ဖတ်လာကြသဖြင့် ဗေဒင်နှင့် ပတ်သက်၍ အယူဝါဒအမျိုးမျိုး၊ ယုံကြည်မှု အမျိုးမျိုးဖြစ်လာသည်။ ယခုခေတ်စားနေသည်မှာ ဂဏန်းဗေဒင်ဖြစ်သည်။ ကားဝယ်လျှင် ကားနံပါတ်က ၈ ဖြစ်နေသည်။ ဝယ်သူက နံပါတ် ၄ ဖြစ်၍ မတည့် စသည်ဖြင့် စာအုပ်ထဲ ပါသည့်အတိုင်း ဒီကား မဝယ်နှင့်ဟောကြသည်။ တစ်ဖန် ဝယ်မည့်သူက နံပါတ် ၃ ဖြစ်နေလျှင် ကားနံပါတ်ပေါင်းသောအခါ ၆ ဖြစ်သော်၊ ၉ ဖြစ်သော် သူတို့ချင်း တည့်သည် ဝယ်ပါဟု ညွှန်ကြားသည်။ နာမည်ကိုပင် နံပါတ်နှင့် ကိုက်အောင် ပြုပြင်ယူကြသည်။

အိမ်နံပါတ်၊ ကားနံပါတ်၊ နာမည်ပြောင်းရုံမျှနှင့် အကျိုးပေးမည်၊ ချမ်းသာမည်ဆိုလျှင် ဗေဒင်ဆရာတွေအားလုံး သူဌေးဖြစ်ကုန်မည်။ နာမည်မှည့်ရုံနှင့် ချမ်းသာမည်ဆိုလျှင် ဗေဒင်ဆရာ သားသမီးတွေအားလုံး သူဌေးဖြစ်ကုန်မည်။ ပုဗ္ဗေစကတပုညတာ ဆိုသောမင်္ဂလာတရားတော်ကို လွန်သွားမည်။ ရှေးကံမပါဘဲ ဘာမှ မဖြစ်နိုင်ချေ။ မိမိ၌ ရှေးကကံပါလျှင် ဘယ်လို ကားနံပါတ်ကို ဝယ်ဝယ်၊ဘယ်ဘက်လှည့် အိမ်ဆောက်ဆောက် သူသည် ကြီးပွားမည်၊ ချမ်းသာမည်။

တစ်ခါ အိမ်နံပါတ် ၈ ဖြစ်နေလျှင် ဆိုးသည်ဟု ယူဆသည်။ ၈ ဂဏန်းထဲတွင် သူဌေးတွေ မရေနိုင်အောင် ရှိသည်။ ထို့အတူ ၁ ဂဏန်းဖြစ်လျှင် ကြီးပွားမည်၊ အောင်မြင်မည် ဆိုပါတော့။ ထို ၁ ဂဏန်းထဲတွင် ထမင်းငတ်နေသူတွေ၊ တောင်းစားနေသူတွေ များစွာ ရှိသည်။ ထို့အတူ ခုနစ်နေ့သာ ရှိသည်။ ဂဏန်းအားဖြင့် ကိုးဂဏန်းအထိသာ ရှိသည်။ ထိုနေ့များထဲတွင် အားလုံးပင် သူဌေးလည်း ရှိသည်။ ရှင်ဘုရင်လည်း ရှိသည်။ သူတောင်းစားလည်း ရှိသည်။ အသက်တိုသူလည်း ရှိသည်။ အသက်ရှည်သူလည်း ရှိသည်။ အမှန်တော့ သူ့ဘဝကံအတိုင်းသာ ဖြစ်ရသည်။

ထို့ကြောင့် နံပါတ်သည် အဓိက မဟုတ်။ မိမိ မူလဖြစ်သော ကမ္မနိယာမအတိုင်း ကံသာလျှင် စီမံပေးခြင်း ဖြစ်သည်။

*(စာမျက်နှာ –၂၀၃)*

စင်စစ်သော် ဗေဒင်၊ ယတြာ၊ ကိန်းခန်းတဘောင်၊ ရက်ရာဇာ၊ ပြဿဒါး၊ အိပ်မက်တိတ္တံု၊ နက္ခတ်၊ အဆောင်လက်ဖွဲ့ စသော လောကီပညာရပ်များသည် အာသဝေါ မကုန်ခန်းသေးသည့် ပုထုဇဉ်နယ်ပယ်မှ ဗြာဟ္မဏပုဏ္ဏားများ စီရင်ရေးသားသော ဝေဒကျမ်းများမှ မြစ်ဖျားခံလာခြင်း ဖြစ်ပါသည်။ ယင်းဝေဒကျမ်းများကို လွန်ခဲ့သော နှစ်ပေါင်း နှစ်ထောင့်ငါးရာကျော်ကပင် ကျွန်တော်တို့၏ တုနှိုင်းမဲ့ ကိုးကွယ်ရာအစစ် ဖြစ်တော်မူသော မြတ်ဗုဒ္ဓသည် ဆန့်ကျင်ခြားနား၍ အောင်ပွဲခံခဲ့ပြီး ဖြစ်ပါသည်။ မြတ်ဗုဒ္ဓ၏ အဆုံးအမကို ခံယူသော ဗုဒ္ဓဘာသာဝင်တစ်ဦးအနေဖြင့် ဤအချက်ကို အလေးအနက်ပြု၍ နှလုံးအိမ်တွင် စွဲမြဲ စိမ့်ထုံထားသင့်ပါသည်။

**"အတ္တ(အကျိုးမမြင်၊ ထိုဗေဒင်ကို၊ ဆင်ခြင်မဲ့မျိုး၊ သူမိုက်တို့သာ၊ ယုံကြည်ရှာလိမ့်)** ဟူ၍ ရှင်မဟာရဋ္ဌသာရကလည်း 'ဘူရိဒဇာတ်ပေါင်းပျို့' တွင် ရေးသားတော်မူခဲ့ပြပါသည်။ ကျေးဇူးတော်ရှင်

မန်လည်ဆရာတော်ဘုရားကြီးကလည်း "**ပညာရှိမြတ်၊ ဗောဓိသတ်တို့၊ နက္ခတ်ယှဉ်ရာ၊ အခါဖင့်နှေး၊ နေ့မရွေးဘူး၊ အရေးလက်ရောက်၊ မျက်မှောက်ကျိုးထင်၊ ရခြင်းပင်သာ၊ ဤလျှင်သင့်မြတ်၊ ကောင်းနက္ခတ်တည်း**" ဟူ၍ မဃဒေဝတွင် လမ်းညွှန်တော်မူခဲ့ပါသည်။

ရတနာသုံးပါးနှင့် ကံ–ကံ၏အကျိုးကိုသာ စွဲစွဲနစ်နစ် ယုံကြည်ရန်၊ လောကီ ကောတုဟလမင်္ဂလာများကို မယုံကြည်ရန် နေရာများစွာတွင် ဖော်ပြပါရှိသော 'ဘဝခရီးလမ်းနှင့် အတွေ့အကြုံများ' စာအုပ်သည် နိုင်ငံကျော် လက္ခဏာဆရာကြီး ဆရာစန္ဒြ၏ မြတ်သော ဓမ္မဒါနပင် ဖြစ်ပါသတည်း။

## ရှင်ရာဟုလာ၏ ဓမ္မဒါန

ဘာသာရေးစာပေ၌ မွေ့လျော်သူတို့အား မိမိပိုင် ဘာသာရေးစာအုပ်များကို လိုလိုလားလား ငှားရမ်းခဲ့သော စေတနာက ပြန်၍ အကျိုးပေးသည်ဟုပင် ဆိုရပေတော့မည်။

ခုတစ်လော မိမိအား ဘာသာရေးစာအုပ်များကို စေတနာအလျောက် ပေးဖတ်သူတို့ ရှိလာပါသည်။ အထက ၂ ကျောင်းအုပ်ဆရာကြီး ဦးမြသန်းဆိုလျှင် (ကျွန်တော်က သူ့တပည့်လည်း ဖြစ်၍) သူ အင်မတန် ကြိုက်နှစ်သက်သော ဘာသာရေးစာအုပ်ကောင်းများကို ကျွန်တော်အား မကြာခဏ ပေးဖတ်လေ့ရှိပါသည်။ ဆရာ့ကျေးဇူးကြောင့် ကျွန်တော် မမြင်ဖူး မဖတ်ဖူးသေးသော ဘာသာရေးစာအုပ်ကောင်းများနှင့် ရင်းနှီးထိတွေ့ခွင့် ရပေသည်။ တစ်နေ့ကမူ ရင်းနှီးသော လူငယ် စာဖတ်သမားတစ်ဦးဖြစ်သူ မောင်သောင်းဦးက 'အစ်ကို ဒီစာအုပ် ဖတ်ဖူးလား၊ မဖတ်ဖူးသေးရင် အေးအေးဆေးဆေး ဖတ်လေ' ဟု ပြောလာသဖြင့် စာအုပ်ကို ကြည့်လိုက်မိပါသည်။

'ရှင်ရာဟုလာ၏ ပိဋကတ်လာ စိတ်တန်ခိုးနှင့် အကြားမြင်'

ကျွန်တော် မဖတ်ဖူးသေးသဖြင့် မောင်သောင်းဦးထံမှ ယူထားလိုက်သည်။

ဆရာတော် ရှင်ရာဟုလာ တစ်နှစ်ကျော် အချိန်ယူ၍ ရေးသားထားသော ထိုစာအုပ်တွင် အကြောင်းအရာ စုံလင်လှပါသည်။ ဘိုးတော်၊ ဝိဇ္ဇာ၊ ဇော်ဂျီ၊ နတ်၊ နတ်စီး၊ လမိုင်းစီး၊ စုန်းစွဲ၊ နတ်စွဲ၊ ပယောဂစွဲ၊ ဂန္ဓာရီပညာ၊ အင်း၊ ဗေဒင်၊ အတိတ်နိမိတ်၊ အဂ္ဂိရတ်၊ အောက်လမ်း၊ အထက်လမ်း၊ ဂိုဏ်းလုပ်ငန်းများ၊ ပယောဂဆရာ၊ နတ်ကတော်၊ ထွက်ရပ်ပေါက်ပုဂ္ဂိုလ်၊ အသေထွက်၊ အရှင်ထွက်၊ ဓာတ်ရိုက်၊ ဓာတ်ဖွင့်၊ အကြားအမြင်၊ ညှို့ဓာတ် စသည်တို့ကို ခြေခြေမြစ်မြစ် ခိုင်ခိုင်မာမာ တင်ပြထားပါသည်။

မဟာယာန ဗြာဟ္မဏဝါဒတို့၏ လောင်းရိပ်အောက်တွင် အစဉ်တစိုက် တည်ရှိသော ထိုအကြောင်းအရာများကို တင်ပြထားလင့်ကစား ဆရာတော်သည် မိတ်ဆက်၌ပင် ဤသို့ ရှင်းရှင်းပြတ်ပြတ် ရေးတော်မူခဲ့ပါသည်။ ထိုထိုသော လောကီပညာရပ်များ၌ ဤသို့ သတိပေးတော်မူခဲ့ပါသည်။

"ပိဋကတ်၌ လာသည်ဆိုသော်လည်း ဘုရားအကြိုက် မဟုတ်ပါ။' ဗုဒ္ဓသည် တရားဓမ္မညွှန်ပြသောအခါ 'မိစ္ဆာအယူများ ဒီလို ဒီလို ရှိတယ်' ဟု ယင်းခေတ်က အယူဝါဒများကို ထည့်သွင်းဟောပြောခဲ့ရာမှ ပိဋကတ်ထဲသို့ ဝင်လာသော စကားများ အယူအဆများ ဖြစ်သည်။ ထို့ကြောင့် ဤစာအုပ်ပါ 'ဗုဒ္ဓနည်းကျ သမထနည်း' မှ တစ်ပါး ကျန်အယူအဆများသည် 'မိစ္ဆာအယူဝါဒ (ဝါ) ဘုရားမကြိုက်သော အယူဝါဒများသာ ဖြစ်ကြောင်း သတိပြုကြစေလိုပါသည်။"

မိတ်ဆက်တွင် ဖော်ပြခဲ့သော အထက်ပါ စာပိုဒ်သည် ဆရာတော်ရဟုလာ၏ ပြတ်သားသော ရပ်တည်ချက်နှင့် လေးနက်နွေးထွေးသော စေတနာကို မြင်သာစေပါသည်။

ထေရဝါဒ ဗုဒ္ဓဘာသာရှုထောင့်မှ စဉ်းငယ်မျှပင် အတိမ်းအစောင်းမခံလျက် ထိုလောကီပညာရပ်များအကြောင်း စုံစုံစေ့စေ့ ရေးသားသွားသော ဆရာတော်၏ စာရေးခြင်းအတတ်ကိုလည်း ဦးညွှတ်ပူဇော်မိပါသည်။

ဆရာတော်သည် ထိုပညာရပ်များအကြောင်းကို နှိုက်နှိုက်ချွတ်ချွတ် ခက်ခက်ခဲခဲ သုတေသနပြုလုပ်တင်ပြရင်း ထေရဝါဒဗုဒ္ဓဘာသာနှင့် ဆန့်ကျင်သည့် အချက်များကို ခိုင်မာပြတ်သားစွာ ဖော်ထုတ်တော်မူခဲ့ပါသည်။

**အသေထွက် အရှင်ထွက်**

ဂိုဏ်းဆရာများ လောက၌ ဂုဏ်ယူစွာ ပြောဆိုနေကြသော အသေထွက် အရှင်ထွက်နှင့် ပတ်သက်၍ ဆရာတော် အရှင်ရာဟုလာက ထေရဝါဒ ပိဋကတ်တွင် ပါရှိခြင်း ရှိ၏၊ မရှိ၏ ဟူသည်ကို အောက်ပါအတိုင်း တင်ပြသွားခဲ့ပါသည်။

'မြန်မာပြည်၌မူ ပိဋကတ်၌ မလာသော ပြဿနာတစ်မျိုး ရှိသေး၏။ ယင်းကား ထွက်ရပ်လမ်း ပေါက်သည်ဆိုသော စကား ဖြစ်လေသည်။ ထွက်ရပ်လမ်း ပေါက်သည်ဆိုရာ၌ နှစ်မျိုးနှစ်စား ရှိသည်ဆို၏။ ပထမတစ်မျိုးမှာ အသေထွက်ဖြစ်၍ နောက်တစ်မျိုးမှာ အရှင်ထွက်ဟူ၍ ဖြစ်လေသည်။

အသေထွက်ဆိုသည်မှာ သတ္တဝါတစ်ဦးသည် သေလွန်သွားပြီး ထွက်ရပ်လမ်း ပေါက်သွားသည်ဟု ဆိုလို၍ အရှင်ထွက်ဆိုသည်မှာ မသေဘဲ ထိုပုဂ္ဂိုလ်သည် လူမမြင်ရသော ခန္ဓာကိုယ်အဖြစ် ပြောင်းလဲသွားပြီး နှစ်ပေါင်းများစွာ အသက်ရှင်လျက် တရားဓမ္မများကို ကျင့်နေသည်ဟု ဆိုလိုပေသည်။ အသေထွက် အရှင်ထွက် ပုဂ္ဂိုလ်များသည် လူများ မမြင်နိုင်သော ကိုယ်ခန္ဓာအဖြစ်သို့ ရောက်သွားသည်။ လက်ရှိခန္ဓာကိုယ်ကို စွန့်၍ ရောက်သွားသူနှင့် မစွန့်ဘဲ ရောက်သွားသူဟူသာ ခြားနားသည်ဟူ၍ ဆိုကြလေသည်။ ဤအယူအဆသည် ပိဋကတ်မှာလည်း မလာဘဲလျက် မည်သည့် အယူအဆမှ တစ်ဆင့် ကူးလာသနည်း ဆိုသော အချက်ကို ကျွန်ုပ်တို့ လေ့လာသင့်ကြပေသည်'

*(စာမျက်နှာ – ၂၄၊ ၂၅)*

**ရှင်လေးပါး သေလေးပါး**

ရှင်လေးပါး သေလေးပါး ဟူသော အစဉ်အလာစကားနှင့် စပ်လျဉ်း၍ ထေရဝါဒ ရှုထောင့်မှ ဤသို့ဆုံးဖြတ်ခဲ့သည်မှာလည်း မှတ်သားဖွယ်ရာ ဖြစ်ပါ၏။

'ယင်း ရှင်လေးပါး သေလေးပါးမှာ မည်သည့် ပိဋကတ်ကျမ်းဂန်များမှာမှ မလာဘဲ ရှေးခေတ်က ပေါ်ခဲ့ဖူးသော ဘုရားရှိခိုး အမျိုးမျိုး စာအုပ်တွင် တွေ့ရဖူး၏။ မည်သူက စတင်တီထွင်လိုက်သည်ဟု လက်သည်အတိအကျ မရှိဘဲ မြန်မာဗုဒ္ဓဘာသာများအတွင်းသို့ အယူအဆတစ်မျိုးရောက်နေသည်မှာ ဝမ်းနည်းဖွယ်ရာ ကောင်းလှ၏။

ရဟန္တာပုဂ္ဂိုလ်များ၏ ဂုဏ်တော်၊ ဗုဒ္ဓ၏ တရားတော်ကိုမျှ မျက်နှာမထောက်ဘဲ ထင်ရာကို ဖန်တီးကြသည်မှာ ဗုဒ္ဓဘာသာဝင်များအဖို့ ကောင်းသော လက္ခဏာကား မဟုတ်ချေ။ ပရိနိဗ္ဗာန်ပြုပြီးသော ရဟန္တာပုဂ္ဂိုလ်များကို ယနေ့တိုင်အောင် အသက်ရှင်လျက် ရှိသည့်သဘော သက်ရောက်အောင် ဖန်တီး၍ ယုံသူများကလည်း ယုံနိုင်ကြသည်မှာ အံ့ဩဖွယ် ရှိချေသည်'

(စာမျက်နှာ – ၂၆)

**ရှင်အဇ္ဇဂေါဏ၊ ရှင်မထီး၊ ဘားမဲ့**

ဂါထာ မန္တရားများ၊ အင်းများ၊ အဂ္ဂိရတ်ပညာများဖြင့် အကျော်အစောရှိသော ထိုရဟန်းများသည် မည်သို့သော ရဟန်းမျိုး ဖြစ်ပါသနည်း။

ဆရာတော်ရှင်ရာဟုလာ၏ တင်ပြချက်ကို ဗုဒ္ဓဘာသာဝင်တိုင်း နှလုံးအိမ်တွင် စိမ့်ထုံထားသင့်ပါ၏။

'ရှင်အဇ္ဇဂေါဏ၊ ရှင်မထီး၊ ဘားမဲ့ စသော ရဟန်းတို့သည် ထေရဝါဒ ရှင်အရဟံမှ ဆင်းသက်လာသော ရဟန်းများကား မဟုတ်ချေ။ ထေရဝါဒခေတ်မတိုင်ခင်က ရှိနှင့်ကြသော အရည်းကြီး ရဟန်းခေတ်က ရဟန်းများသာ ဖြစ်ကြသည်။

ထိုရဟန်းများအနက် ရှင်အဇ္ဇဂေါဏမှာ အဂ္ဂိရတ် ဆရာရဟန်းတော်ဖြစ်၍ ရှင်မထီးနှင့် ဘားမဲ့စသော ရဟန်းတို့သည် ဂါထာမန္တရား၊ အင်းအိုင်များဖြင့် နာမည်ကြီးကြသူများ ဖြစ်ကြသည်'

(စာမျက်နှာ–၂၈)

**ဂိုဏ်း**

'သာသနာပြုသည်' ဟူသော အကြောင်းပြချက်ဖြင်ည ဖွဲ့စည်းထားခဲ့သော ဆေးဂိုဏ်း၊ အင်းဂိုဏ်း၊ မန္တရားဂိုဏ်းများ၏ ခဲခြစ်ကောက်ကြောင်းကို အောက်ပါအတိုင်း ရေးဆွဲခဲ့ပါသည်။

'ယခုအခါ မြန်မာနိုင်ငံ၌ ဂိုဏ်းပေါင်း ၉၉ ဂိုဏ်း ရှိသည်ဟူ၍လည်းကောင်း၊ ၁၀၈ ဂိုဏ်း ရှိသည်ဟူ၍လည်းကောင်း အမျိုးမျိုး ပြောဆိုနေကြသော်လည်း မည်မျှ အရေတွက်ရှိသည်ကိုမူ မည်သူ တစ်ဦးတစ်ယောက်ကမျှ အတိအကျ မပြောနိုင်ချေ။ ထိုထိုဂိုဏ်းများ၏ အဓိက ဦးတည်ချက်မှာ သာသနာပြုလုပ်ငန်းဟူ၍ နဖူးစည်း တပ်ထား၏။ ဘုရားတည်သူရှိသလို ဘုန်းကြီးများကို ပုတ်ခတ်သော ဂိုဏ်းလည်း ရှိ၏။ ဂိုဏ်းများသည် ဆေးဂိုဏ်း၊ အင်းဂိုဏ်း၊ မန္တရားဂိုဏ်းဟူ၍ သုံးမျိုးကွဲပြား၏။'

(စာမျက်နှာ– ၄၅)

**ဂိုဏ်းစည်းကမ်း**

ဂိုဏ်းစည်းကမ်းများနှင့် ပတ်သက်၍ ထေရဝါဒ ရှုထောင့်မှကြည့်လျှင် ဤသို့ ဖြစ်ပါသည်ဟူ၍ အသိပေးခဲ့ပါသည်။

ဂိုဏ်းဝင်ပုဂ္ဂိုလ်များ အားထုတ်သောတရားမှာ ဗုဒ္ဓ၏ဂုဏ်တော်၊ တရား၏ ဂုဏ်တော်၊ သံဃာ၏ ဂုဏ်တော်များဖြစ်သည် မှန်၏။ သို့ရာတွင် သက်သက်လွတ်စားခြင်း၊ အမဲသားကို ရှောင်ကြဉ်ခြင်း၊ မီးလွတ်စားခြင်း၊ ရေသောက်ခြင်း၊ ဂူအောင်းနေခြင်းများမှာ ဟိန္ဒူများ၊ တိတ္ထိများ၏ လုပ်ရိုးလုပ်စဉ်ကျင့်စဉ်များ ဖြစ်နေသည်ကို သတိပြုကြရပေလိမ့်မည်။

(စာမျက်နှာ– ၄၆)

## ဂိုဏ်းအလုပ်

ဂိုဏ်းအလုပ်တွင် မဟာယာနနှင့် ဗြာဟ္မဏဝါဒမှ သက်ဆင်းလာသော တန္တရ၊ မန္တရွယူအဆများ ပြီးပြွမ်းနေကြောင်းကိုလည်း စာဖတ်သူကို အသိပေးတော်မူခဲ့ပါ၏။

'ဂိုဏ်းအလုပ်သည် ဗုဒ္ဓ၏ မုခပါဌ်တော်များဖြင့် စီစဥ်ထားခြင်းဖြစ်၍ ထေရဝါဒဗုဒ္ဓဘာသာနှင့် များစွာ ရောနှောသော်လည်း အမှန်စင်စစ်အားဖြင့် ထေရဝါဒ၊ မဟာယာနနှင့် ဗြာဟ္မဏဝါဒမှ သက်ဆင်းလာသော တန္တရ၊ မန္တရွယူအဆများ ရောနှောပေါင်းစပ်ထားသော အစီအစဥ်သာ ဖြစ်၏။'

## မယုံကြည်

စာပေ ပရိယတ္တိ နှံ့စပ်ကျွမ်းကျင်တော်မူသော ထေရဝါဒ ဗုဒ္ဓသာသနာပြု ဆရာတော်ကြီးများသည် ဂိုဏ်းလုပ်ငန်းများအပေါ် ယုံကြည်မှု မရှိကြကြောင်းကိုလည်း ဤသို့ ဖော်ပြခဲ့ပါသည်။
မြန်မာပြည်၌ စာပေကျမ်းဂန်များကို တတ်ကျွမ်းသော ဆရာတော်ကြီးများ၊ စာပေကျွမ်းကျင်သော ရဟန်းသံဃာများသည် ဂိုဏ်းလုပ်ငန်းကို မယုံကြည်ကြချေ။

'စင်စစ်သော် ဆရာတော် သံဃာတော် အရှင်သူမြတ်များသာလျှင် ဂိုဏ်းလုပ်ငန်းပေါ် မယုံကြည်သည် မဟုတ်ချေ။ ထေရဝါဒ ဗုဒ္ဓကျမ်းစာများကို ဖတ်ရှုလေ့လာဖူးသော လူပညာရှိများ၊ ဘာသာရေး စာရေးဆရာများ၊ ဘာသာရေးဆောင်းပါးရှင်များ၊ ဗုဒ္ဓစာပေ၌ အစဥ်တစိုက် မွေ့လျော်နေသူများသည်လည်း ထေရဝါဒနှင့် ဆန့်ကျင်သော ဂိုဏ်းလုပ်ငန်းများ၌ လုံးဝ သက်ဝင် ယုံကြည်မှု မရှိချေ။'

## တစ်ကိုယ်တော် ဘိုးတော်

ဆရာတော် ရှင်ရာဟုလာသည် တစ်ကိုယ်တာ် ဘိုးတော်၏ အန္တရာယ်ကိုလည်း ဤသို့ သတိပေး တားဆီးတော်မူခဲ့ပါသည်။

"တစ်ခါတစ်ရံ တစ်ကိုယ်တော်သိဒ္ဓိပေါက်နေသော ဘိုးတော်ဆိုသူများလည်း ခြေရှုပ်နေတတ်၏။ ယင်းတစ်ကိုယ်တော်များသည် ဘာသာရေးယောင်ယောင်၊ နတ်ယောင်ယောင် တစ်မုဟုတ်ချင်း သူဌေးဖြစ်စေနိုင်သယောင် လှည့်စားခြင်းဖြင့် မသိနားမလည်သူများကို ဒုက္ခအိုးထဲသို့ ပို့ပေးလျက် ရှိ၏။'

## အဂ္ဂိရတ်ပညာ

အဂ္ဂိရတ်ပညာသည် ထေရဝါဒ ပိဋကတ်တွင် ပါဝင်ခြင်း ရှိ၊ မရှိကိုလည်း ဤသို့ တင်ပြခဲ့ပါသည်။ အဂ္ဂိရတ်ပညာသည် ပိဋကတ်တော်၌ မပါဝင်ချေ။ သို့ရာတွင် ယင်းအဂ္ဂိရတ်ပညာသည် မြန်မာနိုင်ငံ၌ အထူးပင် ပျံ့နှံ့လျက်ရှိကြောင်း တွေ့ရပေသည်။

'အစပထမ အင်္ဂလိပ်ဘာသာဖြင့် ဗုဒ္ဓဝါဒကို ရေးသားသူများမှာ ... '

'အစပထမ အင်္ဂရတ်ကျမ်းကို ပြုစုသူမှာ မကာရလောပအကျော် တောင်တွင်းကြီး ဆရာတော် ခင်ကြီးပျော် ဖြစ်၏။ အင်္ဂရတ်ဖြင့် ထွက်ရပ်လမ်းပေါက်သူဟု နာမည်ကြီးသော ပုဂ္ဂိုလ်မှာ ရှင်အဇ္ဇဂေါဏနှင့် ဘိုးဘိုးအောင် ဖြစ်၏။'

**ယောဂီအကျင့်**

ဂိုဏ်းဆရာကြီးများက ထွက်ရပ်ပေါက်အကျင့်ဟု အမည်ပေးထားသော ယောဂီအကျင့်ကိုလည်း ထေရဝါဒရှုထောင့်မှ ဤသို့ ရှုမြင်ခဲ့ပါသည်။

'ယောဂီအကျင့်ဟု ဆိုအပ်သော ရှေးဗြာဟ္မဏများ အကျင့်ကို မြန်မာပြည်၌ ထွက်ရပ်ပေါက်အကျင့်ဟု အမည်ပေးကာ အကယ်၍ ထွက်ရပ်လမ်း ပေါက်သွားပါက ဇော်ဂျီအဝတ်ဟု သတ်မှတ်၍ ခေါ်ကာ အင်း၊ ဝိဇ္ဇာ၊ ပြဒါးဝိဇ္ဇာဟူသော အတတ်မျိုးဖြင့် ထွက်ရပ်လမ်းပေါက်ရန် ကြိုးပမ်းနေကြလေသည်။ ဗုဒ္ဓသည် သစ္စာလေးပါး မရမီက ယောဂါဝစရဖဏီများအကျင့်၌ ခြောက်နှစ်မျှ သောင်တင်နေခဲ့ကြောင်း မိန့်ကြားခဲ့လေသည်။

ဘုရားရှင်ပင် သစ္စာလေးပါး မရမီက မှားယွင်းခဲ့မိ၍ စွန့်လွှတ်ခဲ့သော ယောဂီအကျင့်များကို သာသနာထွန်းကားပြီးချိန်တွင်မှ ကျင့်သုံးနေသူများမှာ ဗုဒ္ဓ၏ အဆုံးအမများကို ခံယူလိုက်နာသူများ မဖြစ်တန်ရာ။'

**ဓာတ်ဖွင့်**

ထေရဝါဒ ဗုဒ္ဓဘာသာဝင် စစ်စစ်သည် ရတနာသုံးတန်နှင့် ကံ-ကံ၏အကျိုးပေါ်တွင် မမိုတ်မသုန် မကျိုးမပေါက် ယုံကြည်မှု မြဲမြံသူများဖြစ်ပါသည်။ ဓာတ်ဆင် ဓာတ်ရိုက် ဓာတ်ဖွင့်လုပ်ငန်းများ၌ ယုံကြည်ကြသူများသည် ကံ-ကံ၏အကျိုးကို မယုံကြည်သူများ ဖြစ်ပါသည်။ ဓာတ်ဖွင့်နှင့် စပ်လျဉ်း၍ ဆရာတော် ရှင်ရာဟုလာက ဤသို့ ရေးသားတော်မူခဲ့ပါ၏။

'သတ္တဝါတို့သည် ကမ္မဝိပါကအလျောက် ကျင်လည်နေကြသူများသာ ဖြစ်ရာ၊ ယင်းဓာတ်ဖွင့်ပေးသော အလုပ်သည် ဗုဒ္ဓကျမ်းဂန်တို့၌လည်း မလာ၊ ဘာသာတရားနှင့်လည်း လုံးဝ ဆန့်ကျင်သည်ဟူ၍သာ မှတ်သားကြရပေလိမ့်မည်'

**စုန်း၊ နတ်၊ ဇေဒင်**

ဗုဒ္ဓသည် စုန်း၊ နတ်၊ ဇေဒင်တို့အပေါ် မည်သို့ သဘောထားခဲ့သည်ကိုလည်း အောက်ပါအတိုင်း တင်ပြခဲ့ပါသည်။

'ဗုဒ္ဓလက်ထက်က ဗုဒ္ဓကိုယ်တိုင် ယင်း စုန်း၊ နတ်၊ ဇေဒင်အတတ်စသည်များကို လက်မခံဘဲ လုံးဝ တိုက်ဖျက်သူ တစ်ဦးဖြစ်ကြောင်း ထင်ရှားသည်။ သတ္တဝါသည် မည်သူကမျှ ပြုပြင်ဖန်တီး၍ ရသည်မဟုတ်ဘဲ

မိမိကံအလျောက်သာ ကျင်လည်ရကြောင်း၊ မည်သည့်နတ်များ၊ ဗြဟ္မာများက အကျိုးသက်ရောက်အောင် မဖန်တီးနိုင်ကြောင်း' ထပ်ခါ ထပ်ခါရှင်းပြခဲ့သည်။

ဆရာတော် ရှင်ရာဟုလာသည် 'ပိဋကတ်လာ စိတ်တန်ခိုးနှင့် အကြားအမြင်' စာအုပ်ဖြင့် ထေရဝါဒ ဗုဒ္ဓဘာသာ၏ ဆူးငြောင့်ခလုတ်များ၊ ဘုရားမကြိုက်သော အယူဝါဒများ၊ မဟာယာန၊ ဗြဟ္မဏအယူအဆများကို သုတေသနပြု ဖော်ထုတ်တင်ပြရာ ဆရာတော်သည် အစွန့်ရှည် တည်တံ့မည့် ကြီးမြတ်သော ဓမ္မဒါနတစ်ခုကို ပြုခဲ့သည်ဟု ဆိုချင်ပါတော့သည်။

## သာသနာပြုနိုင်ပါစေ

(၁)

သာသနာဟူသည် အဆုံးအမဟု အဓိပ္ပာယ်ရ၏။ ဗုဒ္ဓသာသနာတော်ဟူသည် မြတ်ဗုဒ္ဓ၏ အဆုံးအမတော်များ ပြန့်ပွားအောင် ဆောင်ရွက်ခြင်းကို သာသနာပြုသည်ဟု ဆိုနိုင်ပါသည်။ သာသနာပြုလုပ်ငန်းကို အရည်အချင်းဖြင့် ဆောင်ရွက်ရသည်လည်း ရှိ၏။ ဓနဉစ္စာဖြင့် ဆောင်ရွက်ရသည်လည်း ရှိ၏။ ဘာသာရေးစာအုပ်များ ရေးသားပြုစုခြင်း၊ တရားဓမ္မဟောကြားခြင်း၊ စာချခြင်း၊ ဝိပဿနာ ရှုမှတ်နည်းများ ပြသခြင်းတို့သည် အရည်အချင်းဖြင့် သာသနာပြုခြင်းဖြစ်ပါ၏။ သာသနိက အဆောက်အအုံများ ဆောက်လုပ်လှူဒါန်းခြင်း၊ ပရိယတ္တိစာသင်တိုက်နှင့် ကမ္မဋ္ဌာန်းတိုက်များအတွက် လိုအပ်သည်တို့ကို လှူဒါန်းခြင်းသည် ဓနဉစ္စာဖြင့် သာသနာပြုခြင်း ဖြစ်၏။

အရည်အချင်း သို့မဟုတ် စွမ်းဆောင်ရည်ဖြင့် သာသနာပြုလုပ်ငန်းကို ဆောင်ရွက်ကြသူများမှာ ပရိယတ္တိ ပဋိပတ္တိ ဝန်ဆောင် သံဃာတော် အရှင်မြတ်ကြီးများနှင့် ကျမ်းပြုပညာရှင် လူပညာရှိကြီးများ ဖြစ်ကြ၏။ ငွေကြေးဓနဖြင့် သာသနာတော်ကို ထိထိရောက်ရောက် လှူဒါန်းထောက်ပံ့နိုင်သူများကား ဘုရားဒကာ၊ ကျောင်းဒကာဘွဲ့ခံ လူတတ်များပင် ဖြစ်ပါ၏။

ထိုသို့ဆိုလျှင် ပရိယတ္တိ ပဋိပတ္တိ အရာ၌ စွမ်းဆောင်ရည် မရှိသူများ၊ ဘုရား ဒကာ၊ ကျောင်းဒကာဘွဲ့ ခံနိုင်အောင် ဓနဉစ္စာ ကြွယ်ဝချမ်းသာခြင်း မရှိသူများ သူလိုငါလို အများသူငါများအနေဖြင့် သာသနာပြုလုပ်ငန်းကို ဆောင်ရွက်၍ မရနိုင်တော့ဘူးလား။

အရေးစွမ်းရည်ရှိသူက စာပေ ရေးသားခြင်းဖြင့် ဘုရားရှင်၏ သာသနာပြန့်ပွားအောင် ဆောင်ရွက်ကြ၏။ အဟောအပြောစွမ်းရည် ရှိသူက တရားဓမ္မ ဟောကြား သာသနာပြန့်ပွားအောင် ဆောင်ရွက်ကြ၏။ တရားပြစွမ်းရည် ရှိသူက ဝိပဿနာ ရှုမှတ်ပွားများနည်းများ ပြသခြင်းဖြင့် ပြန့်ပွားအောင် ဆောင်ရွက်ကြ၏။

ထိုအရေးစွမ်းရည်၊ အဟောစွမ်းရည်၊ တရားပြစွမ်းရည် မရှိသေးသူများအနေနှင့် ဘုရားရှင်၏ သာသနာတော် ပြန့်ပွားရေးကို ဆောင်ရွက်၍ မရနိုင်တော့ဘူးလား။

(၂)

သာသနာသမိုင်းကို ငဲ့စောင်းကြည့်သော် ဘုရားရှင်၏ ဓမ္မများကို ပါဠိတော်မူရင်းအတိုင်း နှုတ်တက်အာဂုံဆောင်ခဲ့ရသောခေတ်။ထိုမှသည် ပါဠိတော်မူရင်းများနှင့် အဋ္ဌကထာ၊ ဋီကာတို့ကို ပေထက်အက္ခရာ တင်သောခေတ်။

ထိုခေတ်များတွင် လူဝတ်ကြောင်များ အနေဖြင့် မြတ်ဗုဒ္ဓ၏ ဓမ္မသာသနာတော်များကို သံဃာတော် အရှင်မြတ်များ ဟောကြားတော်မူမှသာ သိရှိခွင့်ရ၏။ ပါဠိကို သင်ကြားတတ်မြောက်မှသာ ပေမူများမှ ပိဋကတ်တော်များကို လေ့လာနိုင်၏။

ယခုသော် ပိဋကတ်တော် မြန်မာပြန်ကျမ်းများ၊ ရဟန်းပညာရှိ၊ လူပညာရှိများက မြန်မာစကားဖြင့် ပြုစုသောကျမ်းများ၊ ဘာသာရေးဆောင်းပါးများ၊ ဓမ္မကဗျာများကို ကျယ်ကျယ်ပြန့်ပြန့် လေ့လာ ဖတ်ရှုခွင့်ရပေပြီ။ မြန်မာစာဖတ်တတ်လျှင် ဗုဒ္ဓဓမ္မကို လေ့လာခွင့် ရှိပေပြီ။ အသုံးလုံးမကျေသူများပင် ဓမ္မတိပ်ခွေများမှတစ်ဆင့် ဗုဒ္ဓဓမ္မကို နာကြားခွင့် ရပေပြီ။ စားဝတ်နေရေးနှင့် အိမ်ထောင်မှုဝန်ထုပ်ဝန်ပိုးများ ဖိစီးလေးလံလျက်ရှိသော လူဝတ်ကြောင်များအနေဖြင့် အရေးစွမ်းရည်၊ အဟောအပြောစွမ်းရည်၊ တရားပြစွမ်းရည်များအတွက် အားမထုတ်နိုင်စေကာမူ ဗုဒ္ဓဓမ္မတို့ကို ဖော်ပြရာ ဘာသာရေးစာအုပ်များ၊ ဓမ္မမဂ္ဂဇင်းစာစောင်များ၊ ဓမ္မတိပ်ခွေများ ပျံ့နှံ့သည်ထက် ပျံ့နှံ့အောင် ဆောင်ရွက်ပေးခြင်းအားဖြင့် တစ်နိုင် သာသနာပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ကြပါသည်။

(၃)

တစ်နေ့က ဓမ္မစင်တာ အမည်ဖြင့် ဓမ္မတိပ်ခွေနှင့် ဓမ္မစာအုပ်အငှားဆိုင် ဖွင့်လှစ်ရာသို့ ရောက်သွားသည်။ ဖွင့်လှစ်ပွဲမှာ ခမ်းခမ်းနားနား ထည်ထည်ဝါဝါ မဟုတ်ပါ။ ရင်းနှီးသူ ဓမ္မမိတ်ဆွေများကိုသာ အသိပေးသည့် အနေဖြင့် ဖိတ်ကြားခြင်း ဖြစ်၏။ အငှားဆိုင်ဟုဆိုသော်လည်း စီးပွားရေးလုပ်ငန်း မဟုတ်ပါ။ မြတ်ဗုဒ္ဓ၏ အဆုံးအမများ ပြန့်ပွားရေးအတွက် တစ်နိုင်ဓမ္မ ဖြန့်ချီရေး လုပ်ငန်းမျှသာ ဖြစ်ပါ၏။

တိပ်ခွေတစ်ခွေလျှင် တစ်ရာကျော်ကျော်ပေးရသော ကာလတွင် ဓမ္မတိပ်ခွေအတွက် တစ်ရက်ငှားရမ်းခမှာ နှစ်ကျပ်မျှသာဖြစ်ပြီး ဘာသာရေးမဂ္ဂဇင်းများ၏ ငှားရမ်းခနှုန်းမှာ တစ်ကျပ်ကျော်မျှသာ ဖြစ်၏။ ပိုင်ရှင်အနေဖြင့် အခမဲ့ ငှားရမ်းလိုသော်လည်း ရေရှည်တည်တံ့ရေးနှင့် စာအုပ်နှင့် တိပ်ခွေသစ်များ ထပ်မံဖြည့်ဆည်းရန် အခယူသင့်သည်ဟု ဝိုင်းဝန်းအကြံပေးကြသဖြင့် အလွန် နည်းပါးသော နှုန်းထားသတ်မှတ်ခြင်း ဖြစ်ပါ၏။ ဤနည်းပါးလွန်းသော နှုန်းထားကိုပင် တတ်နိုင်စွမ်း မရှိသူများကိုမူ အခမဲ့ ငှားရမ်းပေးပါသည်။

ထိုနေ့က ဗုဒ္ဓဓမ္မ ဖြန့်ချီရေးလုပ်ငန်းအတွက် ဓမ္မမိတ်ဆွေများ နွေးနွေးထွေးထွေး စိတ်ပါဝင်စားစွာ ဆွေးနွေးကြသည်မှာ ကြည်နူးစရာဖြစ်ခဲ့ပါ၏။ ထိုဖွင့်လှစ်ပွဲမှ အပြန်တွင် ထိုသို့သော ဓမ္မတိပ်ခွေနှင့် ဓမ္မစာအုပ်အငှားဆိုင်များ မြို့တိုင်း၊ ရပ်ကွက်တိုင်းတွင် တည်ထောင်ဖွင့်လှစ်နိုင်ပါစေဟူသည့် သာသနာစိတ် အရင်းခံသော သမ္မာဆန္ဒသည် အဇ္ဈတ္တသန္တာန်တွင် ထွန်းပ ဝင်းလက်လာ၏။

(၄)

မော်လျှမ်းမြို့ မြို့မဈေးကြီးအတွင်း၌လည်း အောင်တိုးမင်း ဓမ္မစာပေ အခမဲ့ အငှားဆိုင် တစ်ဆိုင် ရှိပါသည်။ဗုဒ္ဓဓမ္မ ပြန့်ပွားလိုသော စေတနာရှင်တစ်ဦးက မိမိ၏ ဈေးဆိုင်တွင် ဈေးရောင်းချရင်း လစဉ်ထုတ် မဂ္ဂဇင်းစာစောင်နှင့် စာအုပ်များကို အခမဲ့ ငှားရမ်းပေးနေခြင်း ဖြစ်၏။ လစဉ်ထုတ် ဓမ္မမဂ္ဂဇင်းစာစောင်အသစ်များကို ဝယ်ယူ ဖြည့်ဆည်းလျက်ရှိရာ မဂ္ဂဇင်းအလိုက် လှူဒါန်းလာသူများရှိသလို စာအုပ်ငှားရမ်း ဖတ်ရှုသူများက တစ်ကျပ် နှစ်ကျပ် လှူဒါန်းသွားခြင်းများလည်း ရှိ၏။ လစဉ် လိုငွေကိုမူ ဆိုင်ရှင်ကပင် စိုက်ထုတ်လှူဒါန်းရပါသည်။ ဈေးသူ

ဈေးသားများအနေဖြင့် လစဉ်ထုတ်မဂ္ဂဇင်းမျိုးစုံကို အခမဲ့ လွယ်လင့်တကူ ငှားရမ်းဖတ်ရှုခွင့် ရကြပါ၏။ ထိုသို့သော ဓမ္မစာပေ အခမဲ့ အငှားဆိုင်များ မြို့တိုင်းတွင် ပေါ်ပေါက်လာပါစေဟု ဆန္ဒမွန် ပြုမိပါ၏။

(၅)

ဘာသာရေးဆောင်းပါးများ ရေးသားနေသော ဆရာဝန်တစ်ဦးသည် ကျေးရွာတစ်ရွာသို့ လစဉ်ထုတ် မဂ္ဂဇင်းတစ်စောင်ကို အကျိုးအမြတ်မယူဘဲ ဖြန့်ချီပေးလျက် ရှိပါသည်။ စတင် ဖြန့်ချီစဉ်က ငါးစောင်မျှသာ ဖြစ်သော်လည်း တစ်နှစ်ကျော်ကာလအတွင်း ထိုရွာ၌ ဓမ္မမဂ္ဂဇင်းဖတ် ပရိသတ် ၂၀ အထိ တိုးပွားလာပါသည်။

ရန်ကုန်မှ ပို့ပေးသော စာအုပ်ထုပ်ကို ငွေကြေးစိုက်ထုတ်၍ ရွေးယူခြင်း၊ မော်တော်ဆိပ်သို့ ဆင်း၍ တင်ပို့ပေးခြင်း စသော လုပ်ငန်းတို့ကို မအားလပ်သည့်ကြားမှ စေတနာထား ဆောင်ရွက်ပေးသူတစ်ဦး ရှိသောကြောင့်သာ ကျေးရွာငယ်ကလေးအတွင်း ဓမ္မစာဖတ် ပရိသတ်ဦးရေ တိုးပွားလာခြင်း ဖြစ်၏။ များစွာ ကြည်နူးစရာ၊ သာဓုခေါ်စရာ ဖြစ်ပါ၏။

ကျေးလက်ဒေသသို့တိုင် ဓမ္မမဂ္ဂဇင်း၊ စာစောင်များ တွင်တွင်ကျယ်ကျယ် ပျံ့နှံ့လာအောင် သာသနာစိတ် ရှိသူတိုင်းက နည်းလမ်းရှာကြံဆောင်ရွက်သင့်ပါ၏။

(၆)

ကျွန်တော့်ကို ဝိပဿနာရိပ်သာတွင် တရားစခန်းဝင်ရောက်ရန် မကြာခဏ စေ့ဆော်တိုက်တွန်းသူ နှစ်ဦး ရှိပါသည်။ ကိုထွန်းထွန်းဦး (ဖေမြိုင်) နှင့် ကိုငြိမ်းချမ်း (ဆုဝေ) တို့ ဖြစ်ပါသည်။ ကိုထွန်းထွန်းက ဆရာကြီး ဦးဘခင်နှင့် ဆရာကြီးဦးဂိုအင်ကာတို့၏ ဝိပဿနာဌာနများတွင် မကြာခဏဆိုသလို တရားပတ်ဝင်သူဖြစ်၏။ ကိုငြိမ်းချမ်းကမူ မော်ကျွန်းရှိ မိုးကုတ်ဝိပဿနာရိပ်သာတွင် တရားပတ်ဝင်သူဖြစ်၏။ သူတို့လက်တွေ့ခံစားရသော ဓမ္မရသကို ကျွန်တော်အားလည်း ခံစားကြည့်စေလိုသော စေတနာကောင်းဖြင့် တိုက်တွန်းကြခြင်း ဖြစ်၏။ ဤတိုက်တွန်းမှုတွင်ပင် သာသနာစိတ်လည်း ပါ၏။ ပုဂ္ဂိုလ်ရေး သံယောဇဉ်လည်း ပါ၏။

ကိုယ်တိုင် ဝိပဿနာ ဘာဝနာရှုမှတ်ခြင်းသည် မိမိကိုယ်၌ သာသနာတည်စေသောအမှုဟု ဆိုနိုင်ပါ၏။ အခြားသူတို့အား ဝိပဿနာပွားများရန် နှိုးဆော်ခြင်း၊ တိုက်တွန်းခြင်း၊ လိုအပ်သည့် အကူအညီများ ပေးခြင်းသည် အများအတွက် (တစ်နည်းအားဖြင့်) သာသနာအတွက်ဟုလည်း ဆိုနိုင်ပါ၏။

မိမိအကျိုးနှင့် အများအကျိုးကို ဒွန်တွဲ ဆောင်ရွက်မှသာ ဗုဒ္ဓဘာသာဝင်ကောင်း တစ်ယောက်ဖြစ်ပြီး ဗုဒ္ဓသာသနာတော်မြတ်ကို (မိမိနိုင်စွမ်းသမျှ) အထောက်အပံ့ပြုသူ ဖြစ်ပေလိမ့်မည်။

(၇)

တံငါနားနီးတံငါ မုဆိုးနားနီးမုဆိုးဟု ဆိုရိုးစကားရှိပါသည်။ ပတ်ဝန်းကျင်ကို ရည်ညွှန်းသော ဆိုရိုးစကားဖြစ်သော်လည်း အမိ အဖတို့နှင့်လည်း သက်ဆိုင်ပါသည်။

မိမိကိုယ်တိုင်က မြတ်ဗုဒ္ဓ၏ မြတ်ဓမ္မများကို သိရှိနားလည်အောင် လေ့လာခြင်း၊ အလျဉ်းသင့် အခွင့်ကြုံသလို ဓမ္မစာပေ၊ ဓမ္မတိပ်ခွေများ ဖတ်ရှုနားကြားရန် နှိုးဆော်ခြင်းတို့ကို ပြုလျှင် မိသားစုဝင်များသည်လည်း မြတ်ဓမ္မနှင့် တစ်စတစ်စ ရင်းနှီးယဉ်ပါးလာပေလိမ့်မည်။

ဓမ္မစာအုပ်၊ ဓမ္မတိပ်ခွေများက မိသားစုဝင်များ၏ သန္တာန်တွင် ယဉ်ကျေးမှု၊ လိမ္မာရေးခြားရှိမှုတို့ကို ပေးစွမ်းပေလိမ့်မည်။

အိမ်တွင် သာသနာပြုလုပ်ငန်းကား အိမ်ထောင်ဦးစီးတို့၏ မပြုမနေရ တာဝန်ဖြစ်သည်ဟု ဆိုချင်ပါ၏။ မိမိ၏ ရင်သွေးများတွင် သာသနာစိတ်များ တစ်စ တစ်စ ဖွံ့စည်းဖြစ်တည်လာအောင် ပျိုးထောင်ပေးသင့်သည်။ အိမ်ထောင်ဦးစီးတိုင်းက ဤတာဝန်ကို မြတ်မြတ်နိုးနိုးထမ်းဆောင် သယ်ပိုးကြလျှင် မျိုးဆက်သစ်တို့ ကြီးပြင်းလာသည့်အခါ အနာဂတ် သာသနာတော်သည် ပိုမိုထွန်းလင်းလာပေလိမ့်မည်။

(၈)

ဉစ္စာခေန မချမ်းသာသောကြောင့် သောင်းသိန်းချီ၍ လှူဒါန်းမှု မပြုနိုင်သည့်အတွက် အားငယ်စရာမလိုပါ။ ဝမ်းနည်းစရာ မလိုပါ။ အရေး အဟောအပြော စွမ်းရည်မရှိသောကြောင့်လည်း စိတ်မကောင်း ဖြစ်စရာ မလိုပါ။ ထိုအရာများကို ဖြည့်ဆည်းနိုင်လျှင် ကောင်းပါ၏။ မွန်မြတ်ပါ၏။ သို့တစေ မဖြည့်ဆည်းနိုင်သောကြောင့် သာသနာတော်အတွက် ဘာမျှ လုပ်နိုင်စွမ်းမရှိဟု မထင်မှတ်ပါနှင့်။

သာသနာစိတ် တကယ်ရှိရန်သာ လိုပါ၏။ သာသနာတော် ထွန်းကားပြန့်ပွားလိုသော စေတနာ တကယ်ရှိရန် လိုပါ၏။ မြတ်ဗုဒ္ဓ၏ အဆုံးအမများ ပြန့်ပွားရန် ဝန်နှင့်အား၊ လေးနှင့် မြားဆိုသလို တစ်နိုင်တစ်ပိုင် ဆောင်ရွက်ခြင်းသည် မြတ်ဗုဒ္ဓအား ကျေးဇူးဆပ်ရာရောက်သည့်အပြင် လူ့ဘောင်အသိုက်အဝန်း ငြိမ်းအေးချမ်းမြေ့အောင် ဆောင်ရွက်ခြင်းလည်း ဖြစ်ပါ၏။

မိမိ၏ လူသားအဖြစ် လူသားဘဝ၊ လူသားအမိပ္ပာယ်ကို မြင့်မြတ်စွာ တန်ဖိုးရှိစွာ ဖော်ဆောင်ခြင်းလည်း မည်ပါ၏။

**မင်းနန် (မော်ကျွန်း)**

ဗုဒ္ဓပြထားတဲ့အတိုင်း
သင်ထားတဲ့အတိုင်း
ဆုံးမထားတဲ့အတိုင်း ကျင့်တဲ့ပုဂ္ဂိုလ်တွေကို
တစ်ခါတည်း အောက်တန်းမကျ
အထက်တန်းရောက်အောင်
ဘယ်သူက ခေါ်ဆောင်သွားမှာလဲ . . . ။

သီတဂူဆရာတော်ကြီး
ဒေါက်တာ အရှင်ဉာဏိဿရ

